မြင်းခြံမြို့
ကျေးဌူးရှင်စွန်းလွန်းဂူကျောင်းဆရာတော်ဘုရားကြီး
၏

# ဝေဿရုပ္ပတ္တိအကျယ်
## တရားတော်များ



တရားအားထုတ်နည်း

မြင်းခြံမြို့ ကျေးဇူးရှင် စွန်းလွန်းဂူကျောင်း
ဆရာတော်ဘုရားကြီး၏

# ထေရုပ္ပတ္တိ အကျယ်

နှင့်

အရေးတော်များ

ပိဋကတ်အကျော် ဆရာတော်ကြီးများနှင့်
ဝန်ကြီးချုပ်ဟောင်း ဦးနုတို့၏ အမေးကို
•ဖြေကြားပုံများ

## တရားအားထုတ်နည်း နိဿယည်း

•နေမိန္ဒရတောင် သိမ်သမုတ်ခန်း
ပုံတော်များ ပါဝင်သည်။

ဓမ္မဒါန

သာသနာ—၂၅၃၀။ ကောဇာ—၁၃၄၈။ ၁၉၈၆။

ဘာသာရေးဆိုင်ရာ စာမူခွင့်ပြုချက်အမှတ် (၂၉/၉၅) (၂)
မျက်နှာဖုံးပုံနှိပ်ထုတ်ဝေခွင့်ပြုချက်အမှတ် (၃၂/၉၅) (၄)

**ရိုက်နှိပ်ခြင်း**

ဒုသုမအကြိမ်
၁၉၉၅ ခုနှစ်၊ ဧပြီလ
အုပ်ရေ (၃၀၀၀)

**(စမ္ပဒါန)**

**အဖုံးရိုက်** – ကျားရောင်စုံပုံနှိပ်တိုက်

**ထုတ်ဝေသူ**

စွန်းလွန်းအရှင်ဝိနယ
စွန်းလွန်းဂူကျောင်း
(၈) မိုင်၊ ပြည်လမ်း
မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။

**ပုံနှိပ်သူ**

**ဦးခင်မောင်လတ် (၀၂၄၆၅)၊** ကျားရောင်စုံပုံနှိပ်တိုက်
အမှတ် ၁၄၃၊ ၃၁–လမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။

# မာတိကာ


| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
| --- | --- | --- |
| ၁ | ရတနတ္တယ ပဏာမနှင့် အာစရိယပဏာမ .... | ၁ |
| ၂ | နိဒါနကထာ .... | ၅ |
| ၃ | ဆရာတော်ဘုရားကြီး၏ ထက္ခဏာတော်ပုံ .... | ၇ |
| ၄ | ကျေးဇူးရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီး၏ ဇာတာခွင် .... | ၈ |
| ၅ | စွန်းလွန်း ဆရာတော်ဘုရားကြီးဘွဲ့ ရတုပိုဒ်စုံနှင့် ရှစ်လုံးဘွဲ့ကဗျာ .... | ၁၀ |
| ၆ | ကျေးဇူးရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျယ် .... | ၁၅ |
| ၇ | သာမဏေဘဝက မိတ္ထီလာ ရေလယ် ဆရာတော်ဘုရားကြီး၏အမေးများကို ဖြေကြားပုံ .... | ၄၄ |
| ၈ | မိတ္ထီလာ ရေလယ်ဆရာတော်က သိုက် ထဘောင်များ ရှုတ်ပြ မေးမြန်းသည်ကို ဖြေကြားပုံ .... | ၅၀ |
| ၉ | သာမဏေ ဘဝက ဗိဋကတ်အကျော် ညောင်လွန်ဆရာတော် (ဦးမေဓာဝီ) ၏ အမေးများကို ဖြေကြားပုံ .... | ၅၃ |
| ၁၀ | ရဟန်းဘောင် တက်ခြင်းနှင့် ရဟန်း ပြုပြီးနောက် ပဌမရှေးဦးစွာ ဟောကြားတော်မူသော ဥဒါန်းတရားတော်ကြီး .... | ၅၈ |
| ၁၁ | ဒါယိကာမကြီး ဒေါ်ငွေရီလိုက်လာ၍ ကတိထေးချက် တောင်းခြင်းနှင့် ဦးစံတင်ကပဋိပတ္တိသာသနာပြုရန် ပင့်ခြင်း .... | [illegible] |

# မာတိကာ


| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| ၁၂ | ဒေါ်ရွှေရိကမောင်ရှင်ပေါ်ချောက်တွင် ကျောင်းဆောက်ကိုးကွယ်ခြင်း .... | ၆၆ |
| ၁၃ | ၁၂၇၈-ခုနှစ်ကဆုန်လ ဝဲခုံးမြို့ အဗျားရွာတွင် ပိဋကတ်အကျော် ဖက်ပင်အိုင် ဆရာတော်ဘုရားကြီး၏ အမေးကို ဖြေပုံ .... | ၆၇ |
| ၁၄ | သထုံမြို့နေမိန္ဒရထောင်တွင် သိမ်သမုတ်ခက်း .... | ၇၁ |
| ၁၅ | ဂြုဝ်ပင်ဆရာတော် (ဦးတိက္ခ)အမေးကို ဖြေဆိုပုံ- | ၈၈ |
| ၁၆ | ၁၂၈၇-ခုနှစ် ဒုတိယအကြိမ် မိုးတောင် ရွာတွင် ဖက်ပင်အိုင် ဆရာတော် ဘုရားကြီးနှင့် ဆရာတော် ဦးပုည, ဦးဇာဂရစသော ရဟန်းတော်များအမေးကို ဖြေဆိုပုံ .... | ၉၀ |
| ၁၇ | ဆရာတော် လေးပါး၏အမေးကို ဖြေဆိုပုံ .... | ၁၀၀ |
| ၁၈ | ၁၂၉၂-ခုနှစ် ဝါဆိုလတွင် တောင်သာမြို့ (အဂ္ဂမဟာပဏ္ဍိတ) ဘွဲ့တံဆိပ်တော်ရ ဂိုဏ်းချုပ် ဆရာတော်(ဦးအဂ္ဂဝံသ)ဆရာတော် ဘုရားကြီး၏အမေးများကို ဖြေဆိုခြင်းနှင့် တရားအားထုတ်ပုံနိသျှည်း- | ၁၀၆ |
| ၀၉ | ဗွန်းလွန်း ချောက်ကျောင်း ( ယခု ဗွန်းလွန်းဂူကျောင်း) တွင် စထင် သီတင်းသုံးခြင်း .... | ၁၁၁ |
| ၂၀ | မမ္မစကြာတရားတော် .... | ၁၁၂ |
| ၂၁ | ပဋ္ဌာန်းတရားတော် .... | ၁၁၉ |
| ၂၂ | အနုသယကို မဂ်ကပယ်ပုံ၊ လောကသုံးပါး၊ ဉာဏ်သုံးပါး၊ ပရိညာသုံးပါ၊ ဝဋ်သုံးပါး၊ ဥပေယျမံ တရား ငါးပါး .... | ၁၂၃ |



## ကျေးဇူးရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီး၏
### အံ့ဘွယ်ကောင်းသောအချက်ကြီး (၄)ချက်

(၁) ၁၂၈၂–ခုနှစ်၊ ဝါဆိုလပြည့်ကျော် ၁၃ ရက် ပဌမအကြိမ် တရားထူးကိုရတော်မူသည်။

(၂) ၁၂၈၂–ခုနှစ်၊ ဝါခေါင်လပြည့်ကျော် ၁၃ ရက် ဒုတိယအကြိမ် တရားထူးကိုရတော်မူသည်။

(၃) ၁၂၈၂–ခုနှစ်၊ တော်သလင်းလပြည့်ကျော် ၁၃ ရက် တတိယအကြိမ် တရားထူးကိုရတော်မူသည်။

(၄) ၁၂၈၂–ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် ၁၃ ရက် စတုတ္ထအကြိမ် တရားထူးကိုရတော်မူသည်။

| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|


၂၃ ၁၃၁၀–ခုနှစ် ဝါခေါင်လ ပဥ္စမအကြိမ် ရန်ကုန်မြို့သို့ ကြွလာစဉ် နိုင်ငံတော် ဝန်ကြီးချုပ် ဦးနု၏ အမေးကို ဖြေဆိုခြင်း .... ၁၂၆
၂၄ သူတော်ကောင်းတရား ခုနစ်ပါး တရားတော် .... ၁၃၃
၂၅ ကံ, စိတ်, ဥတု, အာဟာရ အကြောင်းတရားလေးပါး တရားတော် .... ၁၄၀
၂၆ သေလေးပါး, ရှင်လေးပါး, တွေ့ဆက် ချိတ်ဆက် ကွင်းဆက် .... ၁၅၃
၂၇ ဆရာတော် ဦးကဝိနှင့် အနာဂါမ် ဒေါ်ငွေဘုံတို့ တွေ့ဆုံခန်း .... ၁၅၅
၂၈ တရားဂုဏ်တော် .... ၁၅၆
၂၉ စကြာတောင် တရားတော် .... ၁၅၉
၃၀ ဓမ္မဝိဟာရတရားတော် .... ၁၆၀
၃၁ ဒါယိကာမများသိကြတဲ့ အကြောင်းတရားငါးပါး ၁၆၇
၃၂ ပဋ္ဌာစာရီတရားတော်ကြီး .... ၁၆၇
၃၃ သားသမက်နှောင့်ရှက် မိထခက်, ချွေမပြုစုမိသပူ တရားတော် .... ၁၇၉
၃၄ မောင်ကြီးတုတ်တရားတော် .... ၁၉၂
၃၅ ပုတ်မ စေထနာ တရားတော် .... ၁၉၅
၃၆ ကုသိုလ်-အကုသိုလ်ခရီးစဉ် တရားတော် .... ၁၉၇
၃၇ သမထ ဝိပဿနာ တရားအားထုတ်ပုံ နိသျှည်း.... ၂၀၁
၃၈ ဇီလုံး၄က်ငယ်ဝတ္ထု .... ၂၁၀

| ဦးရေ | အကြောင်းအရာ | | စာမျက်နှာ |
|---|---|---|---|
| ၃၉ | ရန်သူမျိုးငါးပါးတရားတော် | .... | ၂၀၂ |
| ၄၀ | သံသရာ ထည့်ကြောင်းနှင့် မြိတ်ကြောင်း တရားတော် | .... | ၂၀၄ |
| ၄၁ | အိတာလျံ ဘုန်းတော်ကြီး ဦးလောကနာထ ကြွရောက်ဖူးမြော်ခြင်း | .... | ၂၀၉ |
| ၄၂ | ဦးတင်ဖေ-ဒေါ်သိန်းခင် တို့၏ အကြိမ်ကြိမ် ပင့်လျှောက်ခြင်း အားဖြင့် ၁၃၁၃-ခုနှစ် တပေါင်းလပြည့်ကျော် ၁၄–ရက်နေ့တွင် ဦးတင်ဖေ-ဒေါ်သိန်းခင်တို့ ထည့်ထောင်သော ရန်ကုန် ဘောက်ထော်ကျောင်းတိုက်တွင် သိမ်လာမှတ်တော်မူခြင်း– | | ၂၂၀ |
| ၄၃ | ကျေးရူးရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီး ပရိနိဗ္ဗာန်ပြုခြင်း | .... | ၂၂၄ |
| ၄၄ | သံသရာအေး စေတီတော်အကြောင်း၊ | .... | ၂၂၅ |
| ၄၅ | ထေရုပ္ပတ္တိရှစ်လုံးဘွဲ့ကဗျာများ | .... | ၂၂၉ |
| ၄၆ | ဦးလောကနာထ ပြောကြားချက်မှ ကောက်နုတ်ချက် | .... | ၂၃၄ |
| ၄၇ | ကျေညာချက် | .... | ၂၃၇ |


---



နမော တဿ ဘဂဝတော အရဟတော
သမ္မာ သမ္ဗုဒ္ဓဿ။

(ရတနတ္တယ ပဏာမ)
**ဗုဒ္ဓံ ဝိဘဝ ပါပေန္တံ၊**
**သမာ စာရိဿ ရက္ခကံ။**
**ဓမ္မံ သံသာရ မောတိဏ္ဏံ၊**
**ဝန္ဒေစာဟံ ဇိနောရသံ။**

ဝိဘဝပါပေန္တံ၊ သတ္တဝါတို့ကို ဘဝကင်းရာ နိဗ္ဗာန်သို့ ပို့ဆောင်တော်မူတတ်သော။ ဗုဒ္ဓံ၊ သစ္စာသိမြင် ဘုရားရှင် ကိုယ်တော်မြတ်ကိုလည်းကောင်း။ သမာစာရိဿ၊ မိမိကို ကောင်းစွာအသင့် ကျင့်ဆောင်လေ့ ရှိသော သူကို။ ရက္ခကံ၊ အပါယ်သေးပါး ဝဋ်တရားသို့ မလားမကျစေရန် စောင့်ရှောက်တတ်သော။ ဓမ္မံ၊ မဂ်လေးတန်, ဖိုလ်လေးတန်၊ နိဗ္ဗာန်, ပရိယတ် အမြတ်ထွတ်ထား ဆယ်ပါးသော တရားတော် မြတ်ကိုလည်းကောင်း။ သံသာရံ၊ အဏ္ဏဝါ မကာ ကျယ်ပြောလှသည့် ဘဝရှည်စွာ သံသရာကို။ ဩတိဏ္ဏံ၊ တဖက်ကမ်းရောက် ကူးမြောက်လေပြီး ဖြစ်တော်မူသော။ ဇိနောရသဥ္စ၊ မြတ်စွာဘုရား၏ ရင်နှစ် သားတော်

စစ် ဖြစ်တော်မူသော သံဃာတော်မြတ် အပေါင်းကိုလည်း ကောင်း။ အဟံ၊ ခန္ဓာနာမ်ရုပ် အကျွန်ုပ်သည်။ ဝန္ဒေ၊ ကြည်ညိုမြတ်နိုး လက်စုံမိုး၍ ရှိခိုးကန်တော့ပါ၏ဘုရား။

---

(အာစရိယ ပဏာမ)

အနန္တဂုဏာ သမ္ဗုဒ္ဓံ၊
မဟာထေရံ ဝိသုတာဟံ။
သာသနံ စိရဓာတာရံ၊
ဝန္ဒာမိ ဂရုသာဒရံ။

အနန္တဂုဏာသမ္ဗုဒ္ဓံ၊ အဆုံးမရှိသော အနန္တဂုဏ် အလုံးစုံနှင့် ပြည့်စုံတော်မူပေထသော။ ဝိသုတံ၊ မြန်မာအောက်ထက်၊ ဘဝဂ်မကျန်၊ နိုင်ငံတကာ၊ အဖြာဖြာ၌၊ လွန်စွာထင်ရှား ကျော်ကြားတော် မူပေထသော။ သာသနံ၊ ပဋိပတ်မှာဖြင့်၊ သိမှတ်ကြစေဘို့၊ ထိ-သိ-သတိ-ဆိုတဲ့ လက္ခဏာသုံးရပ် သာသနာမြတ်ကို။ စိရဓာတာရံ၊ ကိုယ်တော်ခန္ဓာ၊ မငဲ့ညှာဘဲ၊ မကြာမနှေး၊ ဥဿာဟဖြင့်၊ မွေသာဘင်၊ ဆင်ယင်ကျင်းပ သာသမျှ ရဟန်းရှင်လူ၊ ခပ်သိမ်းသူကို၊ ကြည်ဖြူသနား ဟောကြားမိန့်မြွက် ဆောင်ရွက်တော် မူပေထသော။ မဟာထေရံ၊ ပညတ်တရားက အတ္တကွယ်၊ ပရမတ်တရားက အနတ္တဟာယ်၊ ဖြတ်ကြကွယ် တပည့်များတို့ရဲ၊ ထိသိ-ဆို သတိ တရားကိုဖြင့် အသိ များအောင် ပွားများအားထုတ်ကြ - ဟဲ့လို့၊ ဆုံးမ ညွှန်ကြား ထေရ်ဆရာ မြတ်

ဘုရားကို။ အဟံ၊ ရုပ်,ဝေဒနာ, သညာ,သင်္ခါရ, ဝိညာဏ ဟူ ပေါင်းစုဖွဲ့စပ် သမုတ်အပ်သော တပည့်တော်သည်။ ဂရုသာဒရံ၊ အလွန်အကြူး အထူးစေတနာ ရှိသေစွာဖြင့်။ ဝန္ဒာမိ၊ သီလ သမာ ပညာ၏ဂုဏ် အလုံးစုံကို ကြည်ယုံ မြတ်နိုး ဦးထိပ်မိုး၍ ရှိခိုးကန်တော့ပါ၏ အရှင်ဘုရား။

---

# နိဒါန်းကထာ

မြင်းခြံမြို့ နဂရ စွန်းလွန်းဂူ-ရွာဂါမထွင် ဌာနတော် အမြေ တည်၍ ချက်မြှုပ်တော် ရွာရင်းမို့ လုပ်ကိုင်ရင်း စားသောက်လျက် ပဌမအရွယ်မှာ မင်းခစား အဖြစ်နှင့် ဒုတိယ အရွယ်ရောက်တော့ စားဘို့ရာ မလောက်တာနှင့် မင်းထံမှခွာ လယ်ယာမြေ လုပ်ကိုင်လျက် စီးပွားများ တိုး တက်တာနှင့် ဘုရားမှာဆိမီးလှူ ဆုမွန်များချူ၍ တဘောင် စနည်း ပေါ်တာက တကြောင်း, စီးပွားတွေ တက်တာက တဖက်မို့ ဝဲဂယက်သံသရာမှ မြန်မကြာ ထွက်ဘို့ရာ သံဝေဂ အချက်ကြီး ရတာနဲ့ တရားကို ကြိုးစားပြီးအားထုတ်ရာ ဆယ့် နှစ်ဝါလ အကြာတွင် လူ့ဘောင်ကို ရှောင်ခွာပြီး၊ မယား သားနဲ့ ပစ္စည်းမကျန် စွန့်မက်သည့် တဏှာဒဏ်ကို ထွန်းလှန် ကာ ခွာချ၍မို့ ရဟန်းမြတ် ရှင်သာမဏေအဖြစ်နှင့် တော ထွက်လေ၏။ရှင်သာမဏေအဖြစ်သို့ရောက်ပြီး သည့်နောက် ရှစ်ရက်မြောက် အကြာတွင် ဘာသဝေါကင်း သန့်မြတ် ရှင်းပြီးမို့ ရှင်ရင်းမြတ် ပရမေ စောဇိနေ၏ မသွေ အစစ် သာဝကကြီး အဖြစ်သို့ ရောက်လေသတည်း။

ထို့နောက် တဖန် ပဥ္စင်းခံ ရဟန်းပြုပြီး နှစ်ပေါင်း သုံး ဆယ့်တနှစ်တိုင်တိုင် များလှစွာဝေနေ တပည့်တွေကို နိဗ္ဗူတာ နန်းအမတ တက်ယမ်းပြ တရားအလုပ် အားထုတ်နည်း ကျင့်စဉ် ထမ်းမြတ် မဟာ ဝိပဿနာနှင့် ထေးသစ္စာကို ဒေဟာပြော ညွှန်ပြ ဆုံးမတော် မူပြီးနောက် ၁၃၁၄-ခုနှစ်

ကဆုန်လပြည့်ကျော် ၉-ရက် စနေနေ့ထက် စက်လေးနာရီ ငါးဆယ့်ငါးမိနစ်အချိန် ဓေါင်းစက်ရှိန်နေဝန်း ဂေါယာ ကျွန်းသို့ ယွန်းသည့်နှယ်၊ ဘုရား-ပစ္စေကဗုဒ္ဓါ အရိယာတို့ စံမြန်းရာ နိဗ္ဗာန်နန်းသို့ ကြွလှမ်းတော်မူခဲ့သော ကျေးဇူးရှင် စွန်းလွန်းဂူကျောင်းဆရာတော်ဘုရားကြီး၏ အတိုဆုံးသော ထက်တွေ့ ဝိပဿနာ တရားအားထုတ်နည်း နိဿယည်း အစစ် အမှန်ကို ကောင်းကျိုးလိုလား အမျိုးသားတို့ ကြိုး ပန်းတကုယ် အားထုတ်နိုင်ကြရန် ရည်သန်လျက် ကျေးဇူး ရှင် ဆရာတော်ဘုရားကြီး၏ အသက်ပါအပ်နှင်း၍ အား ထားခြင်း ခံခဲ့ရသော.... မြင်းခြံမြို့၊ စွန်းလွန်း ဂူကျောင်း တိုက်အုပ် ဆရာတော် "ဦးသောဘဏ" သည် တရားအနက် သဘောမပျက်စေဘဲ ကြည်ညိုဘွယ်ရာ ပုံတော်များနှင့်တကွ ကောင်းစွာစီစဉ်၍ ဤထေရုပ္ပတ် ကျင့်စဉ်ထမ်း ကျမ်းစာအုပ် ကို ပုံနှိပ်ဖြန့်ချီခြင်း ပြုပါသည်။

ဤထေရုပ္ပတ် ကျမ်းစာအုပ်ကို ပုံနှိပ်ဖြန့်ချီရာတွင် ကုန်ကျ စရိတ်နှုတ်၍ ကျန်သမျှ အမြတ်ငွေများကို မြင်းခြံမြို့ ဂန္ဓကုဋိ သံသရာ့ေစေတီတော်ကြီး၏ ဝေယျာဝစ္စနှင့်တကွ ကျေးဇူး ရှင် ဆရာတော်ဘုရားကြီး၏ သမထ ဝိပဿနာလုပ်ငန်းစဉ် ပြန့်ပွားရေးအတွက် အသုံးပြုလှူဒါန်းရန် သက်သက်ဖြစ်ပါ သဖြင့် ပုံနှိပ်ကူးယူခြင်းများ မပြုကြပါရန် မေတ္တာရပ်ခံပါ သည်။

---



ကျေးဇူးရှင် ဗွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီး၏
လက္ခဏာ ပုံတော်

## ကျေးရွာရှင်
## ခွန်းလွန်း ဂူကျောင်း ဆရာတော်ဘုရားကြီး ၏
### ဇာတာခွင်

| | | |
|---|---|---|
| | ၃ | ၂ လ ၁၄၆၀၈ |
| | | ၅ |
| | | |

| | |
|---|---|
| ၁၂ | |
| ၁၅ | ၉ |
| ၁၈ | ၆ |
| ၂၁ | ၃ |
| ၂၄ | ၀ |

| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ |
|---|---|---|---|---|---|---|---|
| ၁၀ | ၁၁ | ၀ | ၁၀ | ၉ | ၁၀ | ၁၀ | ၁၀ |
| ၂၂ | ၀ | ၃ | ၃ | ၉ | ၄ | ၂၈ | ၈ |
| ၉ | ၅၆ | ၂၃ | ၁၂ | ၄၆ | ၁၆ | ၄၅ | ၁၉ |

| မြင် | စင် |
|---|---|
| ၂၄ | ၂၄ |
| ၄၉ | ၃ |
| ၈ | ၇ |

ကောဇာ သက္ကရာဇ် ၁၂၃၉–ခု၊ ဒီဃ ၄၄၀၊ ရဿ တပေါင်းလဆန်း ၂–ရက်၊ တနင်းလာနေ့ နံနက် ၃–ချက် တီးကျော် ၄–ချက်မတီးမီ ၆–နာရီ ပါဒ်ပြည့် ၆–ဗိဇနာ ၄–ပြန် ၁–ခရာ ကုံလဂ်မိန်စန်း စနေတြင်း အဂ်ါနဝင်း နက္ခတ် ၂၄–လုံး တပါဒ်ထက် လဂ်စီးလျက် ထိုနာရီ၏ ဟည့်နက္ခတ် သော်ကား–ဝိသာခါနက္ခတ် မွန်းတည့်မတ်အခိုက် သန္ဓေရှင်း

ကြည်ထင်ကောင်းမြတ်သော မင်္ဂလာအချိန်တွင် ရတနာသုံးစုံ ကြာငုံအသွင် ဦးထိပ်တင်လျက် ဘုန်းပညာ ထက္ခဏာနှင့် ပြည့်စုံသော မြင်းခြံမြို့ ကျေးဇူးရှင် စွန်းလွန်းဂူကျောင်းဆရာတော်ဘုရားကြီး ဖြစ်လတ္တံ့သော အလောင်းအလျာသားကောင်း ရတနာသည် မြင်းခြံမြို့အနီး စွန်းလွန်းရွာ အဘ-ဦးသန့်၊ အမိ-ဒေါ်တုတ်တို့မှ မီးရှူးသန့်စင် ဖွားမြင်တော်မူသည်။

* ၁၃၁၄-ခုနှစ်၊ ကဆုန်လပြည့်ကျော် (၉) ရက်စနေနေ့ညနေ ၄-နာရီ ၄၅-မိနစ် အချိန်ခန့်တွင် ပရိနိဗ္ဗာန်ပြုတော်မူသည်။

---

(၁၀) ဆွန်းလွန်းဆရာတော်ဘုရားကြီး၏

ဆရာတော်ဘုရားကြီးအား ရည်မှန်း၍ မန္တလေးတက္ကသိုလ်

"ဥပစာတန်း"

ကျော်ဇင်ညွန့်

ရေးသားဆက်ကပ်သော

ဆွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီးဘွဲ့

# ရတုပိုဒ်စုံ

(ပါဒ ၅၀-စီပါဝင်သည်)

(၁) ထွန်းနေလရောင်၊ ဝင်းဝင်း ပြောင်သား၊ တန်းဆောင်ရွှန်းလက်၊ ထက်ဘဝဂ်နှင့်၊ နရက် အောက်ပြည်၊ ခြောက်ရောင်ခြည်ဖြင့်၊ အောင်စည်မွေ-မြည်ဟိန်းခ, သည့်၊ ကဿပကျော်-ဗုဒ္ဓမော်၏၊ ထံတော် ဝပ်တွား၊ ငှက်ကျေးသားသည်၊ နုတ္တွားသန့်ညက်၊ သစ်သီးခက်ကို၊ ရောရက်သဒ္ဒါ၊ ကြည်ညိုစွာဖြင့်၊ သုံးဖြာမုဋ္ဌ၊ ရှေးပုဗ္ဗနှင့်၊ ပရစေတနာ၊ လှူဘူးပါ၍၊ များစွာသာဝ-ကျင်လည်ရလျက်၊ တဝရွှေဘုံ၊ ပြည်သထုံဝယ်၊ ဗာဟုံတေဇာ-မနူတာ၏၊ သဏ္ဍာ ဘားမွဲ၊ ဖြစ်ဘူးခဲ့ကာ၊ ထံဘာရာ၌၊ လည်ကာပုံပုံ-ဖြစ်မျိုးစုံ၍၊ အဟုန်ရှေးက-ကုသလကြောင့်၊ ဒီပလက်ျာ၊ ကျွန်းမဟာ၏၊ ဗုဒ္ဓါမြတ်စွာ၊ မွေ့မမွတ္တို၊ စံခ, ဘုန်းဖြာ၊ ပြည်မြန်မာ၌၊ သာသနာကျိုး-ရွှက်သည်ပိုးရန်၊ ဘုန်းမိုး သွန်းဖွေ - မြတ်သန္ဓေဖြင့်၊ ကိန်းနေစံပျော်-ဆရာတော်ကား၊ အကျော်ဒေယျ၊ မြတ်မွန်

လှစွာ၊ ဓမ္မဓအောင်မြေ၊ ထွန်းထင်းစေသည်…ထွန်းနေရောင် ထင်းမှူး၏တည်း။

(၂) ကျွန်းမြေမြတောင်၊ဘုန်းစက်ရောင်ကား၊ မနေရောင် ဥဿြုဌ်၊ ထိန်ဆူပက်၍၊ ထွင့်မြတ်ဗေဒမိ၊ သာ:တပည့်ကား၊ ထူးဘိရိပ်မြောင်– ရွှေဂူချောင်၌–တသောင်စနဲ– အုတ်ဓအော် သဲလျက်၊ နုဆဲစဉ်ကာ – ထောင့်နှစ်ရာရှစ်၊ စွန်းနှစ်–နှစ်ခယ်၊ ထွန်းသစ် စိတ်သွင်–ထွန်တုံးငင်၍၊ မြတ်စဉ်တရား၊ အာရုံ ပွားကာ၊ တနေ့ခါ၌၊ လယ်ယာပြင်ထဲ၊ ဖဲကြီးကြဲရင်း၊ နွားတယှဉ်း၏၊ ဆန်ပြင်းရှောင်ဖယ်၊ ပြုစဉ်ဝယ်၌၊ စိတ်ဝယ် တရား၊ ပြန့်ကြွယ်ပွားကာ၊ ခိုင်းနွားကိုလွှတ်၊ ထွန်ကိုချွတ်၍၊ လွတ်ကျွတ်ထေရာ၊မြိုင်ရိပ်သာသို့၊ချီကာကြွမြန်း၊တောထွက် ခန်းတည့်၊ မြိုင်နန်းရဓဝ၊ သာမဏေကား၊ ရဟ်တွေ့သတ္တာ၊ ခုနှစ်ဝဖြင့်၊ ဆုံးစကုန်လျှော၊ အာသဝေါကင်း၊ သန့်မြတ် ရှင်း၍၊ သတင်းဘုန်းရောင်၊ ဝင်းပပြောင်သား၊ ထွန်ထောင် ကိုယ်တော်၊ဘွဲ့မည်ကျော်ကြောင့်၊ ပြည်ပေါ်ပြန့်ထိန်၊ဂုဏ်မွှေး ရှိန်ကာ၊နေမိန္ဒရ၊ တောင်တော်မြဲ၌၊ထူးစွအံ့မည်၊ သိမ်တော် တည်မေ၊ အောင်ခဲ့လေသည်…ကျွန်းမြေဘောင်တွင်း ထူးဘိ တည်း။

(၃) ရှန်းဝေပပြောင်၊ သာသနာရောင်ထည်း၊ အခေါင် တန့်တိး၊ထိန်ထိန်ငြိး၍၊ဘုန်းမီးပြောင်ဘိ၊ [ဦးကဝိ]ဟု၊လူသိ နတ်ကျော်၊ ဆရာတော်ကား၊ ပူဇော်ပြဟွာ၊ ချဉ်းကပ်ခါ ဖြင့်၊ သဏ္ဍာညွှတ်ကွေး၊ ဖူးမျှော်သေး၏၊ ထုံးရေးဓမ္မ၊ သခ်ါ ရဟု၊ ဗုဒ္ဓမြတ်စွာ၊ ဟောမိန့်မှာသို့၊ ဒုက္ခာ, အနိစ္စ၊ အနတ္တ

ဖန်၊ ယိုသုံးတန်ကား၊ မှုမှန်သောကြောင့်၊ ရန်းမမှောင့်တဲ၊ တစေထောင့်သုံးရာ၊ ဆယ်ငလေးဖြာစွ၊ "နဝကဆုန်"၊ လဆုတ်ကြို ဘည့်၊ ရိုဂ်မြိုလျှော်မွေ၊ နဂါးနေ့-ဝယ်၊ သက်ရွေ့နိဗ္ဗူ၊ ရွှေ ထူရှည်၊ နှတ်လူခပင်း၊ တပည့်ရင်းတို့၊ နေမင်းသူရိန်၊ ကွယ် ပျောက်နှိုန်သို့၊ ဦးနှိမ်ဝပ်တွား၊ သိုက်မြိုက်သားစွ၊ တရား အမွေ၊ ပြုံက်ခွဲမပျ၊ စိတ်ဖြေနှစ်ယိမ့်၊ ပြေကြွစိမ့်ငှာ၊ ဒေ သနာဘုံ၊ ဗြဟ္မာလူနတ်၊ စွဲမှတ်မကွာ၊ နိဗ္ဗူသာသို့၊ မကြာ ရောက်ကြောင်း၊ လမ်းစဉ်ကောင်းဖြင့်၊ မနှောင်းရောက်ရန်၊ မွေစစ်ချွန်ခွဲ၊ ပြည်မြန်တက်နေ၊ တောင်ကျွန်း မြေဝယ်.... ရွှန်းဝေပြောင်ဝင်း ကျူး၏တည်း။

## ရှစ်လုံးဘွဲ့ကဗျာ

၁။ ခြောက်ရောင်လျှံဝင်း-မြတ်မင်းဗုဒ္ဓေ၊
မိန့်မှာမြွက်ကြား-တရားနှုတ်ချေ၊
ယက္ခဏာရေး-မနှေးသိစေ၊
သင်္ခါရ-မှတ်ကြနတ်လူတွေ။

၂။ ဗုဒ္ဓမြတ်မင်း-ရှောင်ကွင်းမနေ၊
အနိစ္စဘဲ-မလွဲမသွေ၊
မမြဲတရား-ထင်ရှားသက်သေ၊
နိဗ္ဗာန်နန်း-ကြွမြန်းတော်မူပေ။

၃။ မြတ်ဂေါတမ-မြန်းကြွနိဗ္ဗူ၊
တရားထင်ရှား-ညွှန်ကြားမည့်သူ၊

ဖြဟ္မာသကြား-အများနတ်လူ၊
သူမြတ်ထူး-ရည်ရူးပန်ဆုယူ၊

၄။ ဆုယူပန်ခ-ပြည့်ဝ,နတ်လူ၊
ဇမ္ဗူတောင်ကျွန်း-စွန်းလွန်းရွှေဂူ၊
တရားညွှန်ယတ်-သူမြတ်တဆူ၊
[ဦးကဝိ]-တုမရှိမွန်မြတ်ဖူ။

၅။ ပါဝစန-မမွယိုထို၊
မြန်ပြည်တလွှား-ကျော်ကြားကြည်ညို၊
ပုဇော်ဆည်းကပ်-မပြတ်စဉ်လို၊
ဆရာတော်ဖျား-ထံပါးမှီကပ်ခို။

၆။ မွန်မြတ်ဓမ္မ-ချမ်းမြရိပ်မြို၊
နို့ဗ္ဗာန်ရောက်ကြောင်း-လမ်းကောင်းဖုံဖုံ၊
ယပည္ဉာ့တပန်း-ရဟန်းလူစုံ၊
ညွှန်မြွက်ကြား-အများလူနတ်ယုံ။

၇။ ဖလ်သူရိယ-တမျှရောင်သွယ်၊
တဆူခနမင်း-ရောင်ဝင်းစိန်ချယ်၊
သာသနာကြီး-ထိန်ငြီးထယ်ထယ်၊
ကမ္ဘာလုံး-နေနှုန်းရောင်လင်းဘွယ်။

၈။ ဘုရားသော်မှ-နိစ္စမတည်၊
ယင်းသည့်တရား-ထင်ရှားပြမည်၊
လူခပဲတို့-မလွဲသွေဖီ၊
ကြိရွယ်စူး-စိတ်ကူးကော်မန်းရည်။

၉။ ထောင့်သုံးရာရှေး-ဆယ့်လေးစုန်းကျန်၊
ကဆုန်မာသ-ပက္ခဆုတ်ချိန်၊
ကိုးရက် မှတ်သား-နဂါးနေ့မှန်၊
နိဗ္ဗာန်နန်း-ကြွမြန်းလျော်မွေ့စံ၊

၁၀။ ဂါရဝေန-တုပ်ကွရှိသော၊
ဟောမိန့်ချမှတ်-ပညတ်တွေတွေ၊
တပည့်ရဟန်း-ဆင်မြန်းထိပ်ဘွေ၊
အတီတ-မြန်းကြွနိဗ္ဗူမြေ။

---

# မြင်းခြံမြို့ကျေးဇူးရှင် စွန်းလွန်း ဂူကျောင်း

## ဆရာတော်ဘုရားကြီး၏

# ထေရုပ္ပတ္တိအကျယ်



[ဤထေရုပ္ပတ္တိ အကျယ်သည် မြင်းခြံမြို့ ကျေးဇူးရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီးကိုယ်တော်တိုင် ပြန်လည်ဟောကြားတော်မူခဲ့သည်ကို ကြားနာမှတ်သားရသည့်အတိုင်း ရေးသားဖော်ပြခြင်း ဖြစ်ပါသည်]။

နှစ်ပြာရှစ်နာမ်တို့ အဖန်ဖန်ပျက် အဆက်မပြတ် ဒထေစဝ် အဆုံးမဲ့ယောင် ဝဲကတော့သွင် သံသရာပြင်မှ အလျင် အမြန် ထွက်မြောက်ရန်ဆန္ဒနှင့်ဘဝပေါင်းများစွာကသံသရာ့ရိက္ခာ ထုပ်ပိုး ထိုမြဲ ဝိကာရှာမှီးခဲ့သော အမျိုးသားကြီးတယောက်သည့် ယခု ဘဒ္ဒကမ္ဘာ ကဿပဘုရားရှင် လက်ထက်တော်အခါက''ကျေးသားကြက်တူရွေး''အမျိုးဇာတ်၌ ဖြစ်ခဲ့ထေသည်။

တနေ့သောကာလ ကဿပဘုရားရှင်ကို ဖူးမြင်ခဲ့သည့် ခဏ အဟိတ်တိရိစ္ဆာန်ပင်ဖြစ်သော်လည်း ပါရမီအထုံနှင့် ကုသိုလ်ဟုန် မကင်းတဲ့အတွက်ကြောင့် ဩော်....ဤပုဂ္ဂိုလ်ကား အလွန်ထူးမြတ်တဲ့ ပုဂ္ဂိုလ်ကြီးပါကလားဟု အောက်မေ့ဆင်ခြင် ဇော စေတနာဝင်တာနှင့် ကဿပ ဘုရားရှင် ထံတော်ပါးသို့ ဝပ်တွားကာ ရှိကျိုး အတောင်နှစ်ဖက်

ထိပ်မှာယှက်မိုးလျက် ရှိနိုးပူဇော်ကာ သစ်သီးဆွမ်းလှူဒါန်း ရှာတယ်။ သစ်သီးဆွမ်း လှူဒါန်းပူဇော်ဘော့ သတ္တဝါဝေ နေယျအများကို သနားချီးမြှောက်တော်မူလိုတဲ့ မြတ်ဘုရား ဘုန်းမော်က အလှူခံတော် မူပြီးလျှင် ဤဒါန ကောင်းမှု ကြောင့် သင်လိုထားတောင့်တတဲ့ ဆုအတိုင်း ပြည့်စုံစေလို့ မိန့်ခွန်းတော် ချွေလိုက်သည်တွင် ကျေးသားကလေးမှာ ဝမ်းသာအားရ ရွှင်လန်းစွာနှင့် ဘုရားရှင် ကြွသွားတော်မူ သည်ကို မျှော်ရှုရင်း ဤအရှင်မြတ်အား တတ်စွမ်း သမျှ သစ်သီးဆွမ်းဒါနဖြင့် ဆက်ကပ်လှူဒါန်းရသည့်မှာ လွန်စွာ အဘိုးထိုက်လေစွတကားဟုမြွက်ဆိုကျူးရင့်ပြီး ရွှင်မြူးကြည် နူးလျက် ထူးမြတ်တဲ့ အဇ္ဈတ္တသန္တာန်က စေတနာဇော အလွန်သန်သည်က တကြောင်း၊ အလှူခံ ပုဂ္ဂိုလ်ကလည်း ဘုရားရှင် ဖြစ်လေတော့ ကျေးသားကလေးမှာ စုတေလို့ သေသွားတဲ့အခါ ကာမသုဂတိ ခုနစ်ဘုံတွင် သူတကာနှင့် မတူအောင် စည်းစိမ်တွေအမျိုးမျိုးကို ခံစားခဲ့ရပြီးနောက် လူ့ပြည်သို့ ရောက်ပြန်တော့လည်း တက္ကသိုလ်ပြည်ဌာနမှ အလွန်ထင်ရှား ဇိုကိစ္စက ပါမောက္ခ ဆရာကြီးတပ'ါးရယ် လို့ ဖြစ်ရပြန်တယ်။ (ဆေးဆရာကြီး ဘဝတုန်းက တွေ့ကြုံ ဆက်ဆံဘူးသူတိုင်း ငါ့ထံရောက်ကြလိမ့်မယ်။ ငါခုံးမတဲ့ အတိုင်း ငါ့တရားကို အားထုတ်နိုင်ကြလိမ့်မယ်လို့ အမိန့် ရှိတော်မူခဲ့ဘူးသည်)။ ၎င်းဘဝမှ တဖန် စုတေ၍ သံသရာ ကျင်လည်ခဲ့ပြန်သော် ဂေါတမ ဘုန်းမော်၏ သာသနာ တော်အတွင်း သုဝဏ္ဏဘူမိ သထုံပြည်ကြီးကို စိုးမိုးအုပ်ချုပ် မင်းလုပ်တော်မူခဲ့သောသာသနဒါယကာမနူဟာမင်းကြီး

၏ ဆည်းကပ်ကိုးကွယ်ရာ ဆားမဲ့ဆရာတော်ရယ်လို့ ဖြစ်ရပြန်တယ်။

ရှမ်းသဝမှာဖန် စုတေ၍ သံသရာကျင်လည်ခဲ့ပြန်ရာ.... မြန်မာပြည် အထက်ပိုင်း မြင်းခြံမြို့တောင်ထက်ျာ မဟာဂါမ စွန်းလွန်းရွာ၌ ဒါနတွင် ခမည်းတော်ဦးသန့်, မယ်တော်ဒေါ် တုတ်၏ဝမ်းမှာ ကိန်းအောင်း၍ မွေးဖွားလာပြန်တယ်။

ပဋိသန္ဓေ ယူသော အချိန်တွင် ခမည်းတော်၌ အိပ်မက် မြင်မက် သည်မှာ ထူမြတ်သော ကြန်အင် လက္ခဏာနှင့် ပြည့်စုံတဲ့ လူဘယောက်လာ၍ ခင်ဗျားတို့အိမ်မှာ နေပါရစေလိုတောင်းပန်သည်ကို ဦးသန့်က င့ါအိမ်မှာ မနေချင် ပါနှင့် ဆင်းရဲလှတယ်လို့ အတန်တန် ငြင်းပယ်၍ မရသည် နှင့် လက်ခံရကြောင်း အိပ်မက်ကောင်းကို မြင်မက်တယ်။ မယ်တော်ဒေါ်တုတ်၏ ပဋိသန္ဓေလည်း ကိုးလလွန်မြောက် ဆယ်လသို့ ရောက်တော့ စွန်းလွန်းဂူကျောင်း ဆရာတော် ဘုရားကြီး၏ အဒလာင်းအလျာ သားကောင်းရတနာကို သာသနာတော်သက္ကရာဇ် ၂၄၂၁-ခုနှစ်၊ကောဇာသက္ကရာဇ် ၁၂၃၉-ခုနှစ်တပေါင်းလဆန်း ၂-ရက် တနင်းလာနေ့နံနက် လေးချက်မတီးမီ အချိန်တွင် ထူးမြတ်သည့်ပုံသွင်နှင့် သား ကောင်းရွှေစင်ကို ဖွားမြင်လေသည်။ ကျော်စော ထင်ရှား သော နိမိတ်များကြောင့် ဦးခေါင်းဆေး မင်္ဂလာပြုသည့် အခါ၌ "မောင်ကျော်ဒင်" ဟု ကင်ပွန်းတပ်အမည်ပေးခဲ့လေ သည်။

★ ဦးသန့်-ဒေါ်တုတ်တို့တွင် မသင်း, ကိုကျော်ဒင်,ကို အောင်ခိုင် ဟူ၍ သားသမီးသုံးယောက်သာ ထွန်းကားလေသည်။

ကိုကျော်ဒင်ကို ငယ်စဉ်က မြင်းခြံမြို့ မင်းကျောင်းဆရာတော်ထံ အပ်နှံ၍ စာပေ သင်စေခဲ့သော်လည်း ဉာဏ်ထုံထိုင်းလှ၍ စာကောင်းစွာ မတတ်သည်နှင့် ၁၅-နှစ်အရွယ်တွင် ဖခင်ဦးသန့်နှင့်အတူ မြင်းခြံမြို့ အရေးပိုင်မင်းရုံးတော်၌ မင်းခစား(ဝါ)မင်းစေအဖြစ်နှင့် ဝင်ရောက် အမှုထမ်းရလေသည်။

အချိန် အရွယ် ရောက်သော အခါ တရွာ တည်းနေ မချွေရီနှင့် သင့်မြတ်၍ သားသမီးလေးယောက် ထွန်းကားခဲ့လေသည်။ သို့ရာတွင် သုံးယောက်မှာ ငယ်ရွယ်စဉ်ကပင် သေဆုံးကြလေဖြင့် ကိုရှိန်ခေါ် ကိုကံညွန့် တယောက်သာ ယခုတိုင် ရှိလေသည်။

ကိုကျော်ဒင်သည် မင်းခစား အလုပ်ဖြင့် တိုးတက်ရန် ထမ်းစမမြင်၍ အသက် ၃၀-အရွယ်တွင် အလုပ်မှနုတ်ထွက်ပြီး မိဘတို့၏ယက်ငုတ် ယာအလုပ်ဖြင့်သာ လုပ်ကိုင်နေလေသည်။ တနေ့သောအခါ သမာဓိမှော်ဓအောင်၍ ရုံဖန်ရုံခါ ကမ္ဘာစောင့် နတ်ကြီးများ ပူးကပ်သည်ဟု သမုတ်ခံရသော ဦးစံတင်နှင့် စကားပြောနေရာ… ဦးစံတင်က ရုတ်တရက် ကောက်ကာငင်ကာ….

"တလိမ် နှစ်လိမ် လိမ်လို့ရှုပ် အမယ်ဘုတ်ကဲ့ သူ့ချည်ခင်၊ ဘယ်သူငင်မှ သည်ရှုပ်ထွေး ရှင်းနိုင်ပါ့မလေး။ ချည်ခင်ကြို ချည်ခင်ကြား၊ လွန်းကလေးနဲ့သွား။ ဘုရားငုတ်တို ရောင်တော် လွှတ်ပါလို့ ပုံတော်ဝတ်တဲ့ မခွေးရယ်၊ အနားစိမ်းရောင်ခြယ်၊ အလယ်ပြာဘောင်ကွက်နဲ့ လက်ခတ်သံ ကျွန်းဖိုသား၊ သောင်းတိုက်ကကြား"

လို့ တဘောင်ကို ရွတ်ပြပြီး တလိမ် နှစ်လိမ် လိမ်လို့ရှုပ် အမယ်ဘုတ် သူ့ချည်ခင်ဟာ ရက်ကန်းစင်ကျတော့ မရှင်းဘူးထားလို့ မေးရာ.... ရှင်းတာပေါ့-လို့ ဦးကျော်ဒင်က ဖြေလိုက်တယ်။ ဒီတော့ အမယ်ဘုတ် သူ့ချည်ခင်ထက်ရှုပ်တဲ့ အဝိဇ္ဇာလို့ခေါ်တဲ့ ချည်ခင်ကြီးကို ခင်ဗျား (ဦးကျော်ဒင်) သတိတလုံးနဲ့ ရှင်းရလိမ့်မယ်၊ သတိတလုံ နဲ့ ရှင်းတဲ့အခါ စွန်းလွန်းရှာတောင်ဘက် ရက်ကန်းစက် ပေါ်လိမ့်မယ်၊ ရက်ကန်းစက် ပေါ်တဲ့အခါ ကျွန်းဖိုပင် ကုန်းမှာ ခင်ဗျား သာသနာ ပြုရလိမ့်မယ်၊ သာသနာ ပြုတဲ့အခါ ကျွန်းတိုင်နှစ်လုံး ပါလိမ့်မယ်။ ဘုရားငုတ်တို ရောင်တော်လွှတ်ပါလို့ဆိုတာ ပဋိပတ္တိသာသနာတော်ကြီး ငုပ်နေတာ ပြန်ပေါ်လာလိမ့်မယ်လို့ ဆိုလိုတယ်။ အဲဒီတော့ ဦးကျော်ဒင်က အို-တောက်တီးတောက်တဲ့တွေ ရှောက်ပြောမနေစမ်းပါနဲ့ဗျာလို့ ဆိုလိုက်တော့ ဦးစံတင်က စောင့်ကြည့်သေးတာပေါ့လို့ ပြောတယ်။

အဲဒီနှစ်မှာဘဲ ယာတကွက် ထပ်ဝယ်လိုက်တယ်။ မိုးဦးကျတော့ ဒေါ်ရွှေရီကိုပါခေါ်ပြီး ယာရှင်းသွားကြတယ်။ ယာထဲကိုရောက်တော့ ဦးကျော်ဒင်က ဒီနှစ် ဒီယာသစ်ထဲမှာ နှမ်းကြဲမယ်၊ နှမ်းငါးဆယ်(တင်း)ထွက်လျှင် ဘုရားမှာ ဆီမီးထောင်ပြည့် ပူဇော်ကြရအောင်လို့ ပြောတော့ ဒေါ်ရွှေရီက ငါးဆယ် မလုပ်ပါနဲ့ လေးဆယ်ဘဲရရ ဆီမီးပူဇော် ကြတာပေါ့လို့ ပြောဒါနဲ့ အေး-အေး…ဒါဖြင့် ကတိမပျက်တမ်းလို့ ဦးကျော်ဒင်က ပြန်ပြောပြီး ရှေးကလိုတော့ အတီးအမှုတ်တွေနဲ့ မသွားချင်ဘူး၊ ကလေးမတွေ ထက်ဝတ်လက်စား ပျောက်ရင် ဒို့တာဝန် ဖြစ်နေလိမ့်မယ်၊ ဒီတော့ဘာ ရိုးရိုးဘဲ သွားချင်တယ်လို့ ပြောတယ်။

နောက်မကြာမီ ယာသစ်ထဲမှာ နှမ်းကြဲကြတယ်၊ နှမ်းပင်ကလေးတွေ ပေါက်လာတဲ့အခါမှာ မိုးဦးခေါင်လေတော့ အပင်ကလေးတွေဟာ သေလု သေနာနဲ့ နေတာပေါ့၊ ဒါပေမဲ့ နောက်မိုးရွာတော့ အပင်ကလေးတွေ ပြန်ပြီး ထောင်လာကြတယ်၊ သူတကာ နှမ်းခင်းတွေမှာတော့ မိုးခေါင်လို့ပျက်စီးကြသော်လဲ ဦးကျော်ဒင်နှမ်းခင်းက မပျက်စီးဘဲ နှမ်းတင်းရေ လေးဆယ်တိတိ တထက်ဆွဲ့မျှအပိုအလိုမရှိ ထွက်တယ်။

ဒါနဲ့ အမိန့်ရှိထားတဲ့ အတိုင်း ဆီကြိတ်ပြီး ဘုရားကိုးပိဿာ၊ သံဃာ-ကိုးပိဿာ လှူရအောင်လို့ ဒေါ်ရွှေရီကပြောတော့ ဦးကျော်ဒင်က ဘုရား ကိုးပိဿာ ဆိုတာတော့ဟုတ်ပြီ၊ သံဃာ ကိုးပိဿာက ဘယ်နှစ်ပါးပင့်မတုံး

လို့ မေးတော့ ဒေါ်ရွှေရီက ထေးပါးပင့်မယ်၊ တပါးကို နှစ်ဝိသာစီ၊ ဝိုတ်တဲ့တပိသာကတော့ တရားပွဲအတွက်ပေါ့ လို့ပြန်ပြောတယ်။ အေး-ကောင်းပြီ၊ အဲဒီလိုဘဲ ဂျူတာ ပေါ့လို့ဆိုကာ ၁၂၇၁-ခုနှစ် သီတင်းကျွတ်လပြည့်နေ့မှာ ဆီမီးရေစက်ချ ပရိတ်တရားတော်နာပြီး ညကျတော့ ရွာ အရှေ့တောင်က စေတီတော်မှာ ဆီမီးများ ထွန်းညှိပူဇော် ကြတယ်။ ဒေါ်ရွှေရီကလဲ ကြွရောက်လာကြတဲ့ ပရိသတ်ကို ကွမ်း-ဆေး-လဘက်နဲ့ ဧည့်ခံ၍နေတယ်၊ ဦးကျော်ဒင်က တော့ စေတီတော်နားကပ်ပြီး ဆီမီးများကို ကြည့်နေရာ ဆီမီး-မီးစာ အဖျားမှ မဲလာပြီး ဆီမီးညွန့်ကလေးတွေက တလျှပ်လျှပ်နှင့် ဆီများဆူပွက်သည်ကိုမြင်ရတော့ ကြက်သီး မွေးညှင်းထကာ တကိုယ်လုံး တုန်, တုန်, သွားတယ်။ ဒီတော့ အလို-ငါ ဘာများဖြစ်ပါလိမ့်မတုံး၊ ခုနေ အခါ ငါဆုတောင်း ရရင် ရတော့မှာဘဲလို့ ယုံကြည်နေခိုက်–

"ရဟန်းဘောင် တက်လိုသောဆန္ဒ ပြင်းပြစွာ ဖြစ်ပေါ်လာသည် နှင့် ရဟန်းဖြစ်ရပါလို၏။ ရဟန်း ဖြစ်သောအခါ တရားဟော ပြောဆုံးမရပါလို၏။ သတ္တဝါတွေ ငါဟောပြ ဆုံးမမည့်အတိုင်း ငါကဲ့သို့ ကျင့်ကြံ တရားအားထုတ် နိုင်ကြပါစေသတည်း" လို့ လှိုက်လှိုက်လှဲလှဲ သဘောကျဆုတောင်းလိုက်တယ်။

အဲဒီလို ဆုတောင်းပြီးနောက် စိတ်ဘဖန် ဖြစ်ပေါ်လာ ပြန်သည်မှာ ငါသည့်စာဆိုလို့ ဏ-ကဏ်းတလုံး မျှမသိ နား မလည်၊ ရဟန်းဖြစ်ခဲ့ရင် ငါဘယ်လို တရားဟောရပါမတုံး လို့ တွေးတောပူပန်မိပြန်တယ်။ ယိုအခါတုန်းက စာကလဲ

မတော်၊ ဗဟုသုတကလဲ နဲသေးတော့....သမ္ဗာသမ္ဗောဓိဆုတို့၊ ပစ္စေကဗောဓိဆုတို့၊ အဂ္ဂမဟာသာဝကဆုတို့၊ ပကတိသာဝကဆုတို့ တောင်းဖို့ရာ နားမလည်သေးတော့ သူတကာလို ဇာခွဲမနေဘဲ ထိုးဟဲ့-ကျိုးကန်းဆိုသလို တိုတိုတုတ်တုတ်နဲ့ဆုတောင်းလိုက်တယ်။ ဆုတောင်းပြီး ဦးကျော်ဒင်သည် သူ့ဟာသူ ဆုတောင်းတဲ့အတိုင်း ရတော့မှာဘဲလို့ အလွန်ဝမ်းသာနေတယ်။

အဲဒီနှစ်မှာဘဲ ဥဏ္ဍာပစ္စည်း အထူးပင် တိုးတက်လာတာနဲ့ ဦးကျော်ဒင်က ဥဏ္ဍာပစ္စည်းတိုးတက်ရင် လူပျက်စီးတယ်။ တယ်လို့ကြားဘူးတယ်၊ စနေဂြိုဟ်ထဲရောက်ရင်လဲ သေတတ်တယ်လို့ ပြောကြတယ်၊ ငါလဲ ခုစနေဂြိုဟ်ထဲ ရောက်နေတယ်။ မြင်းခြံမှာလဲ ကပ်ရောဂါတွေ ဖြစ်နေတယ်။ ဒီကပ်ရောဂါထဲမျာ ပါသွားမလားမသိဘူး။ ခုနေမျာ ငါသေသွားရင် ကုသိုလ်ဆိုလို့ တစက်မှမရှိဘူး အကုသိုလ်ချည်းဘဲ၊ ပစ္စည်းကလဲ ဒီနှစ်မှ သိပ်တိုးကက်လေတော့ သေချင်လို့ဘဲလားလို့ တွေးတောမိပြီး သေရမှာကို အကြောက်ကြီးကြောက်လာတယ်။

အဲ့ဒီလို သေရမှာ ကြောက်နေတုန်း ဦးကျော်ဒင်သည် ၁၂၀၁-ခုနှစ် တပေါင်းလ ညတညတွင် အိပ်မက်မြင်မက်သည်မှာ....ဘုရားဆင်းတုတော်တဆူ မိမိအိမ်ရှေ့ မဏ္ဍာပ်အကွင်းသို့ ကြွလာပြီး ပြုံးတော်မူလျက် လှုပ်လှုပ် လှုပ်လှုပ်နဲ့နေတာကို ဦးကျော်ဒင်က မြင်ရတယ်။ ဒါနဲ့ ပေး-ပေး ငါကိုယ်တိုင် ဆွမ်းကပ်မယ် ပြောပြီး မရှေ့ရီထက်မှ ဆွမ်း

အုပ်ထိ ၂၅မ်းယူကပ်တဲ့အခါ....ဘုရား ဆင်းတုတော်က တယ်ရှုပ်တယ်၊ ငါယခုသာ စကားပြောမယ်၊ နောက်ကို ငါ စကား မပြောတော့ဘူးလို့ ဘုရား ဆင်းတုတော်က စကားပြောသည်ကို မြင်မက်ပြီး ထန်နိုးရာ ရင်ဝဘဝင်တွင် ဒိတ်ဒိတ် ဒိတ်ဒိတ်နှင့် ခုံလျက် ထိပ်ထန့်တုန်လှုပ်ကာ ငါ တော့ မသေတော့မှာဘဲ၊ သေချင်လို့သာ ခုလို အိပ်မက်မျိုး မက်တာဘဲလို့ ဈွေးကြောက်လာတာနဲ့ မရွှေရီကို နှိုးပြီး အိပ်မက် အကြောင်း ပြောပြရင်း ဖရောင်းတိုင် တောင်း တော့ ဒေါ်ရွှေရီက ဖရောင်းတိုင်တော့ ရှာပေးပါ့မယ်၊ အိပ်မက် အကြောင်းကိုတော့ ဘယ်သူကိုမှ မပြောပါနဲ့လို့ နှုတ်ပိတ်ပြောဆိုပြီး ဖရောင်းတိုင် ရှာပေးတာနဲ့ ဘုရားမီး ပူဇော်ရန် ထွက်သွားတယ်။

ဘုရားစေတီတော်ရောက်တော့ သူငယ်ချင်း ဦးချိုကိုင်နဲ့ တွေ့တယ်။ ဦးချိုကိုင်က မင်းဘာလာလုပ်သလဲလို့ မေးတာ နဲ့ ငါသေရမှာကြောက်လွန်းလို့ ဘုရားမီးပူဇော်ရအောင် လာတာပါကွာလို့ ပြောတော့ ဦးချိုကိုင်က ခုနှစ်သတ္တရာဇ် ကိုမေးမြန်းတွက်ချက်ကြည့်ပြီး ဒီနှစ် မင်းတို့အိမ်က မြေနှစ် ချောင်း ထွက်ကိန်းရှိတယ်လို့ ဟောလိုက်တယ်၊ ဒီတော့ ဦးကျော်ဒင်က ဟ-မပြောစမ်းနဲ့ကွ နဂိုကမှ ကြောက်ရတဲ့ အထဲ။ ဟ-ဦးကျော်ဒင်ရ ငါပြောတာ မဟုတ်ဘူး ဗေဒင် က ပြောတာကွလို့ ဦးချိုကိုင်က ပြောပြန်တယ်။ ဒီတော့ ဦးကျော်ဒင်မှာ သာ၍ပင် ကြောက်သွားတာနဲ့ သူငယ် ချင်းရယ် ငါလဲ ဘုရားဝတ်တက် ဝတ်ကပ် လိုက်စမ်းပါ

၂စေ၊ နေ့တိုင်း ခေါ်စမ်းပါလို့ ပြောနေတုံး - ဦးစံတင် ရောက်လာပြန်တာနဲ့ ဦးစံတင်ကိုလည်း ဘုရား ဝတ်တက် ဝတ်ကပ် နေ့စဉ်ခေါ်ပါရန် ထပ်မံ မှာထားပြန်တယ်။

နောက် မျှားမကြာမီ ညတည လသာသာ အချိန်တွင် ဦးကျော်ဒင်သည် ဦးစံတင်နှင့်အတူ မိမိအိမ်ရှေ့ ကြမ်းပြင် ပေါ်တွင် စကားပြောရင်း အိပ်ပျော်သွားကြရာ-"သတ္တဝါ တွေ အလွန် သနားစရာ ကောင်းတယ်၊ သတ္တန္တရကပ်, ဒုဗ္ဘိက္ခန္တရကပ်,ရောဂန္တရကပ်-ကပ်ကြီးသုံးပါး ဆိုက်နေပြီ၊ သတ္တဝါတွေ မျက်စိထယ်လမ်းမှား ချောက်ကမ္ဘားကျကုန်ပြီ၊ အလွန်သနားစရာ ကောင်းတယ်"လို့ ဦးစံတင်က ညည်း တွားလိုက်တော့ ဦးကျော်ဒင်က မျက်စိလယ် လမ်းမှား ချောက်ကမ္ဘားကျမှန်းထော့သိတယ်၊ ခုနေအခါ လမ်းမှန် တွေ့ရင် လိုက်ချင်ပါတယ်ဗျာလို့ ပြန်ပြောတယ်။ ဒီတော့ ဦးစံတင်က လမ်းမှန်လိုက်ချင်ရင် မခက်ပါဘူးဗျာ လမ်းဆုံ လမ်းမ လမ်းလေးခွ,ကနေ စောင့်ပေါ့၊ လမ်းမှန်ပြတတ်တဲ့ ပုဂ္ဂိုလ် ပေါ်လာပါလိမ့်မယ်လို့ပြန်ပြောတော့ ဦးကျော်ဒင် က ကောင်းကောင်း နားမလည်တာနဲ့ ဦးစံတင်ကို ထပ်မံ မေးမြန်းတယ်၊ ဘာမှပြန်မပြောတာနဲ့ လှုပ်နှိုးပြီးမေးတော့ ဦးစံတင်က ကျုပ်ဘာပြောလို့တုံး ဆိုတာနဲ့ ဦးကျော်ဒင်က ခင်ဗျားခုနက ပြောသေးတယ်လို့ ပြန်ပြောလိုက်တော့ ဦးစံ တင်က မကြောက်ပါနဲ့ဗျာ၊ ဘုရားရတနာ, တရားရတနာ, သံဃာရတနာ ရတနာသုံးပါး ရှိသားကဘဲလို့ အားပေး စကား ပြန်ပြောတယ်။



မိဌ္ဌာန်အတိုင်း… မဆိုင်း လျှင်စွာ၊ ဆီမီးလှူဒါန်း … ရွှင်လန်းကြည်သာ။
ပရိတ်တရား…နာကြားပြီးခါ၊ ဖဲတီပါး…ဝပ်တွား ဆုတောင်းရှာ။



အိပ်မက်မြင်လတ်….မဏ္ဍပ်ဆင်ယင်၊ ဆင်းတုရုပ်ပွား….ပင့်ထားဖူးမြင်။
ဦးဘစံအား….မေးငြားပြီးလျှင်၊ ထွက်ဝင်သက်….ရှုလျက်အားထုတ်စဉ်။

ဒါပေမဲ့ ဦးကျော်ဒင်ဟာ သေရမှာကို အကြောက်ကြီး ကြောက်နေတော့ အင်း….ငါတော့ဥပါဒါန်ကြောင့် ဥပဒ် ဖြစ်တော့မှာဘဲ ငါ့စိတ်ကိုတော့ ဆေးကုအုံးမှဘဲလို့ သူ့ ဟာသူစဉ်းစားပြီး ဦးစံတင်–ကျုပ်တော့ ဥပါဒါန်ကြောင့် ဥပဒ်ဖြစ်တော့မယ်။ ကျုပ်စိတ်ကိုဆေးကုချင်တယ်၊ ဘယ်လို ကုမလဲဆိုရင် ကျုပ်အိပ်မက်ဘလို–ကျုပ်အိမ်ရှေ့မှာ မဏ္ဍပ် ထိုး ဘုရားပင့်ပြီး ဝတ်တက် ဝတ်ဘပ် ပြုရရင် ကျုပ်စိတ် ချမ်းသာမှာဘဲလို့ ပြောလိုက်တော့၊ ဦးစံတင်က ခင်ဗျား သဘောရှိသလို ဆေးကုချင်လဲ ကုပါလေဆိုတာနဲ့ နက်ဖြန် မနက် စောစော လာစမ်းပါဗျာ ဝါးရှာပြီး မဏ္ဍပ်ထိုးရ အောင်လို့ မှာလိုက်တယ်။

နောက်တနေ့ ညကျတော့ ရပ်ရွာက လူကြီးတွေ လာ ရောက်ကြပြီး–စိတ်က ဘယ်လို စေတသိက်က ဘယ်လိုနှင့် ငြင်းကြခုံကြနဲ့ ဆူနေတာပေါ့၊ ကြွရောက်ကြတဲ့ ပရိသတ် တွေကို ဒေါ်ရွှေရီက ကွမ်းဆေး လဘက်နှင့် ညွှေ့ခံတယ်။ ပဌမ ၁–ရက် ၂–ရက်တွင် စွန်းလွန်းရွာမှ လူများလာရောက် ကြ၍ သုရားစကား တရားစကား ပြောဆိုကြသော်လဲ ဦး ကျော်ဒင်၏ စိတ်တုန်လှုပ် ချောက်ချားခြင်း ဘာမျှမဖြစ် ချေ။ သုံးရက်မြောက်တဲ့ညမှာ စတီးဘရားသားစက်ထဲက စာရေးကြီး ဦးဘစံသည် မပင့်မဘိတ်ဘဲနှင့် ရောက်လာပြီး လယ်တီဆရာတော် ဘုရားကြီး၏ ဝိဘဿနာ–အာနာပါန အကြောင်းကိုပြောပြတယ်။ အာနာပါနလို့ကြားလိုက်ရရင် ဘဲ ဦးကျော်ဒင်မှာ ကြက်သီးတွေတဖျန်းဖျန်းနှင့် ဖြစ်လာ

တော့၊ငါ-ဘာများဖြစ်နေပါလိမ့်မလဲ၊ ဒီတရားကို ငါအား ထုတ်ရင် ရတော့မှာဘဲ၊ သူ့ကိုလဲ ငါပင့်ဘိတ်တာ မဟုတ် ဘူး၊ သူ့ဟာသူလာတယ်၊ ငါ့ဘိုများ လာတော့တာလား၊ ငါ့ အိမ်ခေတ်ဘဲကအတိုင်း လမ်းဆုံလမ်းမ, လမ်းလေးခွက မနှောင်းဘိုးပြီး စောင့်တာလဲမှန်ပြီ၊ တရားအလုပ် လာပြော တာလဲ ငါပင့်ဘိတ်ဘဲနှင့် လာပြောတာ၊ ဒီတရားတော့ ငါ့အားယူရင် ရတော့မှာဘဲလို့ စဉ်းစားပြီး ဝမ်းသာ နေတုန်း နောက်-စိတ်တဖန် ဖြစ်သည်မှာ အင်း, ငါ့မှာ စာဆိုလို့ က-ကြီး တလုံးမျှမတတ်ဘူး။ သူတို့တရားအလုပ် က စာတတ်မှ ဖြစ်မယ်ဆိုရင် အခက်ဘဲလို့ တွေးတောမိ ပြန်တယ်။ ဒါနဲ့ဘဲ စိတ်စနောင့်စနင်း ဖြစ်ကာ ကိုင်းလေ မတတ်နိုင်ပါဘူး၊ နောက်သူလာမှ မေးရတော့မှာဘဲလေလို့ စောင့်နေတာပေါ့။ နောက်ည စာရေးကြီး ဦးဘစံ လာ တော့ မဏ္ဍပ် အဝင်ဝနားကစောင့်ပြီး စာရေးကြီး-စာရေး ကြီးခင်ဗျား ခင်ဗျားတို့ တရားအလုပ်ဟာ စာမတတ်ရင် ဖြစ်ပါ့မလားလို့ ဦးကျော်ဒင်က မေးလိုက်တော့ ဦးဘစံက အို....စာတတ်တာ-မတတ်တာလိုရင်းမဟုတ်ပါဘူး၊ သဒ္ဓါ နဲ့ ဝီရိယသာ လိုရင်းပါလို့ဖြေတာနဲ့ ဦးကျော်ဒင်က ဆက် ပြီး၊ ဒါဖြင့် ဘယ်လို လုပ်ရမတုံးဗျာလို့ ထပ်မေးတော့၊ ထွက်သက် ဝင်သက် အာနာပါနပေါ့လို့ ဦးဘစံက ဖြေ ဆိုပြီး မဏ္ဍပ်ထဲ ဝင်သွားတယ်။

မှတ်ချက် ...ဦးကျော်ဒင်၏ အိမ်သည် စွန်းလွန်းရွာအတွင်း လမ်းဆုံလမ်းမ လမ်းလေးခွဒေါင့်တွင် ရှိသည်။

ဦးကျော်ဒင်လဲ ဝမ်းသာ အားရသည်နှင့် စာရေးကြီး နောက်ကို မလိုက်တော့ဘဲ အိမ်သေးဂျ အဖိုထဲဝင်ပြီး ဂုံနီ အိတ် ပက်ထက်ကုလားထိုင်ပေါ်ထိုင်ကာ ဟင်း-ဝင်တယ်၊ ဟင်း-ထွက်တယ်ဆိုကာ ရှုရှိုက်နေရင်း နောက်တော့ ထွက် ဝင်-ထွက်ဝင်နဲ့ အာနာပါန ကမ္မဋ္ဌာန်းအလုပ်ကို ဇွဲသန် သန် ရှုရှိုက်၍ အားထုတ်တယ်၊ ဦးကျော်ဒင်သည် ငါအား ထုတ်ရင် မုချ တရားရတော့မှာဘဲလို့ ယုံကြည်ပြီး အလွန် ထက်မြက်လှတဲ့ သဒ္ဓါဝီရိယနဲ့ အားထုတ်နေခဲ့ရာ တနေ့ တော့ ဦးရွှေလုပ်ရောက်လာပြီး အသိ လိုက်ရသေးတယ် လို့ပြောတာနဲ့ ဦးကျော်ဒင်က ဘယ်လို အသိလိုက်ရမှာ တုံးလို့ မေးတော့ သိ, သိ, သိ, ပေါ့ကွာလို့ ပြောတယ်၊ အသိလိုက်တော့ ဘာဖြစ်မတုံးလို့ ဦးကျော်ဒင်က မေးပြန် တော့ ဦးရွှေလုပ်က ကုသိုလ်ရတာပေါ့ကွာလို့ ပြန်ပြော တယ်၊ ဒီတော့ ဦးကျော်ဒင်က ကုသိုလ်ရရင် လုပ်မယ်ကွာ လို့ ပြန်ပြောတယ်။

ဒါနဲ့ ကိုကျော်ဒင်က ပြောင်းရိုး စင်းရင်း အသိလိုက် နေတော့ ကုသိုလ်လဲရ ပြောင်းရိုးစင်းလဲ များများရတာ ပေါ့။ ဒီတော့-အင်း....တယ်နေရာကျပါကလား ဆိုပြီး နှင်းခုတ်တာပေါ့၊ နောက်တော့ ဗျောက်ကနဲ-ဗျောက်ကနဲ ပြောင်းရိုးပြတ်သံနဲ့ သတိနဲ့ တချက်တည်း ကျ-ကျသွားတာ ကို သဘောကျတာနဲ့ အကုန်မြင်တာပေါ့။ ရှုပြန်လဲ နှာသီး ဖျားမှာ လေတိုးထိတော့ သိတယ်၊ သိတဲ့အပေါ်မှာ သတိ ထားပြီး ရှုပြန်တယ်၊ လမ်းသွားပြန်လဲ ခြေကြီးနဲ့ ခြေဖဝါး

ထိတော့ သိတယ် သိတဲ့အပေါ်မှာ သတိထားပြီး သွားတယ်၊ နောက်တော့ပေါင်းထိုးရင်လဲသတိနဲ့ထိုး၊ ပေါက်တူးပေါက်ရင်လဲ သတိနဲ့ပေါက်၊ ရေခပ်ရင်လဲ သတိနဲ့ခပ်ပြီး သတိ နေလိုက်တယ်။

ဦးကျော်ဒင်သည် နေ့-ညမပြတ် အချိန်ရတိုင်း အိမ်မှာ သော်ရှင်း၊ ယာခင်းထဲမှာ သော်ရှင်း၊ တရားအားထုတ်တဲ့ အပြင် မောင်ရင် ပေါ်ချောက် တောထဲမှာလဲ ညဥ့်အိပ် ညနေ သဒ္ဓါ၊ ဝိရိယ ထက်သန်စွာဖြင့် ကြိုးပမ်း တကုတ် အားထုတ်ခဲ့ရာ သမာဓိအားကောင်းလာပြီး အညို၊အပြာ၊ အနီ၊ အရွှေ၊ အဖြူ၊ အမောင်း၊ စတဲ့ အသင်းရောင်တွေ ပေါ်လာတာပေါ့၊ ဒီတော့မှ ငါ-ဒီတရားအားထုတ်လို့ မြတ်စွာဘုရား ရောင်ခြည်တော်ကို ဖူးရတယ်လို့ ဝမ်းသာ အားရနဲ့ ကြိုးစားအားထုတ်တာပေါ့။ နောက် မကြာခင် ဘဲ အလုံးကလေးတခုဟာ မျက်နှာ အနားမှာ ချာလယ် ချာလယ်နဲ့ လယ်နေတာကို မြင်ရတယ်။ ဒီတော့ ဘာများ ပါလိမ့်မတုံးလို့ အာရုံစိုက် လိုက်တာနဲ့ အလုံးကလေးဟာ အပေါ်ကို တက်, တက် သွားတယ်။ ဒါနဲ့-တက်ပါယ်-တက်ပါယ်ဆိုပြီး လိုက်, လိုက်တာ တဖြေးဖြေး တိမ်ပေါ် ရောက်သွားတယ်။

ဒီတော့မှ အောင်မယ် ငါတယ်နေရာကြပါကလား တိမ်ပေါ်တောင် ရောက်နေပေါ့ဘဲ ဆိုပြီး ဝမ်းသာတာပေါ့၊ နောက်တနေ့ ဆက်လက် တရားအားထုတ်ပြန်ရာ ပိုးစုန်းဖြူ လောက်ရှိတဲ့အလုံးကလေးဟာ ရွှေမှ တဖျပ်ဖျပ်နဲ့ အရောင်

တွေ ထွက်နေတာကို မြင်ရပြန်တယ်။ ဒါနဲ့ ကြည့်လိုက်တော့ အလုံးကလေးဟာ အပေါ်ကို တက် တက်သွားပြန်တယ်၊ ဒါနဲ့ တက်ဟာ-တက်တာနဲ့ လိုက်ပြန်တော့ အထက်ရောက်သွားပြီး ဘုံဆောင် ပြာသာဒ်တွေ အဆင့်ဆင့် မြင်ရတွေ့ရတယ်၊ ဒီတော့ ဒီနေရာတွေဟာ ငါ့နေရာတွေနဲ့ တူတယ်။ ငါသေရင် ဒီနေရာတွေကို ရောက်မှာဘဲလို့ အောက်မေ့ပြီး ပြန်လာခဲ့တယ်၊ အဲဒီတော့ မကြောက်ဘူး အားတက်ပြီး ဝမ်းသာနေတာပေါ့။

အဲဒီလိုချည်း တရားအားထုတ်ပါ များလာတော့ ခန္ဓာကိုယ်ပေါ်မှာ ဝေဒနာတွေ ပေါ်လာတယ်၊ ဝေဒနာပေါ်လာတော့ ဝေဒနာတွေပေါ်ပြန်ပြီး သတိကပ်လိုက်တယ်။ အဲဒီအခါမှာ သမာဓိကလဲကောင်း အလုပ်ကလဲ စည်းမိပြီး (သိ-ဖြဲ-သတ်တို့ တပြိုင်နက် ကျသည်ကို ဆိုလိုသည်)။ မပြတ်မလပ် ကြိုးစားအားထုတ်ပါ များလာတော့ စကားပြောရင်လဲ သဘာဝကိုဘဲပြောနေတော့တယ်။ အရပ်ထဲကလူတွေနဲ့ စကားပြောမတည့်တော့ဘူး၊ ဒီတော့ အရပ်ထဲကလူတွေက ဒီအကောင်တော့ ရူးပြီ-ရူးပြီနဲ့ ပြောကြတာပေါ့၊ ဒီတော့ ဦးကျော်ဒင်က ရူးတာ ကောင်းသယ်၊ ခေါ်သူပြောသူလဲမရှိဘူး၊ စကားလဲ မပြောရဘူး၊ နေရာကျလိုက်တာဆိုပြီး တရား အလုပ်လိုချည်း နေ့မအား ညမအားအားထုတ်တာပေါ့။

အဲဒီလို တရားအားထုတ်ပါ များလာတော့ သတ္တဝါတွေ အာရုံနောက်ကို တကောက်ကောက် လိုက်နေတာကို

တွေ့ရတယ်။ ဒါနဲ့ ကြောက်ထန့်တုန်လှုပ်ပြီး ရွာကလူတွေနဲ့လဲ ပြောပြောနဲ့လာတယ်၊ အချိုကို ပြော့ပြန်လဲ ဟော့-မင်းတို့-ဘုရား, တရား, သံဃာဖက်ကြ၊ မင်းတို့သေတော့မယ်၊ ၃-ရက်ကြာသေမယ်၊ ၅ ရက်ကြာသေမယ်၊ ၇-ရက်ကြာသေမယ်လို့ သတိပေးတယ်။ သတိပေးခံရတဲ့ လူတွေလဲ ဦးကျော်ဒင် ပြောသလိုဘဲ သေသေ ကုန်ကြတယ်။ ဦးကျော်ဒင်က ငါတော့ လူတွေမိုက်ထဲဘ အသဲနှလုံးကစပြီး ကိုယ်အင်္ဂါအစိတ်အပိုင်းတွေပါ မြင်ရတယ်။အောက်ကြည့်ရင်လဲ ခွေးလေတောင်ပုပ်မှာ လောက်တွေ ခေါင်းချင်းစီပြီး တိုးခွေ့နေသလို ငရဲသူ-ငရဲသားတွေကို မြင်ရတယ်လို့ပြောတော့ ရွာသူရွာသားတွေမှာ တအံ့တသြ ဖြစ်ကြတယ်။ အဲဒီလို ဦးကျော်ဒင်ပြောတာတွေ မှန်မှန်နေတော့ ကျွဲပျောက် နွားမပျောက်ကစပြီး ဓာတ်စာနဲ့ ဆေးဝါးတို့တောင် လာလာမေးကြတယ်။ နောက်တော့ ဦးကျော်ဒင်က မဖြစ်ချေဘူး ကြာရင် ပျောက်စေဆရာကြီးဖြစ်နေတော့မယ်ဆိုပြီး လူနဲ့ဝေးဝေး မောင်ရင်ပေါ်ချောက် တောထဲကိုသွားပြီး အားထုတ်နေထိုင်တယ်။ (လောကီဟာ အင်မတန်ကောင်းတာ၊ ငါ-ကံကောင်း ထောက်မလို့ ဟိုဘက်ကူးနိုင်တာဟု မိန့်တော်မူခဲ့ဘူးသည်။)

အဲဒီလိုချည်း ထိ-သိ-သတိနဲ့ မပြတ်ရှုရှိက် အားထုတ်ပါများလာတော့ ခန္ဓာကိုယ်ပေါ်မှာ ဝေဒနာတွေ ပေါ်လာတယ်၊ အဲဒီပေါ်လာတဲ့ ဝေဒနာပေါ်မှာ သတိကပ်ပြီး လိုက်ပါများလာတော့ မိမိခန္ဓာကိုယ်ဟို မှန်ထဲမှာ မြင်ရ

သလို ဥဒယဗ္ဗယဉာဏ် အမြင်သန်လာပြီး အရူအသဲနှလုံး စသည်တို့ကို ရင်ခွဲပြသကဲ့သို့ သေချာစွာ မြင်ရတော့တယ်။

(ခန္ဓာကိုယ်၏ ဖြစ်ခြင်း ပျက်ခြင်းဟာ အစိုသော်၎င်း, အခြောက်သော်၎င်း အမျိုးမျိုးဖြစ်တတ်ကြတယ်။ နောက် ဆက်လက်၍ သဒ္ဒါဝီရိယ ဇွဲသန်သန်နဲ့ နေ့ညမပြတ် တရား အားထုတ် သွားပြန်ပါက စိတ်–စေတသိက်–ရုပ်တို့၏ ဖြစ် ပျက်ခြင်းကို ပိုင်းပိုင်းခြားခြား မြင်ရလိမ့်မယ်။ ဥဒယဗ္ဗယ ဉာဏ်ကျရာမှာ အကြမ်းစား,အလတ်စား,အနုစား သုံးမျိုး ရှိတယ်၊ ကိုယ်တိုင်ကြုံစား အားထုတ်ပါမှလဲ သိနိုင်လိမ့် မယ်ဟု ဆရာတော်ဘုရားကြီးက မိန့်တော်မူခဲ့သည်)။

အမှာ ••• ဒီထက်ပို၍ ကြိုတင်သိထားရန် မသင့်လျော်သဖြင့် ၂ရေးလိုက်ပြီ။

(၁) အဲဒီလို မြင်ပြီးနောက် ၁၂၈၂–နှစ် ဝါဆို လပြည့်ကျော် ၁၃–ရက် ကြာသပတေးနေ့ည ၁၆–နာရီ အချိန်လောက်တွင် ပဌမအကြိမ် တရားထူးကို ရတော် မူသည်။

နောက် ဆက်ပြီး တရားအားထုတ်ပြန်ရာ ဒေါ်ရွှေရီက အိမ်အလုပ် ပျက်တယ်ဆိုကာ ဦးကျော်ဒင် အားထုတ်နေ တုန်းရှူဆောင့်ပြီး ခုတင်ပေါ်က တွန်းချ ကြမ်းပြားတွေကို တချောင်းစီ တချောင်းစီ အကုန်ဆွဲနုတ်တယ်၊ နောက်ဆုံး ကြမ်းတချောင်းမှ မကျန်ပေမဲ့လဲ ဦးကျော်ဒင်က မလှုပ် မရှက် ဆင့်ပေါ်တွင် ပေပြီး အားထုတ်မြဲ အားထုတ်နေ တယ်။ ဒါနဲ့ ဒေါ်ရွှေရိက ကြမ်းတွေ ပြန်ခင်းပေးတော့

ဦးကျော်ဒင်က မင်း–ဘာဖြစ်လို့ နှောင့်ယှက် ရတာတုံးလို့ မေးတော့ ဒေါ်ရွှေရီက ထ ရိုက်အောင် လုပ်တာလို့ ပြန်ပြောသယ်။ ဦးကျော်ဒင်က မယ်မင်းကြီးမရယ် မရိုက်ပါဘူးကွယ် ကြိုးစားပြီး တရားဟောတော် မူပါလို့ ပြန်ပြောလိုက်တယ်။ ဒီတော့ဒေါ်ရွှေရီက ဘာမှအသုံးမကျဘူး တေမိလိုဘဲ ဒါလောက်တောင် တရားအားထုတ်ချင်ရင် ကျောင်းသွားပြီးဘုန်းကြီးလုပ်နေပါလား စသည်ဖြင့် နေ့စဉ်လိုလို မြည်တွန် တောက်တီး ပြောဆို နေသော်လဲ ဦးကျော်ဒင်မှာ ကိုယ့်အားက မပြည့်စုံသေးတော့ ဥပက ရဟန်းကြီးလို သည်းခံပြီး နေရသေးတာပေါ့။

နောက်တကြိမ် ဦးကျော်ဒင် တရား အားထုတ်နေစဉ် ဒေါ်ရွှေရီက ချည်တိုင်က နွားမကို ကြိုးဖြေလွှတ်လိုက်ပြီ နွားလွှတ်သွားပြီ၊ လိုက်ပါဦး–လိုက်ပါဦးနှင့် အတင်း နွားနောက် လိုက်ခိုင်းတယ်။ အဲ့ဒီနွားမယာ တွေ့တဲ့ လူတိုင်း ဓွှတတ်၍ အင်မတန် ဆိုးသော်လည်း ဘယ်သူ့မှ မဓွှတဲ့ ရပ်နေတယ်။ အဲဒါနဲ့ အားမရသေးတာနဲ့ ဒေါ်ရွှေရီက ကြိမ်းပြင်ဆောင့်နင်း ဆူပူကြိမ်းမောင်းပြီး အမျိုးမျိုးနှောင့်ယှက်လဲ ဦးကျော်ဒင်ကဖြင့် ဘာမှမဖြို၊ မလျော့တမ်း လုံ့လနှင့် အမှတ်မထားဘဲ ကိုယ့်တရားသာ ကိုယ်ကြိုစား အားထုတ်မြဲ အားထုတ်နေတယ်။

အဲ့ဒီလို အားထုတ်ရင်း ဝေဒနာပေါ်မှာ သတိ လိုက်ပါ များလာတော့ တစထက်တစ သည်းခံ နိုင်လာတယ်။ သူတကာကနှင့်အမေ–နှင့်နှမနဲ့ ဆဲ

လိုက်ရင် မကြိုက်တဲ့စိတ် ဖြစ်လာတယ်၊ ဒီတော့ သတိက ဒေါသ ပါကလားလို့ အောက်မေ့ပြီး ပြန်သိမ်းလိုက်တယ်၊ ဒီတော့ ငါတော်တော် တော်လာပြီ၊ ရှေးက ဆိုရင် ပါးဆွဲချလိုက်မှာ ခုတော့ ငါသည်းခံနိုင်လာပြီ ဆိုကာ ဝမ်းမြောက်လာတယ်၊ ရုပါရုံကလေး မြင်လိုက်ပြန်တော့ သာယာမှု ဖြစ်လာတယ်၊ သာယာတာက လောဘ၊ မျက်စိကမြင်ရုံတင်မြင်တာ ရုပါရုံက သညာ၊ နှင်နဲ့ ဘာဆိုင် သတုံး၊ နောက်တော့ ကြားတာနဲ့ သညာနဲ့ဖြတ်။ ထိတာနဲ့ သညာနဲ့ဖြတ်။ နံတာနဲ့ သညာနဲ့ဖြတ်။ ဤကဲ့သို့ ဖြတ်ဖြတ်သွားတော့ အစတော် သဘောပေါက်လာတယ်။

ဦးကျော်ဒင်သည် ညတည သတိကပ်ပြီး အိပ်ပျော်သွားစဉ် အိပ်မက်ထဲမှာ ဘုတာရုံတခု ရောက်သွား၍ လက်မှတ်သွားယူတာ မိမိက တခုသာယူတာ၊ လက်မှတ် ပေးသူက လေးခု ပေးလိုက်တာနဲ့ လက်မှတ် လေးခုစလုံးဘဲ အိတ်ထဲထည့်ပြီး ရထားလဲထွက်ခါနီးလေတော့ ရထားပေါ်တက်ပါသွားရာမှ လန့်နိုးသွားတယ်၊ နောက် များမကြာမီ အိပ်မက် မက်ပြန်သည်မှာ-ယာထဲရောက်တုန်း နွားတကောင်ပြေးလာတာကို လိုက်ဆွဲတာ အမြီးကို ဆွဲမိသဖြင့် အမြီးရင်းက ပြုတ်ပါလာပြီးလန့်နိုးသွားပြန်တယ်၊ ဒါနဲ့ဦးကျော်ဒင်သည် အတိတ်ကောက်ပြီး သာသနာ နောက်ပိုင်းမှာ အပြုတ်ဟာလို့ ကြိမ်းဝါးလျက် ဆက်လက်အားထုတ်ရာ····

(၂) ၁၂၈၂ ခုနှစ် ဝါခေါင် လပြည့်ကျော် ၁၃-ရက် စနေနေ့ည ၁၀-နာရီ အချိန်လောက်တွင် ဒုတိယအကြိမ် တရားထူးကို ရတော်မူပြန်လေသည်။

(ဒုတိယအကြိမ် တရားထူးရရာတွင် ထကြိမ်ရပြီးဖြစ်၍ သွားထမ်း လာလမ်း သိပြီးဖြစ်သဖြင့် အတွင်းဝေဒနာ တက်ခြင်း မှု လောက်သာ ထူးခြားသည်ဟု မိန့်တော်မူလေသည်)။

တရားထူးနှစ်ကြိမ်ရပြီးနောက် ဦးကျော်ဒင် စကားပြောကြီးကျယ်လာ၍ သဘာဝကို ကောင်းကောင်းကြီး ဝေဘန်နိုင်လာတယ်၊ ရပ်ရွာ ထဲကလူတယောက် နေမကောင်းဘူး ဆိုတဲ့အကြောင်း ဦးကျော်ဒင်ကို သွားပြောပြန်လဲ အို-သေမှာပါဗျာလို့ ပြောလိုက်ရင် အဟုတ်သေတာဘဲ၊ မသေဘူး လို့ပြောလိုက်ရင် မသေဘူး၊ ဒီလိုချည်းသူပြောတိုင်း မှန်မှန် နေတော့ ဦးကျော်ဒင်ကို စကား မပြောရဲ ကြတော့ဘူး၊ ဦးကျော်ဒင်ကလဲ ဘယ်သူ့မှဂရုမစိုက် မိမိတရားအလုပ်ကိုသာ ကြိုးစားပြီး မလျှော့တမ်း ဇွဲသန်သန်နဲ့ အားထုတ်နေခဲ့ရာ....

(၃) ၁၂၈၂-ခုနှစ် တော်သလင်း လပြည့်ကျော် ၁၃-ရက် တနင်းလာနေ့ည ၁၀-နာရီ အချိန်လောက်တွင်း တကိုယ်လုံး ရှိသမျှ အကြောအခြင်တွေ ပြတ်သွားမတတ် အလွန်ပြင်းပြလှတဲ့ ဝေဒနာကိုသည်းခံပြီးနောက်၊ တတိယအကြိမ် တရားထူးကို ရတော်မူပြန်လေသည်။

(တတိယအကြိမ် တရားထူးရသောအခါ မျိုးစေ့ပါလျှောကျသဖြင့် ရဟန်းဖြစ်ကသက်နီးလျှော်ရတတ်တယ်၊ လူဖြစ်က အဝတ်

ပုဆိုးလျှော်ရထတ်တယ်၊တတိယအကြိမ်တရားထူးရမါနီး အတွင်း ကြော အပြင်ကြောများ တုတ်တုတ်ဆွဲထတ်သည်၊ဒီနေရာမှာ ခံနိုင် ရင်ခံ မခံနိုင်ရင် လန်ရော, ဒါကျော်မှ ငါသာဓုခေါ်မည်ဟု မိန့် တော်မူခဲ့ဘူးသည်)။

**နောက်တနေ့ မိမိရွှေမှာ မိုးကြိုးကျသော်လဲ အလျှပ်းပင် မတုန်လှုပ် မထိတ်လန့်တော့ကြောင်းတွေ့ရတယ်၊ ဒါနဲ့ဆက် ထက်ပြီး တရားအားထုတ်ခဲ့ပြန်ရာ သတ္တဝါတွေ အာရုံ နောက် တကောက်ကောက် လိုက်နေကြဘာကို တွေ့မြင်ရ တော့ ကြောက်လန့် တုန်လှုပ်ပြီး လူတွေကြားထဲ မနေလို သောစိတ် ရတန်းပြုလိုဇော ပြင်းထန်စွာဖြစ်ပေါ်လာတယ်။**

ဒါနဲ့ ရန်သူကိုရှာတော့ လောဘ, ဒေါသ, မောဟ, မာန ဆိုတဲ့ တရားတွေဘဲ ဆိုတာ သိမြင်ရတယ်၊ လောဘ, ဒေါသ, မောဟ, မာန ဆိုပေမဲ့ စီစစ်လိုက်တော့ ဒုက္ခအပေးဆုံး တရား ဟာ လောဘဘဲဆိုတာ သိရတယ်။ ဒီတော့ လောဘဟာ အဓိက ရန်သူအစစ်ဆိုပြီး လောဘကို သတ်ထာပေါ့။ ဘယ်လို သတ် သတုံးလို့ မေးတယ်ဆိုပါတော့၊ ထိတော့သိတယ်၊ သိတဲ့အပေါ် သတိထားပြီး လိုက်ပါများတော့ လောဘဟာ သေးသေးပြီး အားနဲ-နဲသွားတာပေါ့။ နောက်ဆုံး ငါ့ရန်သူ ဘသူများ ကျန် သေးသတုံးလို့ ထပ်ပြီး ရှာလိုက်ပြန်တော့ အနီးကပ်ဆုံး ဖြစ်တဲ့ ရန်သူဟာ အတူနေ ဇနီးသားနှင့် ဥစ္စာပစ္စည်းများ ဆိုတာကို သိရှိပြန်တယ်။

ဒါနဲ့ အကျိုးပေါ်ကနေပြီး အကြောင်းရှ လိုက်တော့ သူတို့တွေ တသံသရာလုံး နှိပ်စက် လာတာဟာ ကြွေး

မရှင်းခဲ့မိလို့ဘဲ၊ ဒီတော့ ကြွေးရှင်ဦးမှ ဆိုပြီး မိမိဇနီးကို တောင်းပန်ရတယ်၊ မင်းတို့နဲ့ငါဟာ ဘဝက ရေစက်ဆုံလို့ တွေ့ကြုံကြရတယ်၊ ငါ့ကြွေးကို မင်းတို့မဆပ်ပါနှင့်၊ မင်းတို့ ကြွေးကိုလဲ ငါမဆပ်ပါရစေနဲ့တော့၊ တို့သတောတူစာချုပ် ဖျက်ကြပါစို့ရဲ့၊ ငါကလဲ မင်းကို နှမအရင်းလို အောက်မေ့ မယ်၊ မင်းကလဲငါ့ကို မောင်အရင်းလိုအောက်မေ့ပြီးနေကြ ပါစို့ရဲ့၊ ငါ့ကိုလဲ ရဟန်းခံဖို့ ခွင့်ပေးပါလို့ ခွင့်တောင်းရ တယ်။ ဒီတော့ မရွှေရီက ဘယ်လိုပြန်ပြောသလဲ ဆိုရင် ကျွန်မအပေါ်မှာရှိတဲ့ကြွေးတွေလဲ မဆပ်ပါနှင့်၊ ကိုယ်လဲ ဘယ်မှမသွားပါနဲ့ ရဟန်းလဲ မခံပါနဲ့ အိမ်ဦးခန်းမှာ နေ ပါ၊ မောင်ကြီးအရာထားပြီး ဝတ်ကြီးဝတ်ငယ်မှစ၍ လုပ် ကျွေးသမှုပြုပါရစေ၊ အခြားကိုလဲမသွားပါနဲ့၊ လောကမှာ ရောင်ရှိမှ ဆံထုံးတင့်တယ်, ဆံထုံးရှိမှ ရောင်တင့်တယ် ဆို တဲ့စကားလိုဘဲ မိန်းမတို့မှာ အုပ်ထိန်းခြင်းမရှိရင် သူတကာ တွေက အမျိုးမျိုးပြောဆို နှိပ်စက်ပါလိမ့်မယ်။ အုပ်ထိန်း ခြင်းရှိမှသာ ပြောဆိုနှိပ်စက်ခြင်း ကင်းပါလိမ့်မယ်လို့.... အိမ်က မထွက် ဖြစ်အောင် မိန်းမတို့ရဲ့ ပရိယာယ်တွေနဲ့ အတင်း တွယ်ကပ် နေတာပေါ့။

အဲဒီတုန်းက ဦးကျော်ဒင်ကလဲ ဗဟုသုတ နဲသေးတော့ သားမယားက ခွင့်ပြုမှ သာသနာ့ဘောင် ဝင်ရတယ်လို့ အောက်မေ့တာကိုး၊ သူတို့ခွင့်မပြုဘဲမျှ သာသနာ့ဘောင် မဝင်ရတော့ဘူးထင်ပြီး အကြီးအကျယ် စိတ်ဆင်းရဲရတယ်၊ နောက်တော့ ဦးကျော်ဒင်က သူ့ဟာသူ စဉ်းစားတယ်။

ဩြော်-ငါဟာ အသက်ရှင်နေဘို့နဲ့ ထမင်းတလုပ်စားရဘို့ အရေးဟာ အပြစ်ကင်းတာကိုဘဲ ရှာမရဘူး။ အခုလူတွေ လုပ်ကိုင် သွားလာ နေကြ တာတွေဟာ အပြစ်နဲ့ချည်းဘဲ၊ အပြစ် ကင်းအောင် နေဘို့ကတော့ နှစ်ယမ်းဘဲ ရှိတယ်။ ရဟန်းခံဘို့တလမ်း, ရဟန်းမခံရရင်လဲ အရူးလုပ်နေဘို့ဘဲ ရှိတယ်၊ ဘယ်လို အရူးလုပ်နေရမလဲဆိုရင် ဂုံနီအိတ်ကို ဟိုဘက်ဖေါက် ဒီဘက်ဖေါက် ဖေါက်နှစ်ဖက်ဖောက်, အထယ်ကလဲဖောက်၊ ဖေါက်နှစ်ဖက်ကထက်နှစ်ဖက်လျှို၊ အထယ်က ခေါင်းလျှို၊ အဲဒီတော့ ခြုံဘို့လဲရ၊ ဝတ်ဘို့လဲရ၊တယ်နေရာကျ၊ အိပ်တော့လဲ အိပ်ရာခင်းမလိုဘူး၊ လှဲအိပ်လိုက်ရုံဘဲ၊ စားဘို့တာကလဲ မခဲယဉ်းဘူး ခွက်တခုနှင့် အိမ်စဉ်လျှောက်တောင်းစားရရင် အရူးကြီးဆိုပြီး ပေးကမ်း စွန့်ကြဲကြမဲ့ လူချည်းဘဲ၊ ဘယ်သူမှ နှိပ်စက်ကြမှာလဲမဟုတ်ဘူး။ အဲဒီတော့ အဝတ်လဲမခဲယဉ်း၊အစားလဲမခဲယဉ်း၊ အပြစ်လဲကင်း နေရာကျမှာဘဲလို့ ကြံမိကြံရာ ကြံနေတာပေါ့။

ဒါနဲ့နောက်တော့ အစားကလဲ မဝင် အားအင်ကလဲ နဲ့လာတော့၊ ဩြော်-ငါတော့ သေတော့မှာဘဲ၊ ခုလူတွေ လုပ်ပုံကိုင်ပုံနှင့် ငါ့အာရုံ သဘာဝချင်း မတူဘူး။ ဒီတော့ သူတို့ကြားထဲနေရတာ တဖြေးဖြေး အာရုံကင်းပြီး သေ တော့မှာဘဲ၊ အဲဒီတော့ ခွင့်တခါ ထပ်-တောင်းပြန်တာ ပေါ့၊ ခွင့်တောင်းပေမဲ့ မရွှေရီကခွင့်မပြု။ အိမ်နားနီးချင်း တွေက ဦးကျော်ဒင်ဘက်က လိုက်ပြီး တဲ့-မရွှေရီရယ်- ခွင့်ပေးလိုက်ပါ သူ့ခမြာ မစားနိုင် မသောက်နိုင်တာနဲ့ဘဲ

သေရွာတော့မယ်၊ ကြည့်ပါလား ဘယ်လောက် ကြိုသွား သလဲ၊ အရိုးနဲ့ မရေသာ ကျန်တော့တယ်လို့ ဝိုင်းပြော ကြတော့၊ ဒေါ်ရွှေရီက, အို-သေတာက ကောင်းသေး တယ်၊ သေတော့ တလမ်းထဲ ပူရတယ်၊ ခွင့်ပေးလိုက်ရင် ကျွန်မ မျက်စိအောက်မှာ မြင်တိုင်းမြင်တိုင်း စိတ်ချမ်းသာ မှာ မဟုတ်ဘူး။ အဲဒီလို ပြန်ပြောပြီး ဇွတ်တင်းနေတာ အတော်ကြာသွားတယ်။ ဦးကျော်ဒင်မှာ ကြာလေစိတ်ဆင်း ရဲလေ ကြာလေစိတ်ဆင်းရဲလေပေါ့။ ဒါနဲ့ နောက်ဆုံးကျ တော့ အခြားသူတွေက မရွှေရီကို ထပ်ပြီး တတွတ်တွတ်နဲ့ အမျိုးမျိုး အဖုံဖုံ ဝိုင်းနားချလွန်း မက နားချကြတော့မှ၊ ကဲလေ-ဆယ့်လေး ငါးရက်တော့ ခွင့်ပေးလိုက်ပါတော့ မယ်လို့ ပြောတော့တယ်၊ ဒီတော့ ဦးကျော်ဒင်က အေး-အေး မပျော်လို့ပါရမီမရှိရင် ဆယ့်လေးငါးရက် မပြောနဲ့ ချက်ချင်းဘဲ ပြန်လာခဲ့မယ်၊ ပါရမီရှိရင်လဲ ရှိသလောက် နေပါရစေလို့ ပြန်ပြောရတာပေါ့။

ဒါပေမဲ့မရွှေရီက ရဟန်းမခံမီ ထယ်ရေး ပက်လက် နဲ့မို့ ဝဲကလေးကြဲပေးခဲ့ပါဦးလို့ ပြောတာနဲ့၊ ဒီဝဲလောက် တော့ တယ်မကြာ ပါဘူးလေ ဆိုပြီး ဦးကျော်ဒင်ဟာ ၁၂၈၂-ခုနှစ် - သီတင်းကျွတ်လပြည့်ကျော် ၅-ရက်နေ့မှာ ဝဲကြဲဘို့နွားတယှဉ်းနဲ့ယာထဲဆင်းရပြန်သေးတယ်၊ယာထယ် ရောက်လို့ ထွန်ပေါ်တက်နွားငေါက်တော့ နွားနှစ်ကောင် ဟာ လှဲ့ကြည့်လှဲ့ကြည့်နဲ့ မသွားကြဘူး၊ရပ်နေကြတယ်။ ဒီ မတော့ ဦးကျော်ဒင်က စဉ်းစားတယ်.... ဩော်-ဒီနွားနှစ်

ကောင်တာ ဘယ်အခါတုန်းကမှ ထုံပေပေ ထုံနာနာမနေ ပါဘူး၊ ခါတိုင်းဆို ထွန်ပေါက်တာနဲ့ ဟဲ့လိုကောင် ပေါက်မနေရဘူး၊ သူ့ထက်ငါသာအောင် ရုန်းကြတယ်၊ ငါတော့ဖြင့် မဖြစ်ချေဘူး....နွားနှစ်ကောင်ကတော့ ငြိမ်နေ ပါပေါ့ ကလား။ ဒီအခါမှ ကိုယ့်ဟာကိုယ် မဆုံးဖြတ်နိုင်ရင် ဘာအသုံးကျသေးတုံးလို့ သူ့ကိုယ်သူ အပြစ်တင်ရတယ်။ အဲဒီ လို စိတ်ကိုတင်းပြီးမှ ထွန်ပေါက ဆင်း၊ ထွန်ကလန့်ကိုဖြုတ်၊ ထွန်ကိုင်းကိုကိုင်၊ ထွန်တုံးကိုထောင်ပြီး၊ ကိုင်းကွယ် မင်းတို့နဲ့ ငါနဲ့တော့ သေခန်းရှင်ခန်းပြတ်ကရောပေါ့ကွယ်-လို့ ဆိုပြီး နွားနှစ်ကောင်ကိုပါ ကြိုးဖြုတ်ပြီး။ မင်းတို့လဲ တော်ရာသွား ကြပေတော့၊ မင်းတို့ကို ငါဘေးမဲ့ပေးလိုက်ပြီ ဟု ပြောကာ ဘုန်းကြီး ဦးကျောက်, ကျောင်းသို့ ရှေ့ရှုအသွား....လမ်းမှာ ဒေါ်တင်နဲ့ တွေ့တော့ မေးမြန်း သည်နှင့် သာမဏေ ဝတ်ရန် သွားမဲ့အကြောင်း ပြောလိုက်ရာ ဒေါ်တင်က ဒါဖြင့် ငါ့မှာတောသိန္နမ်းကလေးတထည်ရှိတာကို ယူသွား မရှေ့ရီလဲ မသိစေနဲ့လို့ မှာပြီး ပေးလိုက်တယ်။ ဒါနဲ့ ဘုန်းတော်ကြီးကျောင်းရောက်တော့ ဘုန်းတော်ကြီးဦးကျောက် ခေါ် ဦးဝိရိယက သင်းပိုင်တထည်စွန့်ပြီး ရှင်ကဝိဆိုတဲ့ဘွဲ့နှင့် ရှင် သာမဏေအဖြစ် ချီးမြှင့်ပေးလိုက်တယ်။

* ထွန်တုံးကိုထောင်ပြီး တောထွက်သည်ကို အကြောင်းပြု၍ 'ထွန်ထောင်ကိုယ်တော်'ဟုခေါ်ဝေါ်ဘမုတ်ကြလေသည်။

(၁၂၇၁-ခုနှစ် သီတင်းကျွတ် လတ, ဘုရားမှာ ဆိမ်း ထွန်းပြီး ဆုခတောင်းခဲ့တာဟာ ၁၂၇၂-ခုနှစ် သီတင်းကျွတ် လပြည့်ကျော် ၅-ရက်နေ့မှာ သာသနာ့ဘောင် ရောက်

တော့ ဆုတောင်းတာနဲ့ ရဟန်းဖြစ်တာ တနှစ်သာကြာသည်)။

ရှင်ကဝိသည် သာမဏေ ဖြစ်သည်နှင့် တပြိုင်နက် စွန်းလွန်းရွာဘောင်ဘက် မောင်ရင်ပေါ်ချောက်သို့ တကိုယ်တည်း သွားပြီး တရားအားထုတ် နေသေးသည်၊ ဦးကျော်ဇင် သင်္ကန်းဝတ်သွားပြီး ၅-ရက်အကြာတွင် ဦးရွှေလုပ်သည် ရှင်ဝိဇယ အမည်နှင့် သင်္ကန်းဝတ်ပြီး ရှင်ကဝိနှင့်အတူ သွားရောက်နေထိုင်ခဲ့သည်။ တနေ့သောအခါ ကျောင်းဘေးနားတွင် မှိုကြီးတပွင့် ပေါက်နေသည်ကို ကိုရင်ကြီး ရှင်ကဝိ တွေ့မြင်ရ၍ ဆွဲနုတ်လိုက်ရာ မှိုငုံကလေး များပါ တအုံလုံး ပါလာသည်နှင့် သံသရာဝဋ်ဒုက္ခမှ ကျွတ်လွတ်တော့မည် အတိတ် နိမိတ်ဟု အောက်မေ့ကာ အရိုးကြေကြေ အရေ ခမ်းခမ်း မပြတ်မလတ် မလျော့တမ်း တရားအားထုတ်ခဲ့ရာ....

(၄) ၁၂၈၂-ခုနှစ် သီတင်းကျွတ် လ ပြည့်ကျော် ၁၃-ရက် အင်္ဂါနေ့ ည ၁၀-နာရီ အချိန်လောက်တွင် ငွေစောင်းတန်းကြီး တခုကို မြင်လာပြီး ဝိဝိ ဝိဝိဟု မြည်လျက် ရထားပျံတစင်း အလွန် အရှိန်ပြင်းစွာနှင့် မိမိထံသို့ တည့်တည့်ကြီး လာနေသည်ကို တွေ့သော်လည်း ဂရုမစိုက်ဘဲ တရားကိုသာ အားထုတ်မြဲ အားထုတ်နေစဉ်၊ ခန္ဓာကိုယ်ကြီးသည် ပေါ့လာ၍ အထက်သို့ မြောက်ပြီးလျှင် ငြိမ့်ကနဲဖြစ်၍ ရထားက မိမိအောက်သို့ ရောက်ရှိနေရာ၊ ဘေးကို လှည့်ကြည့်သောအခါ ဒေါင့်လေးဒေါင့်တွင် နတ်ကြီးလေးပါးကိုရင်း, လက်ျာ



ပြောင်းစင်း,မြေဆွ····နွေညမကွာ၊ ထိ-သိ-သတိ···အသိလိုက်ခါ။
ရေခပ် ပေါင်းထိုး····မှုမျိုး စုံစွာ၊ လုပ်ကိုင်ဘိ····ထိ-သိ-သတိပါ။



တတိယမြောက် ·· မဂ်ပေါက်လေလျှင်၊ ရန်သူနီးကပ်····ရှိလတ်ဆင်ခြင်။
အိမ်သူချောလှ ··သိရထင်ထင်၊ ရှင်ရဟန်း····ဖြစ်လမ်းခွင့်တောင်းစဉ်။

ဘက်တွင် သိကြား မင်း ကို ၎င်း၊ မြင်ရပြန်သဖြင့် စိတ်ထဲမှာ တရားထူး ရတော့မည့်အတွက် လာရောက် စောင့်ရှောက်သည်ဟု ထင်ပြီး ရှုရိယာပုထ်ကို မပြင်ဘဲ တရားအားထုတ်မြဲ အားထုတ်ရာ စတုတ္ထအကြိမ် တရားထူးကို တွေ့ရသည်။

ရှင်ကဝိသည် ကိစ္စပြီးသည်နှင့်သတိရ၍ကြည့်လိုက်တော့ သိကြားမင်းနှင့် တကွ နတ်မင်းကြီး လေးပါး ရထားပျံပါ ကွယ်ပျောက်သွားကြတယ်။ အဲဒီလို စတုတ္ထမဂ်ကို ရပြီးတဲ့ နောက် အထက်တဝင်, အောက် အဝီစိကျအောင် ဟင်း ထင်းပြင်ကြီးဖြစ်ကာ အကုန်အစင် မြင်ရတယ်၊ သိကြား မင်းနှင့် နတ်ကြီး လေးပါးလဲ နတ်ပြည် ပြန်သွား ကြပြီး လူ့ပြည်မှာ ရဟန္တာတပါး ပေါ်ထွန်းနေပြီ သွားဖူးကြလို့ တခဲနက် ကြွေးကြော်နေတာကို တွေ့မြင်ရတယ်။

အဲဒီနောက် အနီးဆုံးသော သတ္တဝါ အမျိုးမျိုးကိုမြင် ရပြီး ဘုမ္မဇိုဝ်ရုက္ခဇိုဝ်း နတ်တွေနဲ့တကွ အထက်နတ်မြဟ္မာ တွေ ဖူးမြော်ကန်တော့ လာကြတာဟာ ကြည့်လို့ကို မဆုံး အောင် မြင်ရတယ်၊ အဲဒီလို မြင်ရတော့မှ သတ္တလောက, သင်္ခါရလောက, ဩကာသလောက-အတွင်းလောက သုံး ပါး၊ အပြင်လောက သုံးပါးကို ပိုင်ပိုင်နိုင်နိုင်ကြီး သိမြင်ရ တော့တယ်၊ ဘယ်လိုမြင်ရသလဲဆိုရင် သတ္တဝါတွေက သတ္တ လောက၊ ၎င်းသတ္တဝါတွေကို ပြုပြင်ပေးနေတာက သင်္ခါရ လောက၊ ၎င်းသတ္တဝါတွေရဲ့ တည်ရာမှီရာ ဘုံဗိမာန်တွေက ဩကာသလောကရယ်လို့ အပြင်လောက သုံးပါးကို မြင် ရတယ်၊ အတွင်းလောကသုံးပါးက စိတ်စေတသိက်ရုပ်ဆိုတဲ့

တရား သုံးပါးတို့ ပိုင်းပိုင်းခြားခြားကြီး မြင်ရတာက သတ္တလောက၊ စိတ် စေတသိက် ရုပ်ဆိုတဲ့ တရားသုံးပါးတို့၏ ဖြစ်ခြင်း ပျက်ခြင်းကိုပြုလုပ်တာက သင်္ခါရလောက၊တည်ရာ မှီရာက ဩကာသလောကရယ်လို့ အတွင်းလောက သုံးပါး ကိုမြင်ရတယ်၊အဲဒီဂနောက်ဘုရားဂုဏ်တော် တရားဂုဏ်တော် များကိုလည်း ကွက်ကွက်ကွင်းကွင်း သိမြင်ရတော့တယ်။

ဒါနဲ့ သောတာပတ္တိမဂ်က အရဟတ္တမဂ်ကျအောင် ဤ ကားရုပ်၊ဤတားနာမ်၊ ဤကားစိတ်၊ဤကားစေတသိက်၊ဤ တား ဒုက္ခသစ္စာ၊ ဤကား သမုဒယသစ္စာ၊ဤကားမဂ္ဂသစ္စာ၊ ဤတား နိရောဓသစ္စာ၊ ဤ သစ္စာလေးပါး သိမြင်ရတာ ကိုပင် သောတာပတ္တိမဂ်, သောတာပတ္တိဖိုလ် ခေါ်တယ်။ ဒုတိယအကြိမ် ဤကားရုပ်၊ ဤကားနာမ်၊ ဤကားစိတ်၊ဤ ကား စေတသိက်၊ ဤကား ဒုက္ခသစ္စာ၊ ဤကား သမုဒယ သစ္စာ၊ ဤကား မဂ္ဂသစ္စာ၊ ဤကား နိရောဓ သစ္စာ၊ ဤ သစ္စာလေးပါး သိမြင်ရတာကိုပင် သကဒါဂါမိမဂ်, သက ဒါဂါမိဖိုလ် ခေါ်တယ်။ တတိယအကြိမ် ဤကားရုပ်၊ ဤ ကားနာမ်၊ ဤကားစိတ်၊ ဤကား စေတသိက်၊ ဤကား ဒုက္ခသစ္စာ၊ ဤကား သမုဒယသစ္စာ၊ ဤကား မဂ္ဂသစ္စာ၊ ဤကား နိရောဓသစ္စာ၊ ဤသစ္စာလေးပါး သိမြင်ရတာကို ပင် အနာဂါမိမဂ်, အနာဂါမိဖိုလ် ခေါ်တယ်။ စတုတ္ထ အကြိမ် ဤကားရုပ်၊ ဤကားနာမ်၊ ဤကားစိတ်၊ ဤကား စေတသိက်၊ ဤကား ဒုက္ခသစ္စာ၊ ဤကား သမုဒယသစ္စာ၊ ဤကား မဂ္ဂသစ္စာ၊ ဤကားနိရောဓသစ္စာ၊ ဤသစ္စာလေးပါး

သိမြင်ရတာကိုပင် အရဟတ္တမဂ်,အရဟတ္တဖိုလ် ခေါ်တယ်လို့ လာလမ်းကိုပြန်ပြီး ပစ္စဝေက္ခဏာ ဆင်ခြင်၍ ချမ်းသာနေတယ်။

ရှင်ကဝိသည် မိမိဘဝဃဲ့ဘဝ၏ လာသည်ကို အကျိုးပေါ်ကနေပြီး အကြောင်းကို ဆင်ခြင်ကြည့်ရာ တိရစ္ဆာန်အမျိုးမျိုး ဖြစ်ခဲ့သည်ကမျာ းပြီး လူ့ဘဝရတာက အလွန်နဲကြောင်းတွေ့ရှိတယ်။ ကျင်လည်ခဲ့သော ဘဝတွေကို ကြည့်မဆုံးနိုင်တာနဲ့ ဘယ်ဘဝက အကြောင်းကြောင့် ယခုဘဝ အကျိုးထူးရသည်ကို အမြန်သိချင်တာနဲ့ အစိဋ္ဌာန်ယူပြီး ကြည့်တော့မှ ယခု ဘဒ္ဒကမ္ဘာ ကဿပဘုရားရှင် လက်ထက်တော်တုန်းက ကျေးသား ကြက်တူရွေးဘဝနဲ့ ဘုရားရှင်အား သစ်သီးကပ်လှူဆုတောင်းခဲ့ဘူးသော အကြောင်းကြောင့် ယခုလို တရားပေါက်ရောက်ရတာကို တွေ့ရတယ်။

ရှင်ကဝိ သာမဏေပြု၍ သုံးလယောက် အကြာတွင် မိတ္ထိလာမြို့ ရေထယ်တိုက်ဆရာတော်သည် တည အိပ်မက်ထဲမှာ ဆင်ဖြူတော်ကြီး နှစ်စီး ကောင်းကင်က ပျံလာပြီး ကျောင်းထဲ ဝင်လာတယ်လို့ မြင်မက်တယ်၊ အဲဒီနောက် မကြာခင် မြင်းခြံမြို့က ဦးဖြိုးသာနှင့် စတီးဘရားသားကုမ္ပဏီက စာရေးကြီး ဦးဘစံတို့နှစ်ဦး လာရောက်ကြပြီး ရေလယ်ဆရာတော်ကို စွန်းလွန်းရွာအနီး မောင်ရင်ပေါ်ချောင်းမှာ အလွန်ထူးတဲ့ ကိုရင်ကြီး နှစ်ပါး ပေါ်နေတယ်။ အရိယာ အဖြစ်သို့ ရောက်ခနသော်လဲ စာတော့ မတတ်ရှာကြဘူးလို့ လျှောက်ထားကြတယ်။ ဒါနဲ့ ရေလယ်ကျောင်းဆရာတော်

က အရိယာဖြစ်ရင် ပညတ်တို့,ပရမတ်တို့ သဘာဝတို့ကို သိရမယ်လို့ မိန့်တော်မူပြီး အပင့်ခိုင်းလိုက်လေသည်။

မိတ္ထီလာမြို့ ရေထယ်ကျောင်းတိုက်သို့ ရှင်ကဝိနှင့် ရှင်ဝိဇယတို့ ရောက်ရှိသော အခါ ရေထယ်ဆရာတော်က သာမဏေနှစ်ပါးရရှိသောတရားထူးများကို စုံစမ်းစစ်ဆေး မေးမြန်း ကြည့်ရာတွင် ရှင်ကဝိ ရဟန်းကိစ္စ ပြီးကြောင်းကို ရေထယ်ဆရာတော် ကောင်းစွာသိရှိ ယုံကြည်တော်မူသည်နှင့် အောက်ပါအတိုင်း ဆက်ထက် မေးမြန်းတော် မူလေသည်။

### ရေထယ်ဆရာတော်အမေးနှင့် ရှင်ကဝိအဖြေ

အကျဉ်းချုပ်

မေး····ဘုံသုံးပါးမှာ ဘယ်သူက အိမ်ဆောက်လုပ် ပေးပါသလဲ။

ဖြေ····တဏှာ ဆောက်လုပ်ပေးပါတယ်ဘုရား။

မေး····တဏှာက သန်္ဓေရဟာ ဘယ်က မျိုးစေ့ ဖြစ်ပါသလဲ။

ဖြေ ···အဝိဇ္ဇာက မျိုးစေ့ဖြစ်ပါတယ်ဘုရား။

မေး····လူ့ရယ်လို့ဖြစ်တာ ကုသိုလ်ကြောင့်လား သို့မဟုတ် အကုသိုလ်ကြောင့်လား။

ဖြေ····လူဖြစ်ထာ ကုသိုလ်–အကုသိုလ်ကြောင့် ဖြစ်ပါသည် ဘုရား။

မေး····ကုသိုလ်ဟာ သုခဆိုမလား ဒုက္ခဆိုမလား။

ဖြေ….ကုသိုလ်ဟာ ဘုခဆိုရပါတယ်၊ စင်စစ်အားဖြင့် ဒုက္ခ ပါဘဲ။

မေး….လူချမ်းသာ,နတ်ချမ်းသာဆိုတာ အမှန်ရှိသလား။

ဖြေ….လူချမ်းသာ, နတ်ချမ်းသာ ဆိုတာ သမ္မုတိ နယ်မှာ အမှန်ပင်ရှိပါတယ်၊ ပရမတ်သဘောဆိုလျှင်မရှိပါ။

မေး….ငရဲခံတဲ့ပုဂ္ဂိုလ်,နတ်ပြည်စံတဲ့ပုဂ္ဂိုလ်များ ရှိသလား။

ဖြေ….မရှိပါဘုရား။

မေး….လောကကြီးမှာ ခံစားသူ,စံစားသူနှစ်မျိုးရှိသည့်အနက် ဘယ်သူကို အမှန်ခေါ်မတုံး။

ဖြေ….နှစ်မျိုးစလုံးပင် မှန်ပါတယ်ဘုရား။

မေး….၎င်းနှစ်မျိုးကို ဘာခေါ်မတုံး။

ဖြေ….နာမ်-ရုပ် နှစ်ပါးပင် ခေါ်ပါသည်။

မေး….လောကမှာ သတ်သူ,သေသူ ရှိပါသလား။

ဖြေ….ရှိပါတယ်ဘုရား။

မေး….ရှိတယ်ဆိုတာ ဘာမှတ်ရမလဲ။

ဖြေ….နာမ်-ရုပ် နှစ်ပါးပါဘဲ။

မေး….သူ့အသက် သတ်လျှင် ငရဲကျတယ်ဆိုတာ အမှန်ဘဲလား။

ဖြေ….အမှန်ပါဘဲဘုရား။

မေး….မှန်တယ်ဆိုလျှင် ဘယ်ဟာ အမှန်ခေါ်မတုံး။

ဖြေ….နာမ်-ရုပ် နှစ်ပါးဟာ ငရဲကျအောင်လဲ သူတို့ပါဘဲ၊ ငရဲမကျ-နိဗ္ဗာန်ရောက်အောင်လဲသူတို့ပါဘဲဘုရား။

မေး …သတ်သူ့,သေသူရှိတယ်ယူတာတမျိုး၊ မရှိဘူး ယူတာ
တမျိုး၊ ထိုနှစ်မျိုးတို့တွင် ဘယ်ဟာသမ္မာအယူခေါ်
၍ ဘယ်ဟာ မိစ္ဆာအယူ ခေါ်သတုံး။

ဖြေ …ရုပ်-နာမ်နှစ်ပါးကလွဲ၍ ရှိတယ်,မရှိဘူးနှစ်မျိုးစလုံး
ပင် မိစ္ဆာအယူ ဆိုရမှာဘဲဘုရား။

မေး….သမ္မာအယူဖြစ်အောင် ဘယ်လိုယူရမှာတုံး။

ဖြေ….ရုပ်-နာမ် နှစ်ပါးရှိတယ်ယူလျှင် သမ္မာအယူ ဖြစ်ပါ
တယ်ဘုရား။

မေး….ပရမတ် သဘောကို မသိသောသူ ဆယ်ပါးသော
ပါရမီ ပြည့်စုံနိုင်ပါသလား။

ဖြေ….မပြည့်စုံနိုင်ပါဘုရား။

မေး….ပညတ်တရား, ပရမတ်တရား နှစ်ပါးရှိသည်တွင်
ပညတ်ကိုသာ သိသောသူ မဂ်ကိုရနိုင်သလား။

ဖြေ….မရနိုင်ပါဘုရား။

မေး….ပရမတ်,ပညတ်နှစ်ပါး ဘယ်ဟာအမှန်ခေါ်မတုံး။

ဖြေ….ပရမတ်သာ အမှန်ခေါ်နိုင်ပါတယ်ဘုရား။

မေး….မိစ္ဆာအယူ, သမ္မာအယူ နှစ်မျိုးတွင် ဘယ်အခါ
သမ္မာအယူ ခေါ်မတုံး။

ဖြေ….ဒိဋ္ဌိ-ဝိစိကိစ္ဆာ ကင်းလွတ်သည်ကစ၍ သမ္မာအယူ
ဖြစ်ပါပြီဘုရား။

ရေလယ် ဆရာတော်ဘုရားကြီးက မှန်ကန်ကြောင်း ချီး
မြှောက် ပြောဆိုသည်မှာ အင်း-ကောင်းပါသည် ဘုရား၊
သည်သဘော သဘာဝတရားမျိုးဆိုတာ အလွန်ခက်ခဲတယ်
ဦးကစ်ရဲ့၊ သည်ကစပြီး ဘုန်းကြီးများလဲ ဦးကဝိရဲ့ နည်း

နာနီသျှကို အားတုတ် လိုပါတယ်၊ ကိုယ်နှင့်စပ်တဲ့ ဒါယကာတွေလဲ လူတိုနှင့်တော်အောင် အပါယ်တံခါး လွှတ်အောင်ဟာ (ကိုယ်တော်ဦးကဝိ) တပည့်တော်တို့တိုက်မှာ တဝါတချီနေပါဦးနော်ဦးကဝိရဲ့။ မှန်လှပါဘုရား၊ တပည့်တော်မှာ ယခုအခါမှိနိုပြီး နီသျှည်းယူတို့ ဆရာရှာတုန်း ဆရာတော်ဘုရား အမိန့်ရှိတာ အလှန် ဝမ်းသာပါတယ် ဆရာတော်ဘုရား။

## ရှင်ကဝိ ကသိုဏ်း ၁၀-ပါးစလုံး ပွားများပုံ

ရေလယ်ဆရာတော်က ရှင်ကဝိအား ကသိုဏ်းများကို ပွားများပါဟု တိုက်တွန်းသဖြင့် ဘယ်ကဲ့သို့ပွားများရမည့် အကြောင်းများ ပြန်လည်လျှောက်ထားရာ ရေလယ်ဆရာတော်က မည်သည့် ကသိုဏ်းကို မည်ကဲ့သို့ ပွားများရကြောင်းများကို ပြောပြသည်နှင့် ရေလယ်ဆရာတော် ညွှန်ကြားသည့်အတိုင်း ကသိုဏ်းများကို တခုပြီးတခု တနေ့တည်းနှင့် ကသိုဏ်း ၁၀-ပါးကိုပွားပြီး တွေ့ရသည့်အချက်များကိုလျှောက်ထားရသည်၊ဆရာတော်ကလည်း ကသိုဏ်း ၁၀-ပါးကို အကြည့်ခိုင်း၍ မေးမြန်းလေသည်။

နောက်တနေ့ညတွင် ရှင်ကဝိသည် "ညဏဒဿနံ ဝိဝိခံ" လို မေးသံကြားတာနဲ့၊ ညဏ-က ညဏ်၊ ဝိဝိခံ-က အထူးထူး အပြားပြားလို ဖြေလိုက်တော့ သာဓု-သာဓု ဆိုပြီး

အသံ ပျောက်သွားတယ်။ နံနက်ကျတော့ ရေလယ်ဆရာတော်ကို လျှောက်ထားသည်နှင့် ရေလယ် ဆရာတော်က ဦးကဝိဖြေတာ မှန်ပါတယ်ဗျာလို့ အမိန့်ရှိလေသည်။

ရှင်ကဝိသည် တနေ့သောညအခါ "အာယုသင်္ခါရလွှတ်ပါ"ဟု ဆိုသောအသံကိုကြားလိုက်ရာ ရှင်ကဝိက "မလွှတ်ဘူးဟယ်"ဟု ပြောလိုက်တော့မှ အသံပျောက်သွား လေသည်။ နံနက်ကျတော့ မိတ္ထီလာ ရေလယ် ဆရာတော်ကို လျှောက်ထားရာ ဆရာတော်က "ဦးကဝိ အာယုသင်္ခါရလွှတ်လိုက်သလား"ဟု မေးမြန်းရာ "မလွှတ်ပါ ဘုရား" ဟု လျှောက်ထားသည်နှင့် ရေလယ်ဆရာတော်က "မလွှတ်လိုက်နှင့်နော် ဦးကဝိ၊ သူတို့မနေသေဘူး ထာသိမ့်ဦးမည့်သတိထားနေ"ဟု ပြောပြလေသည်။ ၎င်းနောက် မကြာမီရက်အနည်းငယ်အတွင်းမှာပင်ကိုယ်ထင်ပြပြီး "အရှင်ဘုရားသစ္စာလေးပါးတရားကို မဟောပါနှင့်"ဟု လျှောက်လေရာ "ဟောမယ်" ဟု ရှင်ကဝိက ပြန်ပြောလေ၏၊ အဲသည်လိုပြန်ပြောတော့ "ကိုယ်တော် ပြောတာ မရဘူးလား" ဟု ပြန်လျှောက်ပြန်သဖြင့် ရှင်ကဝိက မေတ္တာပို့မှ တော်မည်ပဲ ကြံစည်စဉ်းစား၍ သြဒိသမေတ္တာပို့ပြီးလျှင် "ငါပို့သည့် မေတ္တာ မရဘူးလား"ဟု မေးလေရာ "ရပါ၏ဘုရား" ဟု လျှောက်ပြီး ဝမ်းနည်းသံနှင့် "ဟယ်သတ္တဝါတွေတော့ ကျွတ်ကုန်တော့မှာဘဲ"ဟု ဆို၍ ပြန်သွားလေ၏။ နံနက်ကျသောအခါ ရေလယ်ဆရာတော်ကို လျှောက်ထားလေရာ "ဒါဖြင့် လိုက်စမ်းပါအုံး ဦးကဝိ ခင်ဗျားလိုက်လျှင် တွေ့ရမှာ

ပေါ့ဗျာဟု ပြောတော့ ပြောသည့်အတိုင်း လိုက်ကြည့်ရာ အာယုသင်္ခါရလွှတ်ပါဟု ပြောဆိုပြီးနောက် သစ္စာလေး ပါးတရားကို မဟောရန်လျှောက်သော ပုဂ္ဂိုလ်ကို တွေ့မြင် ရသည်နှင့် ရေလယ်ဆရာတော်အား မာရ်နတ်သားတော့ မဟုတ်ပါ ဘုရား၊ မာရ်နတ်က သူတော်ကောင်းကြီးပါ၊ သူ့အနားမှာနေတဲ့ အခြွေအရံထဲကပါ ဘုရားဟု လျှောက် ထားလေသည်။ ၎င်းနောက် ရက်အနည်းငယ် အတွင်းမှာ ပင် ပန်းအနီကို ပန်ပြီးလျှင် ညအချိန်မတော်၌ မိန်းကလေး နှစ်ယောက် ရောက်လာပြန်ရာ "ဘာလုပ် လာသလဲ"ဟု ကြိမ်းမောင်းလိုက်မှ ထွက်သွားကြလေသည်။

၎င်းနောက် ရေလယ် ဆရာတော်က ရှင်ကဝိအား (ယခု မိတ္ထီလာတောင် ကန်အရှေ့ဘက် ကန်သောင်ရိုး ပေါ်ရှိ ရွှေသက်နှ်း ကပ်လှူထားသော ရွှေမြင်တင် စေတီ တော်ကြီးမှာ ထိုစဉ်အခါက မိတ္ထီလာမြို့ရှိအင်္ဂလိပ်စစ်တပ်မှ ဘုရားစေတီတော် အထက်ပိုင်း တဝက်လောက်ထွင် မှန်ပြ မီးပြစကားပြောမြှော်စင်အဖြစ်အသုံးပြုနေ၍ပျက်စီးနေရာ) ၎င်းဘုရားပျက်ကို နောက်ပြင်ဆင်သူရှိဦးမှာလားဟု မေးမြန်း အကြည့်ခိုင်းပြန်သဖြင့် ရှင်ကဝိက ရှိပါသည်ဟု လျှောက် ၍ ရဟန်းလား လူလားဟု တဖန် အကြည့် ခိုင်းပြန်ရာ လူဒါယကာဖြစ်ပြီးလျှင် သူ၏ တိုက်နှင့် တိုက်ရှေ့ လမ်း လျှောက်နေစဉ် ဝတ်ထားသော ပုဆိုးအဆင်နှင့် တကွ လျှောက်ထားရာရေလယ်ဆရာတော်သည် ရှင်ကဝိလျှောက် ထားချက်ကို လူလွှတ်အကြည့်ခိုင်းပြီးလျှင် အမည်နာမနှင့်

တကွ မှတ်ထား၍ နောက် ဂုဏ်းဘုရားကို ပြင်ဆင်ရာတွင် ဂုဏ်းလူဒါယကာပင် အကြီးအမှူး ပြုလုပ် ပြင်ဆင်ကြောင်း ထင်ရှားလေသည်။

* ဂုဏ်းဘုရားကို ကြည့်ကြပ်ပြင်ဆင်သူမှာ မိတ္ထီလာမြို့ ဘုရားဒကာ ဦးကျော်ဇော-ဒေါ်ဌေးတို့ ဖြစ်လေသည်။

## တခေါင်းသိုက် ဖြေလိုက်မကြာ

တနေ့သောအခါ မိတ္ထီလာ ရေလယ်ဆရာတော်က ရှင်ကပိအား အမိန့်ရှိသည်မှာ ရှင်ကပိ မိတ္ထီလာကန်ကြီး မြင်ဖူးလား၊ မြင်ပါရဲ့ဘုရား။ ဂုဏ်းကန်ကြီးဟာ ခု-အင်းလေးအင်-ပေါ်နေပြီ၊ အဲ သည်တော့ တခေါင်းကလဲ "မိတ္ထီလာနယ အတွင်း၊ မှာလ၊ လေးအင်းတိုင်အောင် ပေါ်လို့၊ ရှစ်သောင်း ကျော် ဝိဇ္ဇာထွက်ပါလိမ့်၊ လိုချင်သူ ဖို့ခွင်တက်ကြတော့" လို့ ဆိုတယ်။ အဲဒါ ဦးကပိ ဘယ်လိုကောက်သတုံး။ ။ဆရာ တော်ဘုရား- ဆရာတော်များယူတဲ့ ဝိဇ္ဇာက ဘယ်လိုဝိဇ္ဇာ ပါလဲဘုရား၊ ဖိုကကော ဘယ်လိုဖိုပါလဲဘုရားဟု ပြန်လည် လျှောက်ထား မေးမြန်းရာ ရေလယ်ဆရာတော်က ဦးကပိ ရဲ့ ဝိဇ္ဇာကတော့ ဆေးဝိဇ္ဇာ, အင်းဝိဇ္ဇာ, ပြဒါးဝိဇ္ဇာ, မန္တန်ဝိဇ္ဇာဝေါ့၊ ဖိုကလဲ ဖားဖိုပေါ့ဟု အမိန့်ရှိပြန်သည်တွင် ဆရာတော်ဘုရား····ဝိဇ္ဇာက အရိယာဝိဇ္ဇာပါ ဘုရား၊ ဖိုက အာနာပါန ဖိုပါဘုရား ဟု ဖြေကြား လျှောက်ထားလေ၏။ အေး-ခအေး ဦးကပိ ဟုတ်တယ်-ဟုတ်တယ်။တပည့်တော်တို့ က သည်နေရာမှာ အယူအဆသီသီလိုနေတယ်-ဟုသဘော

ပေါက် ဝန်ခံကာ ရေလယ်ကျောင်း ဆရာတော်သည် မိမိ၏ ခေါင်းလုံးများနှင့် ဖားဖိုတို့ကို အပြီး စွန့်လွှတ်လိုက်ကာ ထိုနေ့မှစ၍ အာနာပါန တရားကိုသာ အားထုတ်တော်မူရှာလေသည်။

နောက်တဖန် ဦးကဝိအား တဘောင်ရွတ်ပြ မေးမြန်းသည်မှာ– "နှစ်ထောင်ကျော်ဟိုး၊ ဈေးဘောင်ကျိုး၊ တိုး၍ဝယ်လိုက်ကြ။ ငါးထောင်ကျမှ၊ ပိတ်သောခေါ၊ မရလေ၏မင်း" ဆိုတာကတော့ ဦးကဝိရဲ့။ ဆရာတော်ဘုရား ယခု သာသနာတော်နှစ်–နှစ်ထောင်ကျော် ရောက်နေပါပြီ ဘုရား၊ အဲဒီတော့ ဈေးဘောင်ကျိုးနှင့် တူနေပါတယ်၊ ခေတ်ကာလဝိမုတ္တိခေတ် ရောက်ပြန်ပါပြီဘုရား။ အဲဒါကြောင့် ယခုနေ တရားများ အားထုတ်ကြပါလျှင် မိမိတို့ပါရမီရှိသလောက် ပေါက်ရောက် နိုင်ကြောင်းပါဘုရားဟု ဦးကဝိက ပြန်လည်ဖြေကြား လျှောက်ထားလေ၏။

ထိုနောက် ရေလယ်ဆရာတော်က ဆက်လက်၍ "အင်းခမ်းတော့ ငှက်ကျ၊ ငှက်ကျတော့ လယ်တီ၊ လယ်တီတော့ ထွန်းဆင်း" ဆိုနေကြတာကတော့ ဘယ်လိုတုံး ဦးကဝိရဲ့ဟု မေးမြန်းပြန်သဖြင့် – ရှင်ကဝိက မှန်လှပါဘုရား–အင်းခမ်းဆိုတာက ပဌမအင်းခမ်းဆရာတော် ပေါ်တာကိုပြောတာပါဘုရား၊ ဒုတိယငှက်ကျဆိုတာက ငှက်တွင်းဆရာတော်ပေါ်တာကို ပြောတာပါဘုရား၊ တတိယ လယ်တီ ဆိုတာက လယ်တီဆရာတော်ကို ပြောတာပါ ဘုရား။ နောက်ဆုံး

ထွန်ဆင်းဆိုတာက တပည့်တော် တောထွက်တုန်းက ထွန်ပေါ်က ဆင်းလာလို့ ထွန်ထောင်ကိုယ်တော် ထွန်တုံးကိုယ်တော်လို့ ခေါ်ကြတယ်ဘုရား။ အဲဒီတော့ ခေါ်ချင်ရာခေါ် ကောက်ချင်ရာ ကောက်ပေါ့ဘုရား။ ထွန်ဆင်းတော့အမှိုက်ရှင်းတာပေါ့ဘုရားဟု ပြန်လည် လျှောက်ထား လိုက်ရာ ရေလယ်ဆရာတော်က အေး-အေး သဘာဝ ကျလိုက်ထာများလို့ အမိန့်ရှိတော်မူလေသည်။

ရှင်တဝိက ယခု ကသိုဏ်းများကို နောက်နောင် မပွားများလိုတော့ပါ။ပွားများပါက တော်တော်ကြာ လူပျောက်နွားပျောက် အရာ အကြည့်ခိုင်းနေကြရင် ဗေဒင်ဆရာဖြစ်နေတော့မည်ဟု လျှောက်ထားလေ၏။

မိတ္ထီလာဆရာတော်နှင့် ညောင်လွန့်ဆရာတော်တို့သည် တရားထူးများရလျှင် တဦးကိုတဦး ပြောကြစတမ်းဟု ရှေးအခါက ကတိကဝတ် ပြုထားသည် အားလျော်စွာ ရမည်းသင်းမြို့နယ် ညောင်လွန့်ရွာဆရာတော် (ဦးမေဓာဝီ) ထံသို့ မိမိတရားထူးမရသော်လည်း တရားထူးရသော သာမဏေကြီးတပါး မိမိကျောင်းတွင်ရောက်နေ၍ အမြန်လာပါရန် ရေလယ်ဆရာတော်က စာရေး လျှောက်ထားသည့်အတိုင်း ညောင်လွန့်ဆရာတော်သည် မိတ္ထီလာမြို့ ရေလယ်ကျောင်းသို့ ကြွလာပြီးလျှင် ရှင်ကဝိကို ကြည့်၍ ညောင်လွန့် ဆရာတော်က ရေလယ်ဆရာတော်အား “တလင်းပျက်ချင်လျှင်ဆူးလေပေါက်၊ ကျောင်းပျက်ချင်လျှင်-တောထွက်ရောက်”

သည်ဟုပြောရာ ရေလယ်ဆရာတော်က ညောင်လွန့်ဆရာတော်အား အရမ်းမပြောရန်နှင့်ရှင်ကဝိကိုမေးမြန်းစစ်ဆေးပြီးမှ ပြောပါရန် လျှောက်ထားလေသည်။

ညောင်လွန့်ဆရာတော်က ရှင်ကဝိအား မေးတော့မည့်ဆဲဆဲတွင် ရှင်ကဝိက စတင်၍ ဆရာတော်ဘုရား- ဆရာတော်ဘုရား မမေးမြန်းမီ လျှောက်ထားလိုပါသည်ဘုရား။ လောကီ့လောကုတ္တရာ နှစ်လမ်းရှိပါသည်ဘုရား၊ လောကီကိုမေးလျှင် လောကီသက်သက်ကိုသာ မေးမြန်းစိစစ်တော်မူပါဘုရား၊ လောကုတ္တရာသက် မကူးပါနဲ့ဘုရား။ လောကုတ္တရာ မေးရင်လဲ လောကီသက် မကူပါနဲ့ ဘုရား။ လောကီနှင့် လောကုတ္တရာရောမေးလျှင် တပည့်တော် ဖြေလိုစိတ်မရှိပါ ဘုရားဟု လျှောက်ထားလိုက်ရာ…ညောင်လွန့်ဆရာတော်စိတ်ထဲတွင် အင်း တော်တော်ကြီးကြီးကျယ်ကျယ် ပြောပါလားဟု အောက်မေ့မိလေသည်။ ညောင်လွန့်ဆရာတော်သည် ပဌမနေ့တွင် လောကုတ္တရာ သက်သက်ကို မေးမြန်း၍ ဒုတိယနေ့တွင် လောကီ သက်သက်ကိုသာ တဖန်မေးလေ၏။

## ညောင်လွန့်ဆရာတော်၏ အမေးကို ရှင်ကဝိ ဖြေကြားပုံ အကျဉ်းချုပ်

မေး…ရှင်ကဝိ လောကီ ဈာန်အင်္ဂါငါးပါး ပြောစမ်းပါ။

ဖြေ…ဆရာတော် အမိန့်ရှိတဲ့ဈာန်ကို တပည့်တော် မပြောတတ်ပါ ဘုရား။ တပည့်တော် ပြောတတ် သလို ပြောပါရစေဘုရား။

ပြောတတ်သလိုပြောရန်အမိန့်ရှိရာ ဆက်လက်၍ ဆရာတော်ဘုရားပြောတာက ကသိုဏ်းဝန်းပါဘုရား။ ပဌမ–ကသိုဏ်းဝန်းပေါ်ကို အာရုံသိမ်းပြီး တင်လိုက်တယ်၊ ပြီးတော့ ဆင်ခြင်တယ်၊ ကြက်သီးထပြီး တုန်လာတယ်၊ ချမ်းသာနေတယ်၊ တည်ငြိမ်နေတယ်။

မေး….ဘာ–ဘာ–ဘာ့ ရှင်ကဝိရဲ့၊ ပြန်ပြောစမ်းပါဦး။

ဖြေ…ဟောဒါကကသိုဏ်းဝန်းပါဘုရား၊အဲသည်ကသိုဏ်းဝန်းပေါ်ကို အာရုံသိမ်းပြီး တင်လိုက်တယ်၊ ပြီးတော့ ဆင်ခြင်တယ်၊ ကြက်သီးထပြီး တုန်လာတယ်၊ ချမ်းသာနေတယ်၊ တည်ငြိမ်နေတယ်၊ ဘုရား။ အိဒါပါဘဲဘုရား။ အရှင်ဘုရားတို့ အမည်မှည့်ချင်သလို မှည့်၊ ခေါ်ချင်သလို ခေါ်တော်မူပါဘုရား။

အေး–ဟုတ်ပြီ၊ ကသိုဏ်းဝန်းပေါ် အာရုံသိမ်းပြီး တင်လိုက်တာက ဝိတက်၊ ဆင်ခြင်တာက ဝိစာရ၊ ကြက်သီးထပြီး တုန်လာတာက ပီတိ၊ ချမ်းသာတာက သုခ၊ တည်ငြိမ်နေတာက ဧကဂ္ဂတာ၊ ကဲ–ကဲ သဘောကျပါပြီဗျာ ရှေ့ဆက်ပြောပါဟု ခိုင်းသည်အတိုင်း ပဌမဈာန်အထိ ဆက်လက်လျှောက်ထားလေ၏။

မေး….ဒါဖြင့် နေပါအုံး အာကာသာနဉ္စာယတန ဈာန်ဟာ ပညတ် အာရုံပြုသလား၊ ပရမတ် အာရုံပြုသလား။

ဖြေ….ပညတ်အာရုံ ပြုပါသည်ဘုရား။

မေး….ဝိညာဏဉ္စာယတန ဈာန်ဟာကော ပညတ် အာရုံပြုသလား၊ ပရမတ် အာရုံပြုသလား။

ဖြေ….ပရမတ်အာရုံပြုပါသည်ဘုရား။

မေး….အာကိဉ္စညာယတန ဈာန်ဟာကော ပညတ် အာရုံပြုသလား၊ ပရမတ် အာရုံပြုသလား။

ဖြေ….ပညတ်အာရုံပြုပါသည်ဘုရား။

မေး….နေဝသညာနာသညာယတနဈာန်ဟာကော ပညတ် အာရုံပြုသလား၊ ပရမတ်အာရုံပြုသလား။

ဖြေ….ပမရတ်အာရုံပြုပါသည်ဘုရား။

မေး….အာကာသာနဉ္စာယတန ဈာန်က ဝိညာဏဉ္စာယတနဈာန်ကို တက်တော့ အောက်အာရုံ ပြုသလား၊ အထက်အာရုံပြုသလား။

ဖြေ….အောက်အာရုံပြုပြီး တက်ပါသည်ဘုရား။

မေး….ဟင်–ဘယ့်နှယ်မဟုတ်တာ အထက်တက်တာ ဘာကြောင့် အောက်အာရုံ ပြုရမှာတုံးဗျ။

ဖြေ….အောက် အာ ရုံ ပြု ပါ သည် ဘုရား၊ ထိုသည့်တော် ဥပမာနှင့် လျှောက်ထားပါမည် ဘုရား။ ဥပမာ–

ဟောဟိုနားက မစင်ပုံကြီးရှိတယ်၊ အဲဒီမစင်ပုံကြီးထဲ ကျမည့်မိုး၍ အထက် တွယ်တက်ရတာပါ၊ အဲဒါ ကြောင့် အောက်ကို အာရုံပြုပြီး အထက်ကို တွယ် တက်ရတာပါ ဘုရားလို့ ရှင်းလင်း လျှောက်ထား တော့မှ ညောင်လွန့်ဆရာတော် ကျေနပ်သွားတယ်။

(အဲဒီတုန်းက ဆရာတော်များက ရွှေဆက်မမေးလို့ မေး ရင် ဖြေဖို့ အသင့်ရှိတာက အရှုပ္ပတုံမှာ နတ္ထိဘော ပညတ် မရှိလို့ စာကဆိုထားတယ်။ ပညတ်ကိုလဲ အာရုံပြုတယ်လို့ ဆိုတယ်၊ ဘယ်လိုပညတ်ကို ဘယ်ပုံ အာရုံပြုသတုံးလို့ မေး တယ် ဆိုပါတော့၊ ဒီတော့ မရှိပညတ်ကို အာရုံပြုတယ်လို့ ဖြေလိုက်မှာဘဲ။ မရှိပညတ်ကို ဘယ်လို အာရုံပြုသလဲလို့ တစ်မေးရင် ဝစ္စည်းတခုခုပြပြီး ဒီမှာကြည့်စမ်း မြင်တယ် မဟုတ်လား၊ ဖုက်ထားလိုက်ပြီ၊ ရှိသေးရဲ့လား၊ မရှိပါ။ မရှိပေမဲ့ ရွှေကမြင်ဘူးတာကို အာရုံပြုကြည့်စမ်း၊အာရုံပြုလို့ ရတယ် မဟုတ်လား။ အဲဒီလို မရှိပညတ်ကို အာရုံပြုတယ် လို့ ဖြေလိုက်မှာဘဲဟု အမိန့်ရှိတော်မူခဲ့သည်။)

ဤကဲ့သို့ ဆရာတော် (ဦးမေဓာဝီ) သည် ရှင်ကဝိအား ၂-ရက်တိတိ ထောကိ ထောကုတ္တရာ အကြောင်းများကို မေးမြန်းစုံစမ်း စစ်ဆေးပြီးသော်. ရေလယ် ဆရာတော်က ရှေးက ကထိကာဝတ် ရှိ၍သာ ယခုကဲ့သို့ ပင့်ရကြောင်းနှင့် မိမိသဘောကျပါက ယူရန်၊ မကျပါက မယူရန်သာ ရှိ ကြောင်းနှင့် ရှင်ကဝိအား စစ်မေးပြီးပါက ပြန်လည်ကြွနိုင် ကြောင်း အမိန့်ရှိလေသည်။



အိမ်သူ့သဘော····လိုက်လျော၍သာ၊ နောက်ဆုံးပဲကြဲ····ယာထဲ ဆင်းရာ။
ခိုင်းနွားဘေးမဲ့····ပေးခဲ့မြန်စွာ၊ ထွန်ထောင်လျက်····တောထွက်သွားတော့ရှာ။



တရားအားတက်….တောထွက်ခဲ့သည်၊ ဒေါ်တင်လှူဒါန်း….သင်္ကန်းကေသီ။
ဘုန်းကြီးဦးကျောက်….ချီးမြှောက်ဝတ်ထည်၊ ရှင်ကဝိ….ဖြစ်ဘိမောင်ရင်မည်။

ညောင်လွန့်ဆရာတော် (ဦးမေဓာဝီ) သည် မည်သို့မျှ ပြန်လည် မမိန့်ကြားဘဲ တတိယမြောက်နေ့တွင် မိမိ သီတင်းသုံးရာ ညောင်လွန့်ကျောင်းသို့ ပြန်ကြွတော် မူလေ၏။ မိမိကျောင်းသို့ ရောက်သောအခါ ညောင်လွန့်ဆရာတော်သည် ရှင်ကဝိ၏ ဖြေဆိုချက် များကို ဘုရားဟောပါဠိတော် ကျမ်းအစောင်စောင်တို့နှင့် သုံးရက် တိုင်တိုင် တိုက်ဆိုင်ကြည့်ရာ ကိုက်ညီကြောင်း တွေ့ရသည်နှင့် မိမိကျောင်းတွင်းရှိ စာသင်သားအားလုံးကို တုံးခေါက်ခေါ်တော်မူ၍ ရှင်ကဝိ ရရှိသောတရားများကို ပြန်လည်ပြောကြားပြီး ၎င်းအတိုင်း ကြိုးစားအားထုတ်ကြရန် တိုက်တွန်းလေသည်။

မိတ္ထီလာ ရေလယ် ဆရာတော်က သာမဏေကြီး ရှင်ကဝိအား ရဟန်းဘောင်တက်ရန်ပြောသောအခါ ရှင်ကဝိက မိမိ စာမတတ်ကြောင်း, သင်လည်း မသင်လိုတော့ကြောင်း၊ ဝိနည်း ဝိနက်ကိုလည်း မသိကြောင်း၊ မိမိရပြီး, သိမြင်ပြီး တရားကိုသာ ဆက်ထက် နှလုံးသွင်း၍ နေမည့် အကြောင်းများ လျှောက်ထားပြီးလျှင် ပဉ္စင်း မတက်လိုကြောင်း ငြင်းဆိုလေသည်။ ထိုအခါ ရေလယ်ဆရာတော်က "ဝိနည်းကို သင်ဘို့မလိုပါ၊ ကျုပ်တို့ ပြောတဲ့စကားနားထောင်လျှင် ပြီးရောပေါ့။ ရှင်ကဝိကဲ့သို့ ပုဂ္ဂိုလ်တဦးဟာ ရဟန်းဘောင်ရောက်ပြီး၍ ရဟန်းတပါးလောက် ကံဆောင်ပေးရသည် ဖြစ်စေ, သိမ်တခုမျှ သမုတ်ပေးရသည် ဖြစ်စေ, သာသနာမှာ အလွန် အကျိုး ကြီးပါသည်" ဟု

ပြောဆိုတိုက်တွန်းပြန်သဖြင့် သဘောတူပြီးလျှင် ၁၂၀၂ခု-နှစ် တပေါင်းလပြည့်ကျော် ၁၂-ရက် တနင်းသာနေ့ညနေ ၄-နာရီ ၉-မိနစ်အချိန်တွင် မိတ္ထိလာမြို့ ရေလယ်ကျောင်းတိုက် ခဏ္ဍသိမ်တွင် ရှင်ကပိနှင့် ရှင်ဝိဇယ နှစ်ပါးလုံးကို ယင်းနှီးကန် ဆရာတော်အား ဥပဇ္ဈာယ်အဖြစ်၊ ရေလယ်ဆရာတော်, ညောင်လွန့် ဆရာတော်နှင့် တကွ ရဟန်းတကျိပ်ကျော်တို့က ကမ္မဝါ ဆရာများအဖြစ် အသီးအသီးရာထားလျက် ရဟန်းဘောင်သို့ သွတ်သွင်း ချီးမြှောက်ပေးလေသည်။ မိတ္ထိလာမြို့နေ ပွဲစားဦးပေါ်နှင့်ဒေါ်ကျီးညိုတို့သည် ဦးကပိ၏ ရဟန်း ဒါယကာ - ဒါယိကာမများဖြစ်ကြလေသည်။

---

## ရှေးဦးစွာ ဟောကြားတော်မူအပ်သော ဥဒါန်းတရားတော်ကြီး

ဦးကပိ ဆရာတော်သည် ရဟန်းဘောင်သို့ တက်ရောက်ပြီး မိတ္ထိလာ ရေလယ်ကျောင်းတိုက်၌ သီတင်းသုံးနေတော်မူရာမှ ၁၂၀၃-ခုနှစ်တွင် မြင်းခြံမြို့စွန်းလွန်းရွာသို့ခေတ္တပြန်ထည်ကြွလာရာ စွန်းလွန်းရွာမှ ဒါယကာ-ဒါယိကာမများက ဦးကပိဘုန်းကြီးအဖြစ်နှင့် မည်ကဲ့သို့နေထိုင်သည်ကို သိလိုကြ၍ "ဦးကပိ အရှင်ဘုရား-တပည့်တော်များ အနေ့ရာယ်ကင်းပရိတ်ရွတ်, ကမ္မဝါဘတ်, အရှင်ဘုရား တရားလိုလနာလိုပါတယ်ဘုရား။ တရားဟောချီးမြှင့်တော်မူပါဘုရား"

ဟု လျှောက်ထားလေ၏။ ထိုအခါဦးကဝိသည် ဝန်ခံလိုက် တော်မူပြီးလျှင် စဉ်းစားမိသည်မှာ ပရိတ်ရွတ်, ကမ္မဝါသတ် ခြင်းသည် အများနှင့်ဖြစ်၍ မခက်၊ တရားဟောတဲ့ ကကော့ တပါးသွား ဖြစ်တယ်၊ တရား ဟောရန် မိမိထွင် ကျက် မှတ်ထားသည်ကလည်းမရှိဟု စဉ်းစားနေစဉ်၊ မိန်းကလေး တွေ ပရိတ်အိုးများကို သူ့အိုးငါ့အိုးမှတ်သားလျက် ကိုယ် စီကိုယ်ငှလာ၍ ထားကြသည်ကို မြင်ရလျှင် ငါတော့တရား အစတော့ဖြင့်ရပြီ၊ သည်ပရိတ်အိုးတွေကို အကြောင်းပြုပြီး တရားဟောရတော့မှာဘဲဟု စိတ်ကိုဆုံးဖြတ်လိုက်ခါ တရား ဟောတော်မူသည်မှာ....

**သတ္တဝါ**များမှာ ကုသိုလ် အကုသိုလ် နှစ်ပါး ရှိတယ်။ **ကုသိုလ်က** အကျိုးပေးတော့ ကိုယ့်အလို ပြည့်ပြီး ပြုံးပြုံး ပြုံးပြုံးနှင့် နေတာပေါ့လေ၊ အကုသိုလ်က အကျိုးပေးတော့ ရှုံ့ရှုံ့မဲ့မဲ့နဲ့ နေတာပေါ့၊ ဥပမာ ဟော့-ဟောဟို အနားမှာ ကန်ကြီးရှိတယ်မဟုတ်လား၊ ရှိပါရဲ့ဘုရား။ အဲသည်ကန်ကြီး ဟာ ကျိုးနေရင် ကောင်းပါ့မလား၊ မကောင်း ပါဘုရား။ ပေါက်နေရင်ကောကောင်းပါ့မလား၊ မကောင်းပါဘုရား။ အဲသည်တော့ အဲသည်ကန်ကြီး ကျိုးနေတာကို ဆယ်လိုက် စမ်း၊ ပေါက်နေတာကို ဖာလိုက်စမ်း၊ ကန်ကောင်း သွား တာပေါ့ဘုရား။ သတ္တဝါ တဦးတယောက်ဟာ အကုသိုလ် ကံ ဖိစီးနှိပ်စက်လာရင် ကန်ကျိုးတာနဲ့တူတယ်၊ ကံပေါက် တာနဲ့ တူတယ်၊ အဲသည်တော့ "ကံကျိုးလျှင် ကံဆယ်၊ ကံပေါက်လျှင် ကံဖာ၊ ကံဆင့်တော့ ကံမြင့်" ဆိုသလိုပေါ့၊

ဘယ်လိုများ ပြုရပါမလဲဆိုလျှင် ပရိတ်တရား နာယူခြင်း၊ ဘုရားကိုးဆူ ကပ်လှူခြင်း၊ သဲပုံစေတီ တည်ခြင်း၊ ညောင်ရေလောင်းခြင်း၊တံတားခင်းခြင်း၊ သံဃာတော်များ ဆွမ်းကပ်လှူခြင်း၊ အဲသည်လို ကုသိုလ်ကောင်းမှုများကို ပြုလုပ်တော့ ကံကျိုးလျှင် ကံဆယ်၊ ကံပေါက်လျှင် ကံဖာ၊ ကံဆင့်တော့ ကံမြင့် ဆိုသလိုပေါ့၊ အဲသည်လို ယုံယုံ ကြည်ကြည်နှင့် အဟုတ်ဘုရားကိုလဲ အားကိုးမယ်၊ အဟုတ် တရားကိုလဲ အားကိုးမယ်၊ အဟုတ်သံဃာကိုလဲ အားကိုးမယ်ဆိုပါလျှင် ကိုးဆယ်ခြောက်ဖြာ ရောဂါဝေဒနာများ ကွယ်တတ်တယ်၊ ပျောက်တတ်တယ်၊ စည်းစိမ်ဥစ္စာလဲ တိုးတက်ပါတယ်။

အားကိုးလဲ မှားကြအုံးမယ်။ ဒို့တော့ နောက်တုန်းက အားကိုးမှားတဲ့ အကြောင်းတွေ ပြန်ပြော ရအုံးမှာပေါ့၊ ဘယ်လိုများ အားကိုးမှားခဲ့သလဲဆိုပါလျှင် မြတ်စွာဘုရား ပွင့်တော်မူ၍ ဂုဏ်ကျေးဇူးကတော့ရှိပါရဲ့၊ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊ ဓမ္မံ သရဏံ ဂစ္ဆာမိ၊ သံဃံ သရဏံ ဂစ္ဆာမိ-လို့ ဆိုတယ်၊ ဘုရားရတနာကိုလဲ အားကိုးရမယ်၊ တရားရတနာကိုလဲ အားကိုးရမယ်၊ သံဃာရတနာကိုလဲ အားကိုးရမယ်-လို့ ဆိုတယ်။ ဒို့တော့ ဟုတ်ပေါင်၊ သား-သရဏံ ဂစ္ဆာမိ၊ သမီး-သရဏံ ဂစ္ဆာမိ၊ အဖော်ခင်ပွန်း-သရဏံ ဂစ္ဆာမိ၊ သားကိုလဲအားကိုးလိုက်တာ၊ သမီးကိုလဲ အားကိုးလိုက်တာ၊ အတူနေတဲ့ အဖော်ခင်ပွန်းကိုလဲ အားကိုးလိုက်တာ၊ အဲသည်လို အားကိုးမှားတော့ သာကွယ်သတုံး၊ ဘုရားရတနာကွယ်တယ်၊ တရားရတနာ ကွယ်တယ်၊ သံဃာရတနာ ကွယ်တယ်၊

တို့ကွယ်တာပြောတာနော်၊ သူတကာကွယ်တာ ပြောတာ မဟုတ်ဘူး။ အဲသည်လိုအားကိုးမှားတုန်းက ကိုယ်လုပ်ခဲ့တဲ့ အလုပ်တွေကို ပြန်ပြောရအုံးမှာပေါ့၊ မိမိမှာ သားသမီး ကလဲရှိတော့ ထက်ဝတ်တန်းဆာ အလွန်ဆင်ချင်တာပေါ့၊ အဲသည်လို ဆင်ချင်တော့ သူတကာ အိတ်ကပ်ထဲက ရှိတဲ့ ပိုက်ဆံကို မရ-ရအောင်ကြံ၊ ကြံလို့မျှားရတော့, ငါ-ပါးလို့ ငါ့ထယ်လို့ ရတယ်လို့ အောက်မေ့တယ်။ အဲသည်လိုမျှား ရတော့ မိမိသားသမီးကလေးတွေကို လက်ဝတ်တန်းဆာ ဆင်ပေးတာပေါ့၊ လက်ဝတ်တန်းဆာ ပြည့်စုံလာတော့ အလွန်ပျော်တာပေါ့၊ ဘယ်လောက်မျှားပျော်တယ် မပျော် တယ်မပြောပါနဲ့တော့ သားကလေးနဲ့ပျော် သမီးကလေးနဲ့ မော် ဆိုသလိုပေါ့လေ ဘုရားသွားအတူတူ၊ ကျောင်းသွား အတူတူ၊ ပွဲဆင်းသဘင်သွားအတူတူ၊ပျော်လိုက်တာ၊ ပါး လိုက်တာ၊ မော်လိုက်တာ၊ မောက်လိုက်တာ၊ ကြွားလိုက် တာ၊ ငိုယိုတာ၊ အဲသည်အခါတုန်းကလေ ကိုယ်မလုပ် ချင်ဘဲနဲ့ လုပ်ခဲ့ရတဲ့အလုပ်တွေကို ပြန်ပြီးပြောရအုံးမှာပေါ့၊ မနက် စောစောကြီး မြွေ မကြောက် ကင်း မကြောက်နဲ့ ယာထွန် သွားရတယ်။ အဲသည်တော့ ထယ်ကိုလဲ မထွန်ချင် ဘဲနဲ့ ထွန်ရတယ်၊ ယာကိုလဲ မထွန်ချင်ဘဲနဲ့ ထွန်ရတယ်။ အဲဒါ ဘာ့ကြောင့်တုန်း ကာမဂုဏ်မွဲ ရာဂစွဲ၍ အားကိုးမှား လို့ဗျ၊ အားကိုးမှားလို့။ ထယ်မရိတ်ချင်ဘဲနဲ့ ရိတ်ရတယ်။ ပြောင်းကိုလဲ မရိတ်ချင်ဘဲနဲ့ရိတ်ရတယ်၊ အဲဒါဘာကြောင့် တုန်း-ကာမဂုဏ်မွဲ ရာဂစွဲ၍ အားကိုးမှားလို့ဗျ၊ အားကိုးမှား လို့။

(ထိုနောက် သူကြီးကတော်နှင့် သူကြီးသမီးကို မြင်လေရာ) ဆူးတားကြီး မလုပ်ချင်ဘဲနဲ့ လုပ်ရဘာယ်၊ ကစ်းတဲကြီးပေါ်မှာလေ ကင်းမစောင့်ချင်ဘဲနဲ့စောင့်ရတယ်၊သူကြီးအိမ်က မောင်းကြီးကလေ ဒူ-ဒူ-ဒူ-နဲ့ ထုပြီး ခေါ်တော့လဲ မသွားချင်ဘဲနဲ့သွားရတယ်။ အဲတာကာကြောင့်တုံး၊ ကာမဂုဏ်မွဲ ရာဂစွဲ၍ အားကိုးမှားလို့ဗျ၊ အားကိုးမှားလို့။ တို့အားကိုးမှားတာ ပြောတာ သူတကာ အားကိုးမှားတာ ပြောတာမဟုတ်ဘူး။ ဘာကြောင့် အားကိုးမှားသလဲ၊ မသိလို့ အားကိုးမှားတယ်။ အဲဒါကြောင့် မသိလို့လိုချင်၊ လိုချင်လို့ စွဲလမ်း၊ စွဲလမ်းတော့ပြုလုပ်၊ ပြုလုပ်တော့ရရှိ၊ ရရှိတော့ခံရ။ မသိတာက အဝိဇ္ဇာ၊ လိုချင်တာက တဏှာ၊ စွဲလမ်းတာက ဥပါဒါန်၊ ပြုလုပ်တာက သင်္ခါရ၊ ရရှိတာကဘဝ၊ အဝိဇ္ဇာနှင့် တဏှာ နှစ်ပင်ပူးလို့ အကြောင်းပြုလိုက်တော့ ဇာတိတရားကြီး ရတယ်။ ဇာတိတရားကြီး ရတော့ ဝဋ်ကောင်ကြီးရတယ်၊ ဝဋ်ကောင်ကြီးရတော့ ခံရတာပေါ့။ တို့ခံရတာကို ပြောတာနော်၊ သူတကာခံရတာကို ပြောတာမဟုတ်ဘူး၊ ခံရမှာပေါ့၊ သညာက-လိမ်ထားတာကို။

အဲဒါကြောင့် "မြင်တာကို သညာဖုံးတယ်၊ သညာကို သက်ာရှင်းမှ သက်ာကင်းမယ်။ မြင်တာကို သက်ာမရှင်းတော့ သက်ာမကင်းတယ်" မြတ်စွာဘုရားက အနိစ္စလို့ဟောတယ်၊ သညာက နိစ္စလို့လိမ်ထားတယ်။ မြတ်စွာဘုရားက ဒုက္ခလို့ ဟောတယ်၊ သညာက သုခလို့ လိမ်ထားတယ်။ မြတ်စွာဘုရားက အနတ္တလို့ ဟောတယ်၊ သညာက အတ္တ

လို့ လိမ်ထားတယ်။ မြတ်စွာဘုရားက အသုဘလို့ ဟောတယ်၊ သညာက သုဘလို့လိမ်ထားတယ်။ သညာ့ရဲ့အလိမ်ခံရလို့ ဒုက္ခရောက်တယ်။ အဲသည့် သညာ၏ အလိမ်ကို မြတ်စွာဘုရားကိုယ်တော်မြတ်ကြီးက သတိပဋ္ဌာန် လေးပါးနဲ့ သက်ာရှင်းလျှင် သက်ာ ကင်းတယ်လို့ ဟောတယ်။ ဘယ်လိုများ ရှင်းပေးပါမလဲ ဆိုလျှင်…ကာယာ နုပဿနာ သတိပဋ္ဌာန်က သုဘသညာကို ရှင်းပေးတယ်။ ဝေဒနာ နုပဿနာ သတိပဋ္ဌာန်က သုခသညာကို ရှင်းပေးတယ်၊ စိတ္တာနုပဿနာ သတိပဋ္ဌာန်က နိစ္စသညာကို ရှင်းပေးတယ်၊ ဓမ္မာနုပဿနာ သတိပဋ္ဌာန်က အတ္တသညာကို ရှင်းပေးတယ်၊ မိမိ၏ခန္ဓာကိုယ် ကာယတံခါးကို တိတော့သိတယ်။ သိတဲ့အပေါ်မှာ သတိ ထားနေမှဖြစ်မဲ့ သတိပဋ္ဌာန်တရားလေးပါး ပြည့်စုံနေတယ်။ ဘယ်လိုများပြည့်စုံပါသလဲဆိုရင် ထိမှုသက်သက်ကို သတိ ပြုနေတာက ကာယာနုပဿနာ သတိပဋ္ဌာန်လို့ခေါ်တယ်၊ ထိတော့ ဖောက်ား ဝေဒနာ ခံစားမှု သဘောကို သတိပြုနေ တာက ဝေဒနာနုပဿနာ သတိပဋ္ဌာန်လို့ခေါ်တယ်။ သိမှုသက်သက်ကို သတိပြုနေတာက စိတ္တာနုပဿနာ သတိ ပဋ္ဌာန်လို့ ခေါ်တယ်၊ နီဝရဏ တရားတွေ ငြိမ်းပြီး သူ့သဘောကို သူဆောင်တာကို သတိပြုနေတာက ဓမ္မာနုပဿ နာ သတိပဋ္ဌာန်လို့ ခေါ်တယ်၊ အဲသည့်လို သတိပဋ္ဌာန် လေးပါးနှင့် သက်ာရှင်းလိုက်တော့ သက်ာ ကင်းသွားတာ ပေါ့၊ အနိစ္စကိုအနိစ္စမှန်းသိတယ်၊ ဒုက္ခကို ဒုက္ခမှန်းသိတယ်၊ အနတ္တကို အနတ္တမှန်းသိတယ်။ အသုဘကို အသုဘမှန်းသိ တယ်။ အဲသည့်လို သက်ာရှင်းသွားတော့၊ ကြွားချင်တယ်,

ငါချင်တယ်, မော်ချင်တယ်, မောက်ချင်တယ် ဆိုတာယာလေ အဝါစိတ်လို့ခေါ်တယ်၊ အဝါစိတ်ဆိုတော့ အဝိဇ္ဇာပေါ့။ သူတကာအိတ်ထဲကပိုက်ဆံကို မြင်ရအောင်ကြီး။ ကြီးလို့များရတော့ ငါပါးလို့, လယ်လို့ရတယ်။ အဝါးလယ်တော့ အပါယ်လားမှာဘဲ။ အဝါစိတ်-အဝိဇ္ဇာ၊ အပါးလယ်တော့ အပါယ်လား။

ငါတော့နေရာမကျဘူး, အားကိုးပြောင်းမှာဘဲ၊ သားကိုထဲ အားမကိုးပေါင်၊ သမီးကိုလဲ အားမကိုးပေါင်၊ အတူနေတဲ့အဖော်ခင်ပွန်းကိုလဲအားမကိုးပေါင်၊ဘာကိုအားကိုးမလဲ၊ ဘုရားအားကိုးပါ၏။ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊ ဓမ္မံသရဏံ ဂစ္ဆာမိ။ သံဃံ သရဏံ ဂစ္ဆာမိ။ ဘုရားကို အားကိုးခြင်းကြောင့်၊ တရားကိုအားကိုးခြင်းကြောင့်၊သံဃာကို အားကိုးခြင်းကြောင့်၊ လယ်တွန်မှုကြီး ကွယ်ပြီဗျ၊ ယာထွန်မှုကြီးလဲ ကွယ်ပြီ၊ လယ်ရိတ်မှုကြီးလဲ ကွယ်ပြီ၊ ပြောင်းရိတ်မှုကြီးလဲ ကွယ်ပြီဗျ။ ဆူးတားလုပ်မှု ငြိမ်းပြီ၊ သူကြီးအိမ်က မောင်းကြီးဟာလေ ဒူ....ဒူ....ဒူ ...နဲ့ ထုချင်တိုင်းထု ကွဲသာကွဲမယ် ငါမသွားဘူး။ ယခု သာသနာ့ဘောင် ရောက်တော့ ထေ အေးလိုက်တာ,မြလိုက်တာ, ချမ်းသာလိုက်တာ,ကျီကိုလဲ မီးလောင်းစရာမရှိ။ ကျူကိုလဲ မီးလောင်းစရာမရှိ။ စိုးသူပိုင်သူလဲမရှိထသော၊ ဆူသူပူသူလဲမရှိထသော၊ စောင်းသူမြောင်းသူလဲ မရှိ ထသော၊ ငိုသူ ယိုသူလဲ မရှိထသော၊ ဆောင့်သူ အောင့်သူလဲ မရှိထသော၊ ချော့သူ မော့သူလဲ မရှိထသော၊ အေးလိုက်တာ, မြလိုက်တာ, ချမ်းသာလိုက်

တာ, အဲဒါကြောင့် "ဒုက္ခခပ်သိမ်း၊ ချုပ်ငြိမ်းပြတ်ငြိမ်း၊ ဇာတ်သိမ်းပြည်နိဗ္ဗာန်" စေ့စေ့တွေးတော့ ရေးရေးပေါ် ဆိုသလို ပေါ့လေဟု တရားဟော ချီးမြှင့်တော်မူလေသည်။

ဦးကာဝိ ရဟန်းဘောင်တက်ပြီးနောက် မကြာမီ ဒေါ်ရွှေရီလိုက်လာပြီ လျှင် လှူဝတ်လဲရန်အမျိုးမျိုး ဇိုယ်လိုလျှောက်ထားရာ ရေလယ်ဆရာတော်က မိမိ၏ ဝမ်းနည်းကြေကွဲလာသဖြင့် ငိုချင်လာတော့သည်ဟု အမိန့်ရှိလေ၏။ ထိုအခါ ဒေါ်ရွှေရီသည်ဦးကာဝိအားလှူဝတ်လဲရန်အမျိုးမျိုးလျှောက်ထား၍မရသည်နှင့် အောက်ပါကတိလေးချက်ကို လျှောက်ထားပြန်၏။

၁။ ပစ္စည်းလေးပါး ဒါယိကာမ ပြုလုပ်ခွင့်ပေးရန်။

၂။ တရားဟောပြ သုံးမတော်မူပါရန် လျှောက်ထားသောအခါ တရားဟောရန်။

၃။ မိမိကိုယ်တိုင် ကျောင်းဆောက်ကိုးကွယ်ပင့်ဆောင်နိုင်သည့်အခါ စွန်းလွန်းရွာသို့ ပြန်ကြွရန်။

၄။ မိမိအားလည်း မိမိသဘောအတိုင်း နေထိုင်ခွင့်ပြုရန်-ဖြစ်လေသည်။

၁၂၈၄-ခုနှစ် မိတ္ထိလာမြို့ရေလယ်ကျောင်းတိုက်သို့ ဦးစံတင်လိုက်လာ၍ "ဆရာတော်ဘုရား-အရှင်ဘုရား လူ့ဘဝတွင်ရှိစဉ်က တပည့်တော်ရှုထိပြဘူးသည့်ထဘောင်အတိုင်း ယခု စွန်းလွန်းရွာ တောင်ဘက်မှာ ချည်စက်ကြီး ပေါ်နေပါပြီ ဘုရား။ သို့ဖြစ်ပါသောကြောင့်၊ ယခုနှစ်ကစ၍ ပရိ

ပတ္တိသာသနာပြုဘို့ အချိန်ရောက်နေပါပြီ ဘုရား၊ ပဋိပတ္တိသာသနာပြုရန် စွန်းလွန်းရွာသို့ပြန်ကြွတော်မူပါရန် တပည့်တော်လျှောက်ထားလာရင်းဖြစ်ပါသည်ဘုရား။ အရှင်ဘုရားကြွလာမည်ဆိုပါလျှင် တပည့်တော်သည် မရွှေရီနှင့် တိုင်ပင်ပြီး ကျောင်းဆောက်လုပ်ပါမည် ဘုရား။ ကျောင်းဆောက်ပြီးပါက တပည့်တော်လဲ ရဟန်းခံမည်ဖြစ်ပါသည်ဘုရား"ဟု လျှောက်ထားသဖြင့် ဆရာတော် ဦးကဝိသည် ပဋိညာဉ်ပေးတော်မူလိုက်လေ၏။

ဦးစံတင်လည်း ဆရာတော်ဦးကဝိ၏ ပဋိညာဉ်အရ စွန်းလွန်းရွာသို့ပြန်၍ မရွှေရီအား မောင်ရင်ပေါ်ချောက်တွင် ကျောင်းဆောက် ခိုင်းလေသည်။ ဦးစံတင်သည် ရဟန်းခံ၍ မောင်ရင်ပေါ်ချောက်ကပင် ဆရာတော် ဦးကဝိကြွလာတော် မူမည်ကို စောင့်ဆိုင်းရင်း မရွှေရီအား ဆရာတော် ဦးကဝိကိုပင့်ရန်မိတ္ထီလာမြို့သို့ လွှတ်လိုက်လေ၏။

(ကျောင်းတိုက် တည်ထောင်သည့် နေရာဌာနတွင် ကျွန်းဗိုပင်များရှိသည့်ပြင် ကွမ်းတိုင်နှစ်လုံး ဆိုသည်မှာ ကွမ်းခြံကုန်းမှ ရဟန်းတပါးနှင့် ကွမ်းစိုက်က ရဟန်းတော်ထပါးရှိသည်ကို ကွမ်းတိုင်နှစ်လုံးဟု ဆိုလိုသည်။)

## မရွှေရီလာ၍ပင့်ခြင်း

မရွှေရီသည် မိတ္ထီလာမြို့သို့ လိုက်သွားပြီးလျှင် ဆရာတော် ဦးကဝိအား စွန်းလွန်းရွာသို့ ပြန်လည်ကြွမြန်းတော်မူ၍ ကျောင်းထိုင်ပါရန် လျှောက်ထား တောင်းပန်လေသည်။

၁၂၇၄-ခုနှစ် ဝါဆိုဦးတွင် ဆရာတော် ဦးကဝိသည် မိတ္ထီလာမြို့-ရေလည်ကျောင်းတိုက်မှ စွန့်လွှန်းရွာ အရှေ့ မောင်ရင်ပေါ်ချောက်သို့ ဝါကပ်ကျောင်းထိုင်ရန်ပြန်လည် ကြွတော်မူ၍ ၎င်းနှစ် မောင်ရင်ပေါ်ချောက်တွင် ပဋိပတ္တိ သာသနာ ပြုသော အားဖြင့် သမာဓိ မရကြသေးသော ပုဂ္ဂိုလ်များကို သမာဓိရစေရန်နှင့် သမာဓိရပြီးသောပုဂ္ဂိုလ် များ လိုရာကိစ္စ ပြီးစီးရန် စောင့်ရှောက်တော်မူ၍ သမထ ဝိပဿနာဖြစ်သော အာနာပါန ကမ္မဋ္ဌာန်းတရားကို ဟော ပြောပြသ ဆုံးမလျက် တဝါကျွတ်လေသည်။

---

၁၂၇၇-ခုနှစ် ကဆုန်လဆုတ် ၄-ရက်နေ့
ပဲခူးမြို့ အဗျားရွာတွင် ဖက်ပင်အိုင်ဆရာတော်ကြီးက,မြင်းခြံ
ဆရာတော်ဦးကဝိအား မေးမြန်းပြောဆိုခြင်း

## အကျဉ်းသခင်ပမှတ်တမ်း

မေး....စက္ခုနဲ့ ရူပါရုံ ပြိုင်သောအခါ စက္ခုက ရူပါရုံထံ သွားသလား၊ ရူပါရုံက စက္ခုထံ လာသလား။

ဖြေ....စက္ခုကလဲမသွား၊ ရူပါရုံကလဲ မလာပါဘုရား။

မေး....ဒါဖြင့် ဘယ့်နှယ်မြင်နိုင်သတုံးဗျ။

ဖြေ....သူ့သတ္တိက ရှေးရှုသောအခါ မြင်ခြင်း၄ာ စွမ်းနိုင် ပါ၏ ဘုရား။

မေး····ဒါဖြင့် ရှုပါရုံက လာတာပေါ့ဗျား။

ဖြေ····မလာပါဘုရား။ (ဥပမာ) နေကိုကြည့်သော သူသည် နေ၏သတ္တိအရောင်အလင်း မျက်စိကျိန်းခြင်းသာ ရှိပါ၏ဘုရား၊ နေဝန်းကြီးက မျက်စိထဲဝင်လာသည်မဟုတ်ပါ။ မျက်စိကလဲ နေဝန်းထဲ ဝင်သွားသည် မဟုတ်ပါဘုရား။

မေး····ဒါဖြင့်နေပါဦးတော့ဗျာ၊ နိဗ္ဗာန်အကြောင်း ပြောစမ်းပါ။

ဖြေ····နိဗ္ဗာန်ဆိုတာ ဘုရား-(ဥပမာ) ယောဂီ ပုဂ္ဂိုလ်တယောက်သည် ဝိပဿနာ အားထုတ်၍ စိတ်, စေတသိက်,ရုပ်တရားတို့၏ ဖြစ်ခြင်းပျက်ခြင်းကို အလွန်ကြီးမားသော ဆင်းရဲကြီးဟု ငြီးငွေ့လျက် ဆင်းရဲခြင်း၏ အကြောင်းကိုရှာက တဏှာကို သိရသည်နှင့် တပြိုင်နက် မဂ်က ၎င်းတဏှာကို ပယ်လိုက်တော့ အကြောင်းအကျိုး ပြယ်သွားပါရော၊ အဲဒီရှေးဦးစွာ မဂ်က မပယ်မီ ဖြစ်ပျက်နေတာ သင်္ခတ။ နောက်တော့ အကြောင်းအကျိုးပြတ်၍ ဘာမှမရှိတာက တော့ အသင်္ခတ နိဗ္ဗာန်ပါဘဲဘုရား။

မေး····၎င်းနိဗ္ဗာန်မှာ နေဝန်း လဝန်း သဏ္ဌာန်များလို အရောင်တွေများ ရှိပါသလား။

ဖြေ····အရောင်တွေမရှိပါဘုရား။

မေး····ဒါဖြင့် ဘယ့်နှယ်နေသတုံး ပြောပမ်းပါဗျာ။

ဖြေ····ပြောစရာမရှိပါဘုရား။

မေး····ဒါဖြင့် နိဗ္ဗာန်မရှိဘူးလား။
ဖြေ····ရှိပါရဲ့ဘုရား။
မေး····စိတ်,စေတသိက်,ရုပ် နိဗ္ဗာန်လို့ ပရမတ်တရားလေးပါးရှိ မဟုတ်လားဗျ။
ဖြေ····ရှိပါတယ်ဘုရား။
မေး····အဲဒီ ပရမတ် ပြောပါဗျား။
ဖြေ····ဆရာတော်ဘုရား–ဦးကဝိက ပရမတ်ဆိုလျှင် ဘာမျှပြောစရာမရှိ ထက်ပိုက်ထိုင်နေရုံသဲ
မေး····နေစမ်းပါအုံးဗျ ယောဂီရွှေတုံးကြီးဆို ခဲလို့ပြောဆိုကာမျှဖြင့် ငှင်းရွှေတုံးကြီး ခဲဖြစ် သွားမှာလားဗျ ပြောစမ်းပါအုံး။
ဖြေ····ခဲမဖြစ်ပါဘုရား။ သို့သော်လဲ ဂုဏ်တရားကြီးလို မြင်ဝဏ္ဏနှင့် ထင်ရှားမပြနိုင်ပါ၊ နာမ်ရုပ်တို့ ဥပါဒ်ဌီ,ဘင်မရှိ၊ ချုပ်ငြိမ်းသွားတာကို နိဗ္ဗာန်လို့ခေါ်တာဘဲ။
မေး····ဉာဏ် ၁၀-ပါး ပွားများတာ ပြောစမ်းပါဗျား။
ဖြေ····(ဥပမာ) ယောဂီပုဂ္ဂိုလ် တထောက်သည် အာနာပါနနှင့် သမာဓိ ရင့်သော အခါ မိမိကိုယ်ပေါ်မှာ ဝေဒနာကို သတိနှင့် လိုက်ပါရောဘုရား။ အဒါနှင့် ပဋ္ဌမကတော့ ဉာဏ် အားဖြင့် ဝေဒနာပေါ်ပြီးနောက် ဖြစ်ခြင်း ပျက်ခြင်း မွေတို့ ဟုတ်တိုင် မှန်စွာမြင်ပါရော၊ ဒါနဲ့ ကြောက်ခြင်း ရွံရှာခြင်း ဖြစ်ပါရောဘုရား။

မေး…ဉာဏ် ၁၀-ပါးဟာ တခုစီပွားရမည် မဟုတ်လားဗျ။
ဖြေ…တခုစီ ပွားကာက ကိုယ့်အလိုပါဘုရား။
မေး…တခုစီ မပွားလျှင် ဘယ့်နှယ် လုပ်မှာတုံးဗျ။
ဖြေ…သမ္မသနဉာဏ် သုံးသပ်ရုံမျှနှင့် ဖြစ်ပျက်ခြင်း ကြောက်ခြင်း ရွံခြင်း စသည် ဖြစ်ပွားပါရောဘုရား။

နေစမ်းပါအုံးဗျာ၊အင်း-ဒီဟာကသမ္မသနဉာဏ်၊ သုံးသပ်လိုက်တော့ ဖြစ်ပျက်တာကဥဒယဗ္ဗယဉာဏ်၊ ပျက်တာက ဘင်ဉာဏ်၊ ကြောက်တာက ဘယဉာဏ် ရွံတာက အာဒီနဝဉာဏ်၊ အေး-ဟုတ်ပေတယ်ဗျ ဟုတ်ပေတယ်။

မေး…ဦးကဝိရဲ့-လောကမှာ ပညတ်အားဖြင့် သောတာပန်, သကဒါဂါမ်, အနာဂါမ်, ရဟန္တာလို့ ရှိကြ မဟုတ်လား။
ဖြေ…ရှိပါရဲ့ဘုရား။
မေး…အဲဒီပုဂ္ဂိုလ်များဟာ အစဉ်အတိုင်းတောက်လျှောက် သောတာပန်,သကဒါဂါမ်,အနာဂါမ်, ရဟန္တာလို့ တက်သွားသလား။
ဖြေ…မတက်ပါဘုရား။
မေး…ဒါဖြင့်ဘယ်လိုတက်ရတုံးဗျ၊တက်ပုံပြောစမ်းပါဗျာ။
ဖြေ…(ဥပမာ) ယောဂီပုဂ္ဂိုလ် တယောက်ဟာ သမ္မသနဉာဏ်ကို သုံးသပ်၍ ဉာဏ်ဆယ်ပါး ကုန်သွားပြီးနောက် ပညတ်အားဖြင့် ၎င်းပုဂ္ဂိုလ်ကို သောတာပန်ဟု ခေါ်ကြပါတယ်ဘုရား။

ဂုဏ်းနောက် သမ္ဗုဒ္ဓနည်းက် သုံးသစ်အုံး၊ ညက် ၁၀-ပါး ကုန်ပြန်က သကဒေါဂါမ်လို့ ခေါ်ကြပါတယ်ဘုရား၊ ဤကဲ့သို့ လေးကြိမ်တက်က ရဟန္တာလို့ ခေါ်ကြပါတယ်ဘုရား။ (လောကီစကား အလွန်များသောကြောင့် မရေးပြီ။)

---

## သထုံမြို့ နေမိန္ဒရတောင်တွင် သိမ်သမုတ်ခဏ်း

သထုံမြို့ နေမိန္ဒရ တောင်တွင် သိမ်သမုတ်၍ သာသနာ တည်ထောင် လိုကြသော ဒါယကာ ဒါယိကာမအပေါင်း တို့သည် အကျင့်သီလသိက္ခာနှင့် ပြည့်စုံသည်ဟု ထင်ရှား ကျော်စောသော ပုဂ္ဂိုလ်ကျော် ဆရာတော်ကြီး တပါးကို လျှောက်ထားပင့်ဆောင်ကြလေသည်။ဆရာတော်ကြီးသည် နေမိန္ဒရတောင်ခြေ တည်းကျောင်းသို့ ရောက်သော အခါ အတူကြွရောက်လာကြသော ရဟန်းသံဃာတော်များအား သိမ်သမုတ်ရန်အတွက် ပြုဘွယ်ကိစ္စအဝဝတို့ကို ပြုလုပ်စေ၍ ဒါယကာ ဒါယိကာမအပေါင်းတို့ကိုလည်း စီစဉ်ဘွယ်ရာ အဖြာဖြာကို စီမံတော်မူပြီး သိမ်သမုတ်ရန်အတွက် သိမ် နယ်နိမိတ် ကျောက်တိုင်များနှင့် သစ်ဝါး စသည်များတို့ကို စုဆောင်း၍ နေမိန္ဒရတောင်ပေါ်သို့ တင်ပို့စေလေသည်။

နောက်တနေ့နံနက်တွင် ယမန်နေ့က ဂုဏ်းတို့ကိုယ်တိုင် ထမ်းပိုးတင်ဆောင် ထားခဲ့သော တောင်ပေါ်မှ သိမ်နယ် နိမိတ် ကျောက်တိုင်များ သစ်ဝါး စသည်များ တို့သည်

တောင်အောက်သို့ အလိုအလျောက် ပြန်ရောက်နေသည်ကို တအံ့ဩဩနှင့် ဒါယကာ ဒါယိကာမများ တွေ့မြင်ကြရလေသည်၊ ဆရာတော်ကြီးများကမှု စိုးရိမ်ဘွယ်မရှိကြောင်း အားပေးစကားမိန့်ကြားလျက် လိုအပ်သော ပစ္စည်းရပ်များကို တဖန် တောင်ပေါ်သို့ ထပ်မံ တင်ဆောင်စေပြန်၍ လူအချို့ကိုပါ စောင့်ကြပ်အိပ်မိုင်းလေ၏။နံနက်ကျသောအခါ ကျောက်တိုင် သစ်ဝါး စသည်များနှင့် စောင့်ကြပ် အိပ်သောသူများပါ ယမန်နေ့က နည်းတူ တောင်အောက်သို့ ပြန်ရောက်နေပြန်သည်ကိုထူးဆန်းစွာတွေ့ရှိရပြန်လေသည်။ တပည့် ဒါယကာ ဒါယိကာမတို့မှာ ဤကဲ့သို့ ထူးထွေဆန်းပြား နှောင့်ရှက်မှု များသဖြင့် တုန်လှုပ်ချောက်ချား ကုန်လျက် တောင်အနားသို့ချဉ်းကပ်ဝံ့သူ အလျှင်းမရှိတော့ချေ။

တပည့် ဒါယကာ ဒါယိကာမများ အထူး တုန်လှုပ်ချောက်ချားနေကြသော်လည်းဦးစိုးနာယကဆရာတော်ကြီးကမူ အလျှော့မပေးသေးဘဲ သိမ်သမုတ်ရန် တဖန်ကြိုးစားစိစဉ်ပြန်ရာ နေမိန္ဒရတောင်ရှိ အစောင့်အရှောက် များ၏ နှောင့်ရှက် ဖျက်ဆီး ခြောက်လှန့်မှုများကို မကာကွယ်နိုင်တော့သည့် နောက်ဆုံးတွင် နေရင်းဌာနသို့ ကမန်းကတန်းနှင့်ပြန်ကြွရရာ လမ်းခုလပ်၌ပင် အသက်ဆုံးပါးပျံလွန်တော်မူသွားရရှာလေသည်။ သို့နှင့် နေမိန္ဒရ တောင်တွင် သိမ်သမုတ်၍ သာသနာပြုရန်ကိစ္စမှာ အဖျက်အဆီး အနှောင့်အရှက် အားကြီးသည်နှင့် မအောင်မြင်ဘဲ ပျက်ပြားသွားရရှာလေတော့သည်။



မောင်ရင်ပေါ်ချောက်····ခိုရောက်ကျင့်သည်၊ ရထားပျံကြီး····မြည်ဟီးဆိုက်ပြီ။
သိကြားနတ်များ····စောင့်စားဖူးကြည့်၊ နောက်ဆုံးမဂ်··· လှမ်းတက်မဟာထေရ်။

နောက်များမကြာမီ ရသေ့ကြီးဦးခန္တီ သထုံမြို့သို့ရောက်လာသောအခါ နေမိန္ဒရ တောင်ပေါ်တွင် သိမ်သမုတ်၍ သာသနာတည်ထောင်ရန်အတွက် ဦးခန္တီ အား ဆောင်ရွက်ပေးပါရန် တောင်ယို ကန်နှင်းကြရာတွင် ....ဦးခန္တီက အဆောက်အဦအတွက်တော့ ကျုပ်တာဝန်ယူပါ့မယ်၊ သိမ်သမုတ်တို့ဆိုတာကတော့ ကျုပ်ကရသေ့ဖြစ်နေလို့ တာဝန်မယူနိုင်ပါ၊ သို့သော် ခင်ဗျားတို့ညောင်လွန့်ဆရာတော်(ဦးမေဓာဝီ)ကို အကျိုးအကြောင်းပြ၍ လျှောက်ထား၍ ပင့်ဆောင်ကြပါဟုညွှန်ကြားသည်နှင့် ဒါယကာဒါယိကာမအပေါင်းတို့သည် ရသေ့ကြီးဦးခန္တီ ညွှန်ကြားသည့်အတိုင်း ညောင်လွန့်ဆရာတော်အား သွားရောက် ပင့်ဆောင်ကြလေသည်။

ညောင်လွန့် ဆရာတော်သည် ချက်ချင်း လက်ခံတော်မမူသေးဘဲ ဆိုင်းငံ့ထား၍ မောင်ရင်ပေါ်ချောက် ဆရာတော် ဦးကဝိကို အမြန်ကြွရောက်လာပါရန် အပင့်လွှတ်လိုက်လေ၏။ လာရောက်ပင့်ဆောင်သူများ ရောက်ရှိသောအခါ ဆရာတော်ဦးကဝိသည် အဓိဋ္ဌာန်ပြုကြည့်ရာ ဦးစံတင်က အရှင်ဘုရား ရှေ့က အကြောင်းတွေ ပြန်ကြည့်နေသလား ကြွသာကြွပါ၊ အရှင်ဘုရား ပြုလုပ်ထားခဲ့တာတွေပါ၊ တနင်္ဂနွေဒေါင့်မှာ မြေကမူကလေးရှိလိမ့်မယ်၊ အဲဒီနေရာက ပရိက်တယ်ပါ၊ အောင်မြင်ပါလိမ့်မယ် ဘုရားလို့ လျှောက်ထားလေသည်။ ဆရာတော်ဦးကဝိ ညောင်လွန့်သို့ ရောက်ရှိသောအခါ ညောင်လွန့် ဆရာတော်က ဦးကဝိ သထုံမြို့ နေမိန္ဒရတောင်မှာ သိမ်သမုတ်တို့ လာပင့်နေကြ

တယ်၊ လက်ခံလိုက်ရမှာလားဟု မေးမြန်းရာ၊ ဦးကဝိက ဆရာတော်ဘုရား လက်ခံလိုက်တော်မူပါဟု လျှောက်ထား သည်နှင့် လာရောက်ပင့်ဆောင်ကြသော ဒါယကာ ဒါယိကာမတို့အား ရက်သတ်မှတ်ခါ ပင့်ညာဉ်ပေးလိုက်လေ၏။

ထို့နောက် ညောင်လွန့် ဆရာတော်က ဦးကဝိ-လက်တော့ခံလိုက်ပြီ၊ ဟိုကျတော့ ခင်ပျားသဲ စီစဉ်ရလိမ့်မယ်။ ခုနှယ်က လိုလေသေးမရှိအောင် စီစဉ်ပါ၊ ခင်ပျား လိုတာကိုလဲပြောပါ၊ ပြည့်စုံအောင် ဆောင်ရွက်ပေးပါ့မယ် ဆိုသဖြင့်၊ ဦးကဝိက ကြက်လျှာတိုင်များများ အလိုရှိကြောင်း လျှောက်ထားလေ၏။ ထိုအခါ ညောင်လွန့် ဆရာတော်က ကြက်လျှာတိုင်တွေက ဘာလုပ်ဘို့တုံး ဦးကဝိရဲ့ဟု မေးမြန်းရာ၊ ဆရာတော် ဦးကဝိက သူတို့ကို လက်ဆောင်ပေးဘို့ပါဘုရားဟု လျှောက်ထားမှ ညောင်လွန့်ဆရာတော် သဘောပေါက်၍ ကောင်းပါပြီဗျာဆိုလျက် ကြက်လျှာတိုင် များများ လုပ်ခိုင်းစေလေ၏။

ထို့နောက် ညောင်လွန့် ဆရာတော်က ဦးကဝိ ဟိုကျတော့ ခင်ပျား ကမ္ဗဝါလဲဘတ်ရလိမ့်မယ်ဟု အမိန့်ရှိပြန်ရာ ဦးကဝိက ဒါဖြင့်ဆရာတော်က ပြောပြပါဟုလျှောက်ထား၍ ညောင်လွန့်ဆရာတော်က လုံးကြီးတင်ထံတို တချောင်းငင်ထံတို၊ ဝစ္စပေါက်သံ မပါစေနဲ့ စသည်ဖြင့် သတိပေးပြောဆိုကာ၊ ကမ္ဗဝါဘတ်နည်းကို သူကိုယ်တိုင် ဌာန်၊ ကရိုဏ်း၊ ပယတ် ဝိသဇ္ဇာနှင့် ဘတ်ပြလေသည်။ ဆရာတော်ဘတ်ပြ၍ ပြီးဆုံးသည့်အခါ ဦးကဝိက၊ ကမ္ဗဝါစာကိုကိုင်

တဲ့ပြီး ညောင်လွန့်ဆရာတော် ဘတ်ပြသည့်အတိုင်း တလုံးမှ မလွဲမမှားစေတဲ့ ဘတ်ပြ၍ ဆရာတော်ဘုရား မကြိုက်သေးလျှင် ယခုကပြင်ပါ ပရိသတ်ထဲကျမှ မအော်ပါနဲ့ဘုရားဟု လျှောက်ထားလေရာ၊ ဒီအတိုင်းဘတ်လျှင်သဘောကျပါပြီ ဦးကဝိရယ်ဟု ပြန်လည်ဖြေမိန့်ရှိလေသ၏။

သထုံမြို့သို့ သိမ်သမုတ်သွားရာတွင် ဦးကဝိလိုက်ပါမည်ဆိုသည်ကို သဘောမကျနိုင်မယာ ညောင်လွန့်တိုက်မှအချို့တပည့်ကြီးများက ညောင်လွန့် ဆရာတော်အား သိမ်သမုတ်သွားရာတွင် စာမတတ်ပေမတတ်တဲ့တောထွက်ကြီးတွေ ခေါ်မသွားပါနဲ့ဘုရား၊ ဟိုကျတော့ အရှက်ကွဲနေပါအုံးမယ်ဟု လျှောက်ထားကြရာ၊ ဒါကတော့အမြင်တမျိုးစီကိုးဟု ညောင်လွန့်ဆရာတော်က အမိန့်ရှိလေ၏။

သို့နှင့် ၁၂၈၄-ခုနှစ်၊ တပေါင်းလထွင် သိမ်သမုတ်ရန် သထုံမြို့ နေမိန္ဒရဘောင်သို့ကြွတော်မူကြသည့်အခါ တပည့်ဒါယကာ ဒါယိကာမများက မီးရထားပွဲလုံး ငှားရမ်းပေးသည့်နှင့် သီးသန့် တွဲပေါ်တွင် ညောင်လွန့် ဆရာတော် ဦးမေဓာဝီ၊ မိတ္ထီလာ ရေလယ်ဆရာတော်၊ ဂြုပ်ပင်ဆရာတော် ဦးတိက္ခ၊ ညောင်လွန့်တိုက် ဦးကဝိန္ဒ ဆရာတော်၊ မောင်ရင်ပေါ်ချောက် ဦးကဝိဆရာတော်၊ မောင်ရင်ပေါ်ချောက် ဦးဝိဇယ၊ စွန်းလွန်း ဦးကောသလ္လ၊ ပေါင်း-ဆရာတော် (၇) ပါးတို့ စီနင်းလိုက်ပါ ကြွသွားတော် မူကြလေသည်။

ဤသို့ ကြွသွားတော်မူရာ ပဲခူးမြို့အလွန် မီးရထားက လည်း အရှိန်ပြင်းစွာနှင့် ခုတ်မောင်းနေစဉ်၊ ဆရာတော် (၇)ပါးစီးနင်းသွားတော်မူသော တွဲပေါ်သို့ ရဟန်းတော် တပါး ခုန်တက်တွယ်ကပ်လာရာ၊ ဆရာတော်များက ဒီတွဲ ဟာ တွဲလုံးအပိုင် ငှားရမ်းစီးနင်းလာတာပါ၊ သီးသန့်တွဲမို့ မတက်ပါနှင့်ဟု တားမြစ်ကြလေ၏။ ၎င်းရဟန်းက အို- ပိုင်-ပိုင် ဆိုပြီး ပြူတင်းပေါက်မှ ဇွတ်အတင်း တွဲတွင်းသို့ ဝင်ရောက်လာ၍ ဆရာတော်များကို စေ့စေ့စပ်စပ် ကြည့်ပြီး လျှင်၊ အင်း-ရှငမဟိန္ဒတို့လို သီဟိုဠ်ကို သာသနာပြုသွားကြ မလို့ကိုး၊ အေးလေ…မဟုတ်ပါဘူး၊ သထုံကို သာသနာ ပြု သွားကြမလို့ကိုးဟု ဆိုပြီး၊ အောင်ပခောက်….အောင်ပ ခောက်လို့ အော်တစ်ကာ လက်ထဲတွင် ဆုပ်ကိုင်ထားသည့် ခလောက်ကလေးကို လှုပ်ရမ်းပြရင်း ဒီမှာကြည့်….ကြည့် ခလောက်….ခလောက် အသံ မပါဘူး၊ ထို့နောက် လက် ညှိုးတခေါက်ခေါက်နှင့်၊တပါး,နှစ်ပါး,သုံးပါး,လေးပါး, ငါးပါး,ခြောက်ပါး,ခုနှစ်ပါး-ဟု ဆရာတော်များအားရေ တွက်ရင်း ငါ့ပါ….ရှစ်ပါး ဟု ဆိုလေ၏။ ၎င်းနောက် ဆရာတော်များအား ဘယ်က ကြွလာကြတာတုံးဟု မေး မြန်းပြန်ရာ၊ ဆရာတော်များက ညောင်လွန့်က-ပါဟု ဖြေ ကြားသဖြင့်၊ ညောင်ချဉ်လား- ညောင်ကြွတ်လား၊ အေး လေ-ဗောဓိညောင်ပေါ့ဟု သူ့ဘာသာသူဖြေကြား၍ မီးရ ထား အရှိန်ပြင်းစွာ ခုတ်မောင်းနေစဉ်မှာပင် တွဲပေါ်မှ ခုန်ဆင်းသွားလေ၏။

ထို့နောက် ဦးကာဝိ ဆရာတော်က ညောင်လွန့် ဆရာတော်အား ဆရာတော်ဘုရား-ခုနက ရသေ့လိုလို ရဟန်းလိုလိုက ပြောသွားတဲ့ ခလောက်….ခလောက် အဆံမပါဘူး ဆိုတာဟာ သိမ်သမုတ်ရာမှာ သံဃာက နှောင့်ရှက်ပါလိမ့်မည်ဘုရား၊ ဒါပေမဲ့ အဆံမပါလို့ ပျက်အောင်တော့ မဖျက်နိုင်ပါဘူးဘုရားဟု ကောက်ခါ ငင်ခါ နိမိတ်ဘတ်၍ လျှောက်ထားလိုက်ရာ ညောင်လွန့်ဆရာတော်က သံဃ ကိစ္စမို့ သံဃာက နှောင့်ရှက်ယှက်မည် မထင်ပါဘူး ဦးကာဝိရယ်-ဟု ပြောကြားသဖြင့် ဦးကာဝိက ဆက်ထက်၍ ဆရာတော်ဘုရား မယုံလျှင် စောင့်ကြည့်တော်မူပါ၊ သံဃာက နှောင့်ရှက်ပါလိမ့်မယ်။ ဒါပေမဲ့-သိမ်သမုတ်တာကတော့ အောင်မြင်မှာပါပဲ ဘုရားဟု- လျှောက်ထားလိုက်လေ၏။

သတုံဘူဘာသို့ ရထားဆိုက်သည့်အချိန်တွင် ဆရာတော် ၇-ပါးအား အစိုးရအရာရှိများ ဖြစ်ကြသည့် ဦးဘိုး၊ ဦးကျော်ဒွန်းစသော မြို့ခံ ဒါယကာ ဒါယိကာမအပေါင်းတို့က သောင်းသောင်းဖြဖြ ခရီးဦးကြိုဆိုကြလျက် နေမိန္ဒရ တောင်ခြေရှိ တည်းကျောင်းသို့ မော်တော်ကားဖြင့် သိုက်မြိုက် စည်ကားစွာ ပင့်ဆောင်သွားကြလေသည်။

ထိုနေ့ည မိုးချုပ်သည်နှင့် တပြိုင်နက် ဆရာတော်ဦးကာဝိသည် တည်းကျောင်း၌ရှိ ဆရာတော်များထံ လာရောက် ဂါရဒါန်းထားသည့် ဖယောင်းတိုင်များကိုစုဆောင်းထိမ်းသည်းယူ၍ နေမိန္ဒရတောင်ပေါ်သို့ ကြွသွားတော်မူလေသည်။ တောင်ပေါ်သို့ ရောက်ရှိသည့်အခါ တဖတောင်လုံး သင်း

ထိန်နေအောင် ဖယောင်းတိုင်များကို မီးထွန်းတော် မူ၍ ကြက်သွန်တိုင်များကိုလည်း အနှံ့အပြား စိုက်ထူလိုက်ပြီး တောင်စောင့်နတ်အပေါင်းတို့၊ အသင်တို့ကိုငါကဖယောင်း တိုင် ကြက်သွန်တိုင်များပေးတယ်၊ အသင်တို့ကြည်ညိုသော ဘုရားကို ပူဇော်ကန်တော့ကြ-အသင်တို့အတွက် ငါကပေး တယ်ဟုဆိုလျက် တနင်္ဂနွေဒေါင့်မှ ရပ်တော်မူပြီး ပရိက်ကြ ကာ တရားနှလုံးသွင်း ဆင်ခြင်လျက် မေတ္တာ ကမ္မဋ္ဌာန်း စီးဖြန်းတော်မူလေ၏။

ထိုနောက် ဦးကဝိဆရာတော်သည် တရားဒေသနာများ ကို ဟောကြား ဆုံးမတော်မူရာ ပုဂ္ဂိုလ်အမျိုးမျိုးတို့ လာ ရောက် ဖူးမြော်ကန်တော့ကြလေသည်။ နောက်ဆုံး၌ပုဂ္ဂိုလ် တယောက်သည် မင်းမြောင်ဘန်းဆာငါးပါးကို ဆင်ယင် လျက် လာရောက်ကန်တော့ရာ ဦးကဝိဆရာတော်က အင်း ဒီပုဂ္ဂိုလ်ဟာ "မနုဿမင်း"နဲ့တူတယ်။ "အရင်း လဲရင် အဖျားထင်းဖြစ်တာပေါ့" ဟုမေးခေါက်မေ့ပြီး တရားဒေသနာ များကို ထပ်မံဟောကြား ဆုံးမတော်မူပြီး၊ အသင်နတ်မင်း- ဤတောင်တွင် ထူပါရုံ စေတီတော် ရှိတယ်၊ ဓာတ်တော် များလဲ ကိန်းဝပ်တော်မူတယ်၊ လူအများ ဖြတ်သန်း သွား လာကြခြင်းအားဖြင့် အပြစ်အန္တရာယ်ရှိကြတယ်။ ဒါကြောင့် ဒီတောင်မှာ ငါတို့ သာသနာပြုမယ်၊ သင်တို့ ခွေ့ခဏ ဖယ်ပေးပါ၊ ငါတို့ သိမ်းသမုတ်ပြီးတဲ့အခါ သင်တို့ဘဲ ပြန် စောင့်ရှောက်ကြပါ။ အသင် အလိုရှိသော နေရာကို ပြပါ အသင့်အိမ်တော်လဲ မဖျက်ဆီးပါဘူး။ အသင့်အတွက် အိမ်

တော် (နတ်ကွန်း)ဆောက်လုပ်ပေးအုံးမယ်ဟု အမိန့်ရှိလိုက်ရာ ထိုပုဂ္ဂိုလ်သည် တလုံးတပါဒမှ ပြန်လည်မပြောဆိုဘဲ တနင်္ဂနွေဒေါင့်မှ ငိုယိုလျက်ဆင်းသွားသည်နှင့် သူသဘောကျသော နေရာဌာနကို သိရှိရ၍ ၎င်းနေရာတွင် နတ်ကွန်း (အိမ်တော်)ဆောက်ပေးစေခဲ့သည်။ ၎င်းနတ်ကွန်းသည် နေမိန္ဒရတောင်ပေါ် တနင်္ဂနွေဒေါင့်ရှိ သစ်ပင်ကြီးအောက်၌ ယနေ့တိုင်ပင် ရှိလေသည်။ ဦးကာဝိဆရာတော်သည်း ထိုအဝတ္တိ ပြီးစီးတော့မှ တောင်အောက် တည်းကျောင်းသို့ ပြန်ကြွလာတော်မူသည်။

မှတ်ချက်....ဆရာတော်ဦးကာဝိသည် မနူဟာမင်းငိုယိုလျက်ဆင်းသွားသည့်အကြောင်းကိုအာရုံပြုကြည့်ရာတွင် ဘဝသံသရာများလှစွာက တပည့်ဒကာ ဆရာများ ဖြစ်ခဲ့ဘူးကြသော်လည်း ယခုမှာမူကား အယူတိမ်းပါး ဘဝခြား၍နေစဉ် ပြန်လည်ဖူးတွေ့ရသောကြောင့် ရှေးရှေးဘဝများကအဖြစ်အပျက်များကိုပါ ပြန်လည်တွေးတောမိသည့်ပြင် တကြိမ်ထပါမျှမနာရမကြားရဘူးသော တရားတော်မြတ်များကိုပါ နာကြားရသည်နှင့် မနူဟာမင်းမှာ ဝမ်းသာဝမ်းနဲကြေကွဲလှသည့်အတွက် ငိုယိုခြင်းဖြစ်ကြောင်း ဆရာတော်ဘုရားကြီးက ဟောကြားတော်မူခဲ့ဘူးသည်။

ဆရာတော်ဦးကာဝိ၏ ပြုလုပ်ဆောင်ရွက်မှုများကို အချို့သော သံဃာများက ဦးကာဝိသည် လောကီအလုပ်တွေသာ လုပ်နေသည်ဟု ကဲ့ရဲ့သဖြင့် အတင်းဆိုကြ၍ ညောင်လွန့်ဆရာတော်အား လျှောက်ထားသည်နှင့် ဦးကာဝိဆရာတော်က–ညောင်လွန့်ဆရာတော်အား လျှောက်ထားသည်မှာ....

ဥပမာ–ဆရာတော်ဘုရား ကျောင်းပရိဝုဏ်ကို အစိုးရက အာဏာနှင့် အတင်းသိမ်းပြီး လာနှင်လျှင် အားမတန်လို့ မာန်ကိုလျှော့ရပေမဲ့ ဆရာတော်ကျေနပ်ပါ့မလားဘုရားဟု မေးမြန်းရာ၊ ဆရာတော်က ဘယ်ကျေနပ်နိုင်မတုံးဦးကဝိရဲ့၊ ကဲ….အရှင်ဘုရားတို့-ဒိနေရာက ဟခြားနေရာကို ခကြွ နေပါအုံးဘုရား၊ ဟပည့်တော်တို့ ဒီနေရာမှာ အရေးကြီးတဲ့ အကြောင်းတခုရှိလို့ ဆောင်ရွက် ပါရစေ၊ ကိစ္စပြီးတော့ အရှင်ဘုရားတို့နေရာ အရှင်ဘုရား ဲ့ သီးတင်းသုံးတာ ပေါ့လို့ လျှောက်ရင်တော့ ကျေနပ်မည့် မဟုတ်ပါလား ဘုရားဟု လျှောက်ထားရာ၊ ဒီလိုဆိုရင်တော့ ကျေနပ်တာ ပေါ့ဟု ညောင်လွန့်ဆရာတော်က အမိန့်ရှိလေ၏။ ဆရာ တော်ဦးကဝိ၏ဖြေရှင်းမှုကို ကြားရသောအခါ အားလုံး သဘောပေါက်ခါ ကျေနပ်ကြလေသည်။

ဒါယကာ ဒါယိကာမ များတို့သည် ယခင်က အကြီး အကျယ် နှောင့်ရှက် ဖျက်ဆီးခံ့ ဘူးသည်နှင့် ယခု ဆရာ တော်များ စီမံဆောင်ရွက်နေကြသည်များကို အထူးသတိ ပြု၍ စိုးရိမ်မကင်း တစေ့တစောင်း ကြည့်ရှုနေကြရာ ရှေး အခါက ဤဆောင်ပေါ်တွင် သိမ်နယ်နိမိတ် ကျောက်တိုင် သစ်ဝါးစသည်များကိုဂင် အတင်မခံ၊ ဆွဲချခြင်းများ ခံခဲ့ရ ဖော်လည်း ယခုမှာမူကား တောင်ခြေတွင် ကုဋီတလုံး၊ ပင် ဆောက်လုပ်ထားရှိပြီး ဖြစ်သော်လည်း မည်သို့မျှအနှောင့် အယှက် မပြုသည့် အဖြစ်ကို တွေ့ရှိကြသဖြင့် အားရ ရွှင် လန်း ဝမ်းမြောက် ဝမ်းသာဖြင့် တောင်ပေါ်တွင် သာသ

လုပ်လုပ် လက်ခံပြီ–လက်ခံပြီ၊ ဟိုတုန်းကလို တောင်ကြီး မကြမ်းတော့ဘူးဟေ့ဟု တယောက်နှင့် တယောက် ပြော ကြားလျှက် အားတက်နေကြလေသည်။

သိမ်နုတ်ရန်နေ့၌ ဦးကဝိ အခါပေးသည့် အချိန်တွင် သံဃာများ စည်းဝေးစေပြီး ရှေးဦးစွာ ဦးကဝိဆရာတော် ၏လက်သို့ ကမ္မဝါကိုထည့်လျက် ညောင်လွန့်ဆရာတော်က ဦးကဝိ ကမ္မဝါကို ခင်ျား အရင်ဆုံးဘတ်ပါဟု ပြောရာ ဆရာတော် ဦးကဝိသည် ကမ္မဝါကို ဌာန်,ကရိဏ်း,ပယတ် ဝိသစွာနှင့်ဘတ်တော်မူလေ၏။ထိုနောက်ညောင်လွန့်ဆရာ တော်က သူ၏ဘပည့်များကို အဘတ်ခိုင်း၍ ဘတ်ကြရာ အင်း····လုပ်ပြီ–လုပ်ပြီ၊ ကျောင်းတုန်းကတော့ စာမတတ် ပေမတတ်တဲ့ တောထွက်ကြီးတွေ ခေါ်သွားရင် လူထဲကျ တော့ အရှက်ကွဲနေလိမ့်မယ်ဆိုပြီး ခုတော့ သူတို့က တော ထွက်ကြီးတွေလောက်မှ နေရာကျအောင် မဘတ်နိုင်ကြဘူး ဟု အမိန့်ရှိလေ၏။ ထိုနောက် ညောင်လွန့် ဆရာတော်, ရေလယ်ဆရာတော်များ အသီးအသီးဘတ်ကြ၍ သိမ်နုတ် ခြင်းကိစ္စ ပြီးမြောက်သွားရာ သိမ်နယ်နိမိတ် တိုင်များကို တောင်ပေါ်သို့ တင်ပို့စေလေ၏။

နောက်တနေ့သိမ်မသမုတ်မီဘုန်းကြီးတပါးလာရောက် ကာ အရှင်ဘုရားတို့ ဒီသိမ်ကို ဘယ်လိုသမုတ်မှာတုံး–ဟု မေးသဖြင့်၊ ညောင်လွန့်ဆရာတော်က နယ်သိမ်သမုတ်မည် ဟု ဖြေကြားရာ မေးလာသော ဘုန်းကြီးက မရေမရာ တောင်ပြော မြောက်ပြောနှင့် မအေပ်ဘူး ဆိုသလိုလို ဘာ

လိုလို ပြောနေပြန်ရာ၊ ဂြုပ်ပင် ဆရာတော် ဦးတိက္ခက၊ ကဲကဲ–အရှင်းဘုရားတို့က မအပ်ဘူး ထင်လျှင် မအပ်တဲ့ အကြောင်း အကိုးအကားနဲ့တကွပြပါ၊ အပ်တဲ့အကြောင်း အကိုးအကား စာများကြည့်ချင်ရင် ပြမည်–ကြည့်မလားဟု ပြောလိုက်တော့မှ ၎င်းဘုန်းကြီးလည်း ပြန်သွားလေ၏။

သိမ်သမုတ်ရန် ခေတ်အတွင်း ဆန္ဒတောင်းသင့်သော ပုဂ္ဂိုလ်များအား ဆန္ဒတောင်းခြင်းနှင့် ပင့်သင့်သောပုဂ္ဂိုလ် များအားပင့်ခြင်းကိစ္စအဝဝတို့ကိုပြုလုပ်ကြ၍ ည ၁၀–နာရီ အချိန်လောက်တွင်ကျောက်စည်ခေါင်းလောင်းအုံးမောင်း များ တီးခတ်၍ နယ်စောင့်သော ပုဂ္ဂိုလ်များအား အချက် ပေးကာ သိမ်သမုတ်ကြလေသည်။

ဆရာတော်ဦးကဝိသည်ထိုည၌ပင် သိမ်သမုတ်ခြင်းကိစ္စ ပြီး–မပြီး အောင်–မအောင်ကို အာရုံပြု၍နှလုံးသွင်းဆင်ခြင် ကြည့်ရာ၊ သိမ်သမုတ်စဉ်က ရဟန်းတပါး၏နယ်အတွင်းသို့ ဝင်နေကြောင်းနှင့် ၎င်းရဟန်းနှင့် အခြားရဟန်းတပါးတို့ အချင်းချင်း ပြောနေကြသည့် စကားများကိုပါ မြင်ကြားရ သဖြင့် သိမ်မအောင်ကြောင်းကောင်းစွာသိရှိရ၍ ညောင် လွန်ဆရာတော်အား–ဆရားတော်ဘုရား သူတို့ရဟန်းချင်း ပြောဆိုနေကြတယ်ဘုရားသူတို့သမုတ်တဲ့သိမ်ဟာမအောင် ဘူး ဝင်ဖြစ်သွားတယ်တဲ့။ သိမ် သမုတ်စဉ် ဘယ်အချိန် ဘယ်နာရီမှာ တပည့်တော် သူတို့ခေတ်အတွင်း ရောက်နေ တယ်၊ ဒါကြောင့် သူတို့သိမ်ဟာ မအောင်ဘူးလို့ သူတို့ အချင်းချင်း ပြောနေကြတယ်ဘုရားဟု မိမိမြင်ကြားရသည့်

အတိုင်း လျှောက်ထားလေ၏။ ညောင်လွန့်ဆရာတော်က ဒီလိုဆိုသိမ်မအောင်ဘူးပေါ့ဟု-ဆိုလျက် အချင်းချင်းပြော နေကြသည်ဆိုသောရဟန်းများကို ရှာဖွေစေလျက် စုံစမ်း မေးမြန်းကြည့်ရာ၊ သိမ်သမုတ်ချိန်တွင် ခေတ်တခုမှ ရဟန်း တပါး မိမိတို့ခေတ်အတွင်းသို့ ရောက်ရှိနေကြောင်း သိရှိရ လေသည်။

သို့နှင့် နောက်တနေ့ညတွင် ဒါယကာ ဒါယိကာမများ အပြင် အစိုးရများ၏ အကူအညီနှင့်တကွ ဆန္ဒများတောင်း ပြီး သိမ်သမုတ်ခြင်း ကိစ္စကို ရှေးနည်းအတိုင်း ထပ်မံ ဆောင်ရွက်ပြုလုပ်ကြရာ နေမိန္ဒရတောင်၌ သိမ်သမုတ်ခြင်း ကိစ္စသည် ကောင်းစွာ အောင်မြင်ခြင်းသို့ ရောက်ရှိလေ၏၊ ထိုနောက် သိမ်နယ်နိမိတ်တိုင် များကိုလည်း အသီးအသီး စိုက်ထူကြလေ၏။

သိမ်သမုတ်ခြင်းကိစ္စ ထမြောက် အောင်မြင် သွားရာ တပည့် ဒါယကာဒါယိကာမများတို့မှာ နှစ်ထောင်းအားရ ကခုန် ရွှင်မြူးကြကုန်လျက် အစိုးရအရာရှိကြီး တဦးဖြစ်သူ ဦးကျော်ဒွန်းကမူဆရာတော်ဦးကဝိကိုသူကိုယ်တိုင်ထမ်းပြီး ဒါမှ ရဟန္တာကြီး-ဒါမှ ရဟန္တာကြီးအစစ်ဟု ဟစ်အော် ကြွေးကြော်လေသည်။

နောက်တနေ့ တရားပွဲတွင် ဆရာတော် ဦးကဝိအား တရားဟောချီးမြှင့်ရန် လျှောက်ထား တောင်းပန်ကြသည် နှင့် ဆရာတော် ဦးကဝိသည် မိမိကိုယ်တိုင် တွေ့ကြုံခံစားခဲ့

ရသော ဒုက္ခများအကြောင်းကို ထုတ်ဖော်ပြသည့် ဥဒါန်း တရားတော်ကြီးကိုဟောကြားတော်မူရင်း သထုံနယ်သူနယ် သားများ၏ ဒူးရင်းသီးကောက်ရခြင်းနှင့် မင်းဂွတ်သီးနူးရ ခြင်း ဒုက္ခများကိုပါ ထည့်သွင်းဟောကြား ဆုံးမတော်မူရာ ကလေးသူငယ်များပါးစပ်ဖျားတွင်ပင်ဒူးရင်းသီးမကောက် ချင်ဘဲနဲ့ ကောက်ရတယ်၊ မင်းဂွတ်သီး မနူးချင်ဘဲနဲ့ နူးရ တယ်။ အဲဒါဘာကြောင့်တုံး၊ကာမဂုဏ်မွဲရာဂစွဲ၍ အားကိုး မှားလို့ဗျ-အားကိုးမှားလို့ပါဟု ဥဒါန်းတွင်ကျန်ရစ်လေသည်။

တညတွင်ဘုန်းကြီးတပါးရောက်လာ၍၊ ဦးကဝိ-ဦးကဝိ ဟုခေါ်ရာ ဆရာတော်ဦးကဝိသည် အောက်သို့ ဆင်းသွား တော်မူ၍ အတွေ့ခံသည်တွင် ၎င်းဘုန်းကြီးက ဟိုအနား ခဏလိုက်ခဲ့စမ်းပါဟု ခေါ်ဆောင်လေ၏။ ထိုအခါ ဆရာ တော်ဦးကဝိက စဉ်းစားမိသည်မှာ၊ ဩော်-သူနဲ့ ငါဟာ သိက္ခမ်းကြသူများလဲမဟုတ်၊ ငါမလိုက်ပြန်ရင်လဲ သူတော့ ဒုက္ခရောက်တော့မယ်၊ သူခေါ်ရာ ငါလိုက်ပြန်ရင်လဲ ငါ ဆင်းရဲတော့မယ်၊ ကဲလေ ငါဘဲ အဆင်းရဲ ခံတော့မယ်ဟု ဆုံးဖြတ်တော်မူပြီး ၎င်းဘုန်းကြီးအား အရှေ့က ထား၍ သွားစေရာ မှောင်ကြီးမဲမဲ တောနက်ထဲသို့ ခေါ်ဆောင် သွားလေ၏။ နောက်တော့ တော်ပါပြီ ဘုရား၊ ပြန်ပါ မတော့ တပည့်တော် လိုက်ပို့ပါမည်ဟု လျှောက်ထားရာ၊ ဆရာတော် ဦးကဝိက နေပါစေ တပည့်တော် ဘာသာ တပည့်တော် ပြန်ပါ့မည်ဟု ပြောဆိုလျက် မှောင်ကြီးမဲမဲ တောနက်ကြီးထဲမှ ဟိုစမ်း-ဒီစမ်းနှင့် ပြန်လာရာ၊ အသွား

ဘုန်းကလောက်မဝေးဘဲ လွယ်လင့်တကူနှင့်တည်းကျောင်းသို့ ပြန်လည်ရောက်ရှိလာလေသည်။

[ဂုဏ်းဘုန်းကြီး လာရောက် ခေါ်ဆောင်ခြင်းကတော့ ဦးကဝိ ဆရာတော် လိုက်ရဲ့သလား မလိုက်ရဲ့ဘူးလား၊ တုန်လှုပ်သလား မတုန်လှုပ်ဘူးလား ဆိုတာ ကိုယ်တွေ့သိရန်လာစမ်းခြင်းပင်ဖြစ်ပေသည်။]

ဆရာတော် ဦးကဝိ၏ သတင်းသည် ဝေးနီး နှံ့ပြားကျော်ကြားသွားရာ သထုံအပိုင် ခရွဲရွာမှ ဆရာတော်သည် ဦးကဝိအားတွေ့လိုသည်နှင့် ကြွလာတော်မူလေ၏။ ညောင်လွန့်ဆရာတော်က ခရွဲဆရာတော်လောကီဘက်တွင် ဆည်းပူးလေ့လာထားကြောင်း ကြားသိထား၍ ဦးကဝိအား ခရွဲဆရာတော်ကို စုံစမ်းကြည့်စမ်းပါ၊ သူ့ဟာသူတော့ ထိပ်တန်းဘဲလို့ အလံထူလာတယ်ဟု ပြောဆို ထားသည်နှင့် တွေ့ဆုံကြသည့်အခါ ဆရာတော်ဦးကဝိက ခရွဲဆရာတော်အား ပရိကံတည်ပုံအမိန့်ရှိတော်မူပါရန်လျှောက်ထားလေ၏။ ထိုအခါ ခရွဲဆရာတော်က ပဌမ ကသိုဏ်းဝန်းနိမိတ်ယူ၍ ပရိကံ တည်ရကြောင်းနှင့် သူစွဲမှတ် ယူဆထားသည်များကိုပါ အမျိုးမျိုး ဝေဘန်ပြောဆိုသွားရာ ဦးကဝိဆရာတော်က ဥပမာ အရှင်ဘုရား ခုနက ကွမ်းအစ်အကြောင်း အမိန့်ရှိသွားတယ်, တပည့်တော်က ဟောဒီ ကွမ်းအစ်ထဲမှာ ကွမ်းဘယ်နှ[illegible]က်ရှိတယ်ဆိုတာသိလိုပါတယ်ဘုရားဟု လျှောက်ထားမေးမြန်းရာ ခရွဲဆရာတော်က ဒီအထိတော့ အာရုံမလိုက်နိုင်တော့ကြောင်း အမိန့်ရှိသဖြင့် ဦးကဝိဆရာ

တော်ကပင် ကွမ်းဘယ်နှစ်ရွက်ရှိသည်ကို တိတိကျကျ ဖြေကြားလိုက်လေသည်။ ထို့နောက် ခရွဲဆရာတော်က ပရိကံ တည်ပုံနှင့် တကွ တရားအားထုတ်နည်း နိသျှည်း များကို မေးမြန်း၍ ဖြေကြားတော် မူလိုက်ရာ ခရွဲဆရာတော်က ဦးကဝိ ဆရာတော်အား အရှင်ဘုရား အသက် ငယ်ပါ သေးတယ်၊ ရှေ့ဆက်ပြီး ကြိုးစားပါဘုရား၊ တပည့်တော် တော့ သွက်ချာပါဒကပ်နေလို့ ဒီအထိအာရုံမပြုနိုင်တော့ ပါ၊ ဟိုတုန်းက တပည့်တော်ရယ်, ဦးဥတ္တမရယ်, သစ်ချ တောင်ဦးတိလောကရယ်,သတ္တဝါတွေကို ကောင်းကင်က နေပြီးတရားဟောနိုင်မှပြန်ကြတော့မယ်လို့စိတ်ပိုင်းဖြတ်ပြီး တရားရှာ ထွက်ခဲ့ကြတယ်၊ နောက်တော့ ဒုက္ခတွေသာ အမျိုးမျိုးတွေ့ပြီး လိုရင်းကိစ္စ မပြီးမြောက်နိုင်တာနဲ့ ပြန်ခဲ့ ရတယ်ဘုရားဟု အမိန့်ရှိလေ၏။

**မှတ်ချက်**...ဆရာတော်ဦးဥတ္တမသည် သစ်ချတောင်ဆရာတော် ဦးတိလောကတို့နှင့်ခွဲခွာခဲ့ပြီး ဆရာတော် ဦးကဝိထံ ဝင်ရောက်၍ ပရိကံကည်ပုံ တရားအားထုတ် နည်း များပါစုံစမ်းရင်း တရားအားထုတ် သွားဘူးသည် နှင့် အထက်ပါ ခရွဲဆရာတော် လျှောက်ထားချက် များကို ဦးကဝိ ဆရာတော် သိနှင့်ပြီး ဖြစ်သည်။ ဦးဥတ္တမသည် ဦးကဝိ ဆရာတော်ဘုရား ထံတွင် တရား အားထုတ်နေစဉ်က ဒါယိကာမများသည် ဒါယကာ များထက် တရား တွေ့လွယ် သည်ကို အကြောင်းပြု၍ အောက်ပါ အတိုင်းပင် စာချိုးခဲ့ ထေသည်။

**"ဘိုကြီးနဲ့ ချိထောင်၊ ကုန်းခေါင်ခေါင် ဟိုအချက်၊ လှဲ (လှည်း) ကွက်ချည်း ရှုန်းနိုင်မေါင်။**

**နွားမတွေ ဟိုတစုံ–ချိတခုမျှမပါပေါင်၊ ဘိုဆိုတာ ဟူလာဝေး (ဝေလာဝေး)၊ ခွါလေးက သေးမျှောင်မျှောင်၊ ကိုယ်ကောင်ကလိုကင်း။ နွားမတွေ ထိုတသင်း ရယ်က၊ လှဲပေါ်မှာ ကုန်တွေသွင်း၊ ရှုန်းချက်ကပြင်း"။**

ဒါယိကာမများသည်ယုံယုံကြည်ကြည်နှင့် ဟိုနှယ်ဒီနှယ် မတွေးဆဘဲ ဆရာသမား ဆုံးမသွန်သင်ပြသသည့်အတိုင်း စိတ်လိုက်မာန်ပါ တရားအားထုတ်ကြသည်နှင့် တရားတွေ့ လွယ်သော်လည်း ရဟန်းတော်များနှင့် လူဒါယကာများ သည် မိမိတို့ကလဲပညာဗဟုသုတနှင့်ပြည့်စုံသင့်သလောက် ပြည့်စုံ ထားကြတော့ နိူင်းချိန် စဉ်စားနေတာနဲ့ တရား မတွေ့လွယ်ကြောင်းကို ရည်ရွယ်စပ်ဆိုခဲ့လေသည်။

သထုံမြို့ နေမိန္ဒရတောင် သိမ်သမုတ်ခြင်းကိစ္စပြီးစီးသည် နှင့် ဆရာတော် ၇–ပါးတို့သည် မီးရထားစီးနင်း၍ပြန်လည် ကြွလာခဲ့ကြရာ ရထားပေါ်တွင် ဦးကဝိ ဆရာတော်က ညောင်လွန့် ဆရာတော်အား တပည့်တော်တို့ ရထားစီး ကြွလာစဉ်က ရသေ့လိုလို ရဟန်းလိုလို တယောက်က ပြောကြားသွားသည်များကို တပည့်တော် နိမိတ်ဘတ်ခဲ့တဲ့ အတိုင်း ယခုသိမ်သမုတ်ရာကိစ္စမှာ သံဃာကဘဲနှောင့်ရှက် တာ ထင်ရှားပြီမဟုတ်ပါလားဘုရား၊ဒါပေမဲ့ခလောက်က အဆံမပါလို့ ပျက်အောင်တော့ သူတို့ မဖျက်နိုင်ပါဘူး၊ အောင်မြင်မှာပါဘဲလို့ လျှောက်ထားခဲ့ဘူးတဲ့ အတိုင်းဘဲ

သူတို့ဖျက်ပေမဲ့ သိမ်ကိစ္စ ထမြောက် အောင်မြင် သွားတယ် ခဟုတ်ပါလားဘုရားဟုလျှောက်ထားရာ ညောင်လွန့်ဆရာတော်က အေး-အေး ဦးကဝိ မှန်လိုက်တာ မှန်လိုက်တာဟု အမိန့်ရှိလေ၏။

---

## ဝိသုဒ္ဓိ ၇-ပါး

ဖြုပ်ပင်ဆရာတော်က ဦးကဝိအား ဝိသုဒ္ဓိ ၇-ပါးပြော စမ်းပါဟု မေးရာ အရှင်ဘုရားတို့ ဝိသုဒ္ဓိကို တပည့်တော် မပြောတတ်ပါ၊တပည့်တော်ပြောတတ်သလိုပြောပါရစေ၊ ပြောပါ-ပြောပါဟု ခွင့်ပြုသည်နှင့် ဦးကဝိက လျှောက် ထားပုံ။

တရားအားထုတ်တဲ့ယောဂီပုဂ္ဂိုလ်ဟာ ရှေးဦးစွာဘုရား ကန်တော့၊မေတ္တာပို့ အမျှဝေပြီးလျှင် မိမိခန္ဓာကိုယ်ရုပ်နာမ် နှစ်ပါးကို အားထုတ်ဆဲအခါ ဘုရားကိုလျှ၊ အချိန်မပိုင်းနှင့် မိမိစွမ်းသမျှအားထုတ်၊ သမာဓိရလာတော့မှ ခန္ဓာကိုယ် ပေါ်မှာ ပူမှု,အေးမှု,စသောဝေဒနာ ပေါ်လာလိမ့်မယ်။ အဲသည်ပေါ်လာတဲ့ ဝေဒနာကို ရှုဆဲအခါ၌ မျက်စိကလဲ တောင်ကြည့်မြောက်ကြည့်မကြည့်ဘူး၊ ပါးစပ်ကလဲစကား မပြောဘူး၊ လက်ကလဲကိုးရိုးကားယားမလုပ်ဘူး။ အဲသည် တော့ စက္ခုန္ဒြေ,သောတိန္ဒြေ,ဃာနိန္ဒြေ,ဇိဝှိန္ဒြေ,ကာယိန္ဒြေ ဟူသော ဣန္ဒြေငါးပါး လုံနေတယ်၊ အဲဒါ သီလစင်ကြယ်

တယ်၊ သီလဝိသုဒ္ဓိ-လို့ ခေါ်တယ်။ ။ဝေဒနာပေါ်မှာ စိတ်တည်နေတော့ စိတ်စင်ကြင်တယ်။ အဲဒါ စိတ္တဝိသုဒ္ဓိလို့ခေါ်တယ်။ ။သီလကလဲစင်ကြယ်၊ စိတ်ကလဲစင်ကြယ်တော့မှန်တာမြင်တာပေါ့၊ မှန်တာမြင်တယ်ဆိုတာဘယ်လိုလဲဆိုတော့ မိမိခန္ဓာကိုယ်ပေါ်မှာ မွေးတွင်း ပေါက်ကမီးခတ်နှင့် မီးခတ်ကျောက် ခယ်လိုက်တော့ မီးပွင့်ကလေးတွေ ဖွားဖွား ဖွားဖွားနှင့် မြင်ရသလို မြင်ရတယ်၊ အဲသည်လိုမြင်ရတော့ ငါ့မှာ ခြေလည်းမရှိ၊ လက်လည်းမရှိ၊ ကိုယ်လည်းမရှိ၊ ဦးခေါင်းလည်းမရှိ၊ ခန္ဓာကိုယ်ကြီး သုဉ်းသွားတယ်။ အဲသည်တော့ အမြင်စင်ကြယ်တယ်။ အဲဒါကို ဒိဋ္ဌိဝိသုဒ္ဓိလို့ခေါ်တယ်။ အဲသည်လို မြင်ရတော့ ဟုတ်ပါပေတယ်။ မှန်ပါပေတယ်ဟု ဘုရားကိုယုံကြည်ခြင်း ဖြစ်လာတယ်၊အဲသည်တော့ယုံမှားကင်းသွားတယ်၊ ကင်္ခါဝိတရဏဝိသုဒ္ဓိလို့ခေါ်တယ်။ အဲသည်လိုမြင်ရတွေ့ရတော့ ဝမ်းသာတာပေါ့၊ ဝမ်းသာတော့ အလင်းဓာတ်ကြီးဟာ မိမိရှေ့မှာပေါ်လာတယ်။ ၎င်းအလင်းဓာတ်ကြီးထဲမှာ သွားပြီးတွယ်နေတယ်၊ အဲသည်လို အလင်းဓာတ်ကြီးထဲမှာ သွားတွယ်နေတော့ ခန္ဓာကိုယ်ပေါ်မှာ ဝေဒနာတွေချုပ်ပြီး အေးနေတယ်။ အဲဒါ အန္တရာယ် ဆယ်ပါးထဲမှာ နစ်နေတယ်လို့ခေါ်တယ်။ အဲသည်လို အလင်းဓာတ်ကြီးထဲမှာ တွယ်နေရာမှငါ့တာမဟုတ်ပါဘူးဟုဆိုပြီး ခန္ဓာကိုယ်ပေါ်သို့ အာရုံပြန်ပြီး သိမ်းလိုက်တယ်။ အဲဒါ မဂ္ဂါမဂ္ဂဉာဏဒဿနဝိသုဒ္ဓိလို့ခေါ်တယ်။ အဲသည်လို ခန္ဓာကိုယ်ပေါ်သို့ အာရုံရောက်လာတော့ဝေဒနာတွေပြန်၍ပေါ်လာတယ်။ အဲသည်တော့

အာရုံက အထက်လွန်သွားလိုက်, အောက်ပြန်ကျသွားလိုက် နှင့်နေတယ်၊ မဇ္ဈိမ ပဋိပဒါ မကျသေးဘူး၊ အဲသည်တော့ ဇောကို တင်းပြီး တဖြေးဖြေး ချလာတော့ မဇ္ဈိမ ပဋိပဒါ ကျသွားရော၊ အဲဒါဟာ ပဋိပဒါ ဉာဏဒဿနဝိသုဒ္ဓိ လို့ ခေါ်တယ်

အဲသည်လို ပဋိပဒါလဲ ကျသွားရော သေနတ်ကိုယမ်း တောင့်ထည့်ပြီး စိကကိုင်ဖြုတ်လိုက်သလို ဒင်းဆိုပြတ်သွား ရော၊ အဲဒါဉာဏဒဿနဝိသုဒ္ဓိလို့ ခေါ်တယ်။

ဂြုပ်ပင်ဆရာတော်က အရှင်ဘုရား ဝိသုဒ္ဓိက သာ၍ပင် ကောင်းသေးသည်ဟု ပြောလေ၏။

**ဝိသုဒ္ဓိ ၇-ပါး ပြီးပြီ။**

---

၁၂၈၇-ခုနှစ် တော်သလင်းလဆန်း (၃)ရက်နေ့ညနေ(၆) နာရီအချိန်တွင် ဖက်ပင်အိုင်ဆရာတော်ဘုရားကြီး ကြွလာတော်မူ သောအခါ ဆရာတော်ဦးပုည, ဦးဇာဂရ-စသော ရဟန်းတော် များနှင့်တကွ ဒါယကာများ ဆည်းကပ်နေကြစဉ် ဖက်ပင်အိုင် ဆရာတော်ဘုရားကြီးက မြင်းခြံဆရာတော်ဦးကဝိအား မေးမြန်း ပြောဆိုပုံ။

(က) ဦးကဝိတို့ ကြွလာမည့်အကြောင်းကို ပင့်စာ၌ ပါ သောကြောင့်သာ ယနေ့ ညနေ လာခဲ့ရတာပါ ဘုရား။ သို့မဟုတ်လျှင် နက်ဖန် နေ့ဆွမ်းမှီရုံလောက်မှ လာမယ်ဟု ကြံပါတယ်။ လူကြီးဆိုတော့ သွားရလာရတာများ တယ် ဝန်လေးတယ် ဦးကဝိရဲ့။

မှန်လှပါဘုရား။

(ခ) ကဲ–ဦးပုညတို့ ဦးဇာဂရတို့– ဦးကဝိနှင့် စကား ပြောကြပါဘုရား၊ တပည့်တော်တော့ မေးသေးတယ်။

မှန်လှပါဘုရား၊ အမေးအပန်းဖြေ၍ နားနေပြီးနောက် ဆရာတော်ဘုရားသာအမိန့်ရှိတော်မူပါဘုရားဟု လျှောက် ကြတော့မှ အမေးအပန်းမဖြေဘဲဆက်လက်၍ အောက်ပါ အတိုင်း ပြောဆိုလေ၏။

(ဂ) ဦးကဝိ–တပည့်တော်များသည် တပါးနှင့်တပါး ဘွားကနဲ ယခုမှ တွေ့မြင်ကြသော ပုဂ္ဂိုလ်များလဲ မဟုတ် ကြပေ။ ရှေးကလဲ တွေ့ဘူးမြင်ဘူးသူများဖြစ်ကြ၍ တပါးကို တပါး အားနာစရာလဲမရှိ မေးမြန်းစရာရှိသလောက်တော့ မေးမြန်းခွင့် မရပေဘူးလားဘုရား။

မှန်လှပါ ဆရာတော်ဘုရား၏ တပည့်ကို အလိုရှိသရွေ့ သာဆုံးမတော်မူပါဘုရား။

(ဃ) ကဲ–ဒါဖြင့် ရှေးက ပဲခူးမြို့အဗျားရွာတွင် တွေ့ကြ စဉ်ကတော့ ဗြုန်းကနဲ တွေ့ကြရတာကလဲ တကြောင်း၊ အာဂန္တုကချင်း ဖြစ်နေကြတာကလဲတကြောင်းမို့ မေးသင့် သလောက်သာ မေးရပေတယ်။ယခုဆက်လက်၍ မေးရပြန် တာပေါ့။

မေး····ဦးကဝိရဲ့ ယခု သီတင်းကျွတ်ခါနီးပြီ၊ ယခုဝါတွင်း ဘာကိုများ အာရုံပြု၍ သီတင်းသုံး နေပါသတုံး ဘုရား။

ဖြေ····သာသနာတော်ကို အာရုံပြုနေပါတယ်ဘုရား။

မေး…သာသနာတော်ကို ဘယ်ပုံအာရုံပြုပါသတုံးဘုရား။ သာသနာဆိုတာပရိယတ်ပဋိပတ်နှစ်ပါးရှိပါတယ်။ ထိုနှစ်ပါးတို့တွင် ဘယ်သာသနာကို ဘယ်ပုံ အာရုံ ပြုနေသတုံးဘုရား။

ဖြေ… ဘုရားတပည့်တော်မှာ စာကလဲ မတတ်တော့ ပရိယတ္တိသာသနာကို ချီးမြှင့်ခြင်းငှာ မစွမ်းနိုင်ပါ။ ဒါကြောင့် ပဋိပတ္တိသာသနာပေါ်တွင်သာ သမာဓိ မရသေးသော ပုဂ္ဂိုလ်များလဲ သမာဓိ ရလေအောင် ရပြီးသောပုဂ္ဂိုလ်များလဲ ရင့်သည်ထက် ရင့်အောင် ရင့်ပြီးသော ပုဂ္ဂိုလ်များလဲ လိုရင်းကိစ္စ ပြီးစီးကြ အောင်ဟာ အာရုံပြုနေရပါ၏ဘုရား။

မေး…ဒါဖြင့်လျှင် မေတ္တာပေါ့ဘုရား။

ဖြေ …မှန်လှပါဘုရား။

မေး…မေတ္တာ ဆိုတော့ သတ္တ ပညတ်အပေါ် စိတ်ကို ထား၍ လောကီ ရှိပါသေးတယ်။ လောကုတ္တရာ၌ ကော ဘယ်လို အာရုံပြုပြီး စိတ်ကိုထားပါသတုံး ဘုရား။ လောကုတ္တရာမှာကော စိတ်ကို မထားဘူး လား။

ဖြေ…လောကုတ္တရာပေါ်မှာလဲ စိတ်ကိုထားပါရဲ့ဘုရား။

မေး…အဲဒီ လောကုတ္တရာ ပေါ်မှာချည်းဘဲ စိတ်တွေကို ထားပါတော့လားဘုရား၊အဘယ်ကြောင့်လောကီ စိတ်တွေသို့ ရောက်နေရလေသလဲ။

ဖြေ····လောကုတ္တရာ ပေါ်မှာချည်း သက်သက် စိတ်ကို မထားနိုင်ပါ ဘုရား၊ ခန္ဓာဝန်ကြီးက အလွန်လေးပါသောကြောင့် လောကီတလှည့်, လောကုတ္တရာ တလှည့်ပြောင်း ခံနေရပါ၏ဘုရား။

မေး····ကဲ–ဒါဖြင့် လောကီပညတ် အာရုံပြုပုံကိုတော့ထား လိုက်ပါဦးတော့ဘုရား၊ လောကုတ္တရာ ပရမတ်ကို တော့ ဘယ်လိုအာရုံပြုပါသတုံးဘုရား။

ဖြေ····မိမိမြင်ဘူးတာကို အာရုံပြုပါတယ်ဘုရား။

မေး····ဒါဖြင့်တခြားစာတွေထားလိုက်ပါဦးတော့သင်္ဂြိုဟ် ဆိုတဲ့အတိုင်း "မဂ္ဂံ ဖလဉ္စ နိဗ္ဗာနံ၊ ပစ္စဝေက္ခတိ ပဏ္ဍိတော" စသည်ဖြင့် ပစ္စဝေက္ခဏာပေါ့။

ဖြေ····မှန်လှပါဘုရား။

မေး····ဒါဖြင့် မဂ်ဖိုလ်နိဗ္ဗာန်ကို အာရုံပြုရတာနှင့် ပညတ် ကို အာရုံပြုရတာ ဘယ်က သာ၍ခက်သတုံးဘုရား၊ မဂ်ဖိုလ်နိဗ္ဗာန်ကို အာရုံပြုရတာက သာ၍ မခက်ပေ ဘူးလားဘုရား။

ဖြေ····တပည့်တော် သဘောဖြင့် ဘယ်ဒင်းမှ မခက်ပါ ဘုရား။

မေး····မဂ်ကိုအာရုံပြုပုံကို ပြောစမ်းပါဘုရား။

ဖြေ····**ဥပမာ**–ယောဂီပုဂ္ဂိုလ် တယောက်သည် ဝိပဿနာ တရား အားထုတ်၍ တက်လာတယ် ဆိုပါတော့ ဘုရား, အဲသည်တော့ ဥပေက္ခာနည်းငယ်မျှကျသွား

ပြီးနောက် ရှေ့စိတ်သုံးပါးက ကိလေသာတရားကို ဖယ်ရှားပေးပါရောဘုရား၊ နောက်စိတ်ကနိဗ္ဗာန်ကို မြင်ပါရော၊ ဒါနဲ့ စိတ်,စေတသိတ်,ရုပ်ဆိုတဲ့ တရား သုံးပါး ဖြစ်ချုပ်,ဖြစ်ချုပ်,ဖြစ်နေတာကိုပင် ကြီးစွာ သော ဆင်းရဲကြီးပါကလား၊ ဒီဆင်းရဲဟာ ဘယ် သူ့ကြောင့် ဖြစ်သလဲလို့ စစ်လိုက်တော့ ဝင်းစိတ်, စေတသိတ်,ရုပ်ကို ပြုလုပ်ပေးတတ်တဲ့ လောဘကို မြင်ပါရောဘုရား၊ယခုပြောနေတာက တခုစီပြောရ လို့ ကြာနေတာပါ ဘုရား၊ ဟိုမှာတော့ ဘာမှ မကြာပါ ဘုရား၊ ဆင်းရဲကို သိတာနှင့် တပြိုင်နက် ထဲ ဖြစ်သွားတာပါ။

ကဲ-ပြောသာပြောပါဘုရား

အဲဒီလို လုပ်ပေးတဲ့သူကို မြင်တော့ နိုင်တဲ့သူက မြုန်းကနဲ ပြုလုပ်ပေးတဲ့သူကို သတ်လိုက်ပါရော၊ အဲဒါက မဂ်ပါဘုရား၊ ဒီတော့ စိတ်,စေတသိတ်, ရုပ်များလဲ ဖရိုဖရဲ ဖြစ်သွားသလို ဖြစ်သွားတော့ အကြောင်းအကျိုး ပြတ်သွားပါရောဘုရား၊ အဲဒါ နိဗ္ဗာန်ပါဘဲဘုရား၊ ဒါနဲ့ နောက်တော့ ဖိုလ်ဇော အုပ်သွားပါရော၊ အဲဒါ မြင်ဘူးတာတွေ ပါဘဲ ဘုရား။

ဒး····နေစမ်းပါအုံးဘုရား၊ဒီမဂ်ဖြစ်တဲ့အခါမျှား ထင်ထင် ရှားရှား မဂ်ဖြစ်မှန်းသိရဲ့လား။

ဖြ····မသိပါဘုရား၊ နောက်-ဆင်ခြင်မှ သိရပါဘုရား။

မေး…နောက် ဆင်ခြင်မှ သိရတယ်ဆိုတာ ဟုတ်ရှဲလား။

ယထာပိမူလေ အနုပဒ္ဒဝေ ဒဠှေ၊
ဆိန္နောပိ ရုက္ခော ပုနဒေဝ ရူဟတိ။
ဧဝံပိ တဏှာနုသယေ အနုပဟတေ၊
နိဗ္ဗတ္တတေ ဒုက္ခမိဒံ ပုနပ္ပုနံ။

အနုပဒ္ဒဝေ၊စိမ်းစိမ်းလတ်လတ် မသတ်ဖြတ်သေးသော။ မူလေ၊ ရေသောက်မြစ်ကြီးသည်။ ဒဠှေ၊ မြဲမြံခိုင်ခံ့သည်ရှိသော်။ ဆိန္နောပိ၊ အခက်အရွက် အပင် ပြတ်သော်သည်း။ ရုက္ခော၊ သစ်ပင်သည်။ ပုနဒေဝ၊ တဖန်သာလျှင်။ ရူဟတိ ယထာ၊ ပေါက်ရောက်ပြန်သကဲ့သို့။ ဧဝံ၊ဤအတူသာလျှင်။ တဏှာနုသယေ၊ အဖန်ဖန် ကိန်းတတ်သော တဏှာကို။ အနုပဟတေ၊ မဂ်ဖြင့် မပယ်ရသေးသည်ရှိသော်။ ပုနပ္ပုနံ၊ အဖန်တလဲလဲ။ ဣဒံဒုက္ခမ္ပိ၊ ဤသံသရာ ဝဋ်ဆင်းရဲသည်လည်း။ နိဗ္ဗတ္တတေ၊ ဖြစ်ရဦးမည်ကား မုချမလွဲတည်း။

ဟု ကျမ်းဂန်လာတဲ့အတိုင်း လောဘကိုမဂ်ကပယ်တယ်ဆိုတာဟုတ်ပါရဲ့၊ သို့သော်လည်း ယခုလောကမှာ-တိုင်းတပါးက ရန်သူစစ်သည်ကို တိုက်ခိုက်သတ်ဖြတ်ရန် ထွက်သွားသော စစ်သူကြီးသည် မိမိတယောက်တည်း မသွားဘဲ နောက်လိုက် နောက်ပါ စစ်သည်ဗိုလ်ပါ များစွာတို့နှင့် ထွက်၍ ရန်သူစစ်သည်ကို တိုက်ခိုက် သတ်ဖြတ်သလို ယခုလောကုတ္တရာမဂ်ဟာလဲ လောဘကို သတ်ရန် အဖော်များရှိသေးသလား၊ တယောက်ထဲဘဲ သတ်လေ့ရှိသလား။

ဖြေ…အဖော်ရှိပါသေးရဲ့ဘုရား။

မေး….အဖေ်က ဘယ်သူတုံး ထည့်ပေးစမ်းပါ။

ဖြေ….**ဥပမာ—**ယောဂီပုဂ္ဂိုလ် တယောက်သည် ဝိပဿနာ တရား အားးထုတ်၍ အထွတ်အထိပ်သို့ရောက်ခါနီး ရှေ့စိတ်သုံးပါးက ကိလေသာတရား ကင်းစင်သွား အောင် ပယ်ရှားလိုက်ပါရောဘုရား၊အဲဒီလို ကိလေ သာ စင်တော့ နိဗ္ဗာန်ကိုမြင်တဲ့စိတ် ပေါ်ပေါက် လာပါရောဘုရား၊ ၎င်းစိတ်က နိဗ္ဗာန်ကိုမြင်တော့ ၎င်းစိတ်မြင်သော နိဗ္ဗာန်ကို မဂ်က မှီခိုတွယ်ကပ်ပြီး လောဘကို ပယ်သတ်လိုက်ပါရောဘုရား။

မေး….မဂ်တော့သဘောကျပါပြီ ဦးကဝိရယ်၊ အလွန်သိမ် မွေ့ ခက်ခဲနက်နဲတဲ့ နေရာတွေနော်၊ တပည့်တော် များကတော့ စာတွေ့ပြောရတာ၊ ဒါနဲ့ မဂ်နောက် ဖိုလ်ဇော အုပ်လိုက်တယ်ဆိုတာ စိတ်ထဲမှာ ဘယ့် နှယ်နေသတုံးဘုရား။

ဖြေ….ကောင်းကောင်းမသိလိုက်ရပါဘုရား။

မေး….မဂ်နောင်ဖြစ်တဲ့ဖိုလ်က အနန္တရိကဖိုလ် ခေါ်တယ် ဘုရား။ နှစ်ကြိမ်သုံးကြိမ်ထည်းဖြစ်တော့ စိတ်ကလဲ အလွန် လျှင်မြန်သဖြင့် ကောင်းမွန်စွာ သိနိုင်မှာ မဟုတ်ဘူး၊ ဒါထက် မဂ်ကိုဆင်ခြင်တဲ့အခါ သိရှိပုံ များ ဘယ်လိုနေသတုံးဘုရား။

ဖြေ….**ဥပမာ—**ယောဂီ ပုဂ္ဂိုလ် တယောက်ဟာ သောတာ ပတ္တိမဂ်ကိုရတယ် ဆိုပါတော့၊ ၎င်းပုဂ္ဂိုလ်ဟာ မိမိ

ရသောမဂ်ကို ဆင်ခြင်သောအခါ ငါ သောတာ ပတ္တိမဂ်ကို ရပြီဟု သိရှိပါတဲ့ဘုရား။

မေး…ဖိုလ်ကိုဆင်ခြင်တဲ့အခါဘာကိုအာရုံပြုသတုံးဘုရား အဲဒီ ဖိုလ်စိတ် ဖြစ်နေတဲ့အခါ စိတ်ထဲမှာ ဘယ်လို မျှား နေသတုံးဘုရား။

ဖြေ…မိမိမြင်ဘူးတဲ့ အကြောင်းအကျိုး ပြတ်ရာကလေးကို အာရုံပြုလိုက်တာနှင့်ဖိုလ်စိတ်ဖြစ်လာပါရောဘုရား၊ အဲဒီတော့ စိတ်ချမ်းသာပြီး မှိန်းနေပါရောဘုရား။

ဆရာတော်…အဲသည်လို ဆင်ခြင်ပြီး ပင်စားတာက ဝလဥ္ဆန ဖိုလ်ခေါ်တယ်၊ အဲဒီဖိုလ်မှ သေသေချာချာ သိရ တယ်၊ တယ်ပြီး သိမ်မွေ့တယ်ဘုရား။ ကဲ-တပည့်တော်လဲ ညောင်းသေးတယ်၊အနင်းခံပါဦးမယ်ဟု ဖက်ပင်အိုင်ဆရာ တော်ကြီး ကျောင်းပေါ်သို့ ကြွသွားတော်မူလေ၏။

မြင်းခြံဆရာတော်က မဂ်၏ အဖော်သည် နိဗ္ဗာန်ပင် တည်းဟု-ဖြေဆိုသည်ကို ဦးမဠိက,က သဘောမကျ မကျေ နပ်လှ၍ ဖက်ပင်အိုင် ဆရာတော်ကြီးနောက်သို့ လိုက်ပြီး ကျောင်းပေါ်သို့ တက်သွားလေ၏။ ဆရာတော် ဦးပုည, ဦးဇာဂရ-စသော ရဟန်းသံဃာတော်များနှင့် တကွ ဒါ ယကာများမှာ ဖက်ပင်အိုင် ဆရာတော်က မြင်းခြံဆရာ တော်အား မေးမြန်း ပြောဆိုပုံကို ကြားကြရသဖြင့် အလွန် နှစ်သက်ယုံကြည်ဘွယ် ကောင်းကြောင်းနှင့် စပ်လျဉ်း၍ တတွတ်တွတ် ပြောဆိုကာ နေရစ်ကြလေ၏။

## ဦးဓမ္မိက ကဖက်ပင်အိုင်ဆရာတော်အား လျှောက်ထားပုံ

မေး····ဆရာတော်ဘုရား–မြင်းခြံ ဆရာတော် ဘုရားက လောဘတည်းဟူသောသမုဒယသစ္စာကို မင်္ဂကပယ်သောအခါ မဂ်၏အဖော် နိဗ္ဗာန်ပင်တည်းဟု ဖြေဆိုခြင်းကို တပည့်တော် သဘောမကျပါ။ အဘယ့်ကြောင့် ဆိုသော် မဂ္ဂဝိထိ၌ သစ္စာ လေးပါးသည် ပဋိပ နည်းအားဖြင့် တပြိုင်နက် ဖြစ်ခြင်းကြောင့် နိဗ္ဗာန်သာမဂ်၏အဖော်မဟုတ်၊ဒုက္ခသစ္စာ,သမုဒယသစ္စာလည်း မဂ်၏အဖော်ဖြစ်သေး၏ဟု နှလုံးသွင်းမိပါသည်ဘုရား။

ဖြေ····မဟုတ်ဘူး ဦးဓမ္မိကရဲ့"မဂ္ဂေါ ဒုက္ခသစ္စံပဇာနာတိ" ဆိုတဲ့အတိုင်း မဂ်သည် ဒုက္ခသစ္စာကို ပိုင်းခြား၍ သိခြင်း။ သမုဒယသစ္စာကိုပယ်ခြင်း။ မဂ္ဂသစ္စာကိုပွားများခြင်း။ နိရောဓသစ္စာကို မျက်မှောက်ပြုခြင်း ဆိုတာ မဂ်ကိစ္စ မဂ်၏စွမ်းနိုင်သောသတ္တိတွေ၊ အဖော်မဟုတ်သေးဘူး။

မေး····ဒါဖြင့်လျှင် ဘုရား–ယမိုက် ပရိညာဝါရ အတိုင်း ဉာတပရိညာ, တီရဏပရိညာ, ပဟာနပရိညာဆိုတဲ့ ပရိညာသုံးပါးသည် မဂ်ခဏ၌ တပြိုင်နက် ရသောကြောင့် ၎င်းပရိညာ သုံးပါးကို မဂ်၏အဖော်ဟူ၍ မဆိုသင့်ပေဘူးလား ဘုရား။

ဖြေ····တပြိုင်နက် ဖြစ်ရုံမျှဖြင့် မဂ်၏အဖော်ဟု မဆိုသင့်ဘူး ဦးမင်္ဂလကရဲ့၊ အဖော်ဆိုတာ တပါးကိုတပါး မှီရတာကို ဆိုတာပါ။

မေး····တပါးကိုတပါးမှီရတာကို အဖော်ဆိုလျှင် "စိတ္တေနိယုတ္တံစေတသိကံ" ဆိုသလို မဂ်နှင့်အတူ ယှဉ်သော် ယှဉ်ဘက်ဖြစ်တဲ့ စေတသိက် ၃၆-ပါးကို မဂ်၏ အဖော်လို့ မခေါ်ထိုက်ပေဘူးလား ဘုရား။

ဖြေ····အဲဒီ ၃၆-ပါးသော စေတသိက်လဲ မဂ်၏အဖော် မဟုတ်သေးဘူး၊ မဂ်နှင့် သဟဇာတ ကာရဏသာ ဖြစ်သေးတယ်။ သမုဒယသစ္စာကို ပယ်ရာ၌ မဂ်အား ရှိအောင် အားကိုးအားထား မှီခိုစရာ မဟုတ်သော ကြောင့် အဖော်မဟုတ်သေးဘူး။

မေး····ဒါဖြင့် မဂ်၏အဖော်ကို တပည့်တော် သဘောကျ အောင် အမိန့်ရှိပါအုံးဘုရား။

ဖြေ····ဟော-မဂ္ဂဝီထိမှာ မနောဒွါရာဝဇ္ဇန်း ဖြစ်ပြီးနောက် သခ်ါရုပေက္ခာဆိုတဲ့ ပရိကံ, ဥပစာ, အနုလုံ ဇော များက ကိလေသာတရား ကင်းစင်သွားအောင် ပြု ပေးလို့ ဂေါတြဘူက နိဗ္ဗာန်ကို မြင်ရရော၊ ဒီတော့ ဂေါတြဘူက ဒီမှာ နိဗ္ဗာန်လို့ သညာပေးလိုက်တာ နှင့် ဂေါတြဘူ၏ သညာသို့လိုက်၍ ရင်းဂေါတြဘူ သညာပေးသော နိဗ္ဗာန်ကို အမှီတံကဲ သယ်ပြုပြီး မဂ်က အနုသယကို ပယ်တာ ဦးမင်္ဂလကရဲ့၊ ဦးကဝိ ပြောတာ ဟုတ်လိုက်တာဗျာ၊ အလွန် သိမ်မွေ့တဲ့ နေရာတွေဗျ။

**(၁) မျောကြီးဘုန်းကြီး ဦးနာရဒ။ (၂) မျောကြီးဘုန်းကြီး ဦးသာသန။ (၃) ဆမိတ်ခုံဘုန်းကြီး ဦးနာရဒ။ (၄) မြစ်သာဘုန်းကြီး ဦးနရိန္ဒ။ ၎င်းဘုန်းကြီး ၄-ပါး အညီအညာတိုင်ပင်လာပြီးလျှင်ပရိသတ်အလယ်တွင်မြင်းခြံဆရာတော်အားမေးမြန်းကြပုံ။**

ဦးသာသန။　　။ကိုယ်တော် စာသင်ဘူးရဲ့လား။
မြင်းခြံဆရာတော်။　　။မသင်ဘူးပါဘုရား။

သာ။　　။ဒါဖြင့် ဝိပဿနာ ဘယ်အားထုတ်တတ်မတုံး၊ သီလဝိသုဒ္ဓိ, စိတ္တဝိသုဒ္ဓိမှ မသိဘဲနှင့်။

ခြံ။　။တပည့်တော်က ဆရာသမားများက ဒါမအပ်ဘူး ဆိုလျှင် လက်နှင့်တောင် မထိပါဘုရား။

၁-နာ။　　။အာဝါသောစ ကုလံ လာဘော၊ ဂဏော ကမ္မဉ္စ ပဉ္စမံ။ အဒ္ဓါနံ ဉာတိအာဗာဓော၊ ဂန္ထောဣဒ္ဓီတိ တေဒသ-လို့ ပါဠိတော်လာတဲ့အတိုင်း ကိုယ်တော် ပလိဗောဓ ၁၀-ပါး ပယ်ရဲ့လား။

ခြံ။　　။ထပည့်တော် လူဝတ်နှင့် အားထုတ် ပြီးတော့ သာမဏေဖြစ်ပြီး မကြာမီ ရေလယ်ဆရာတော်, ညောင်လွန့် ဆရာတော်များထံ ရောက်ပြီးနောက် အလုပ်မလုပ်ဘဲ သူတို့ ဆုံးမတဲ့အတိုင်း နေထိုင်ပြီးလျှင် ရဟန်းအဖြစ်သို့ ရောက်ရ ပါတယ်ဘုရား။

သာ။　　။ဒါဖြင့် ကိုယ်တော်စာလဲမတတ်ဘဲနဲ့ဘယ့်နှယ် ဝိပဿနာကို မှန်ကန်အောင် လုပ်တတ်မှာလဲ။

ခြံ။　　။ဆရာသမားပြောတဲ့အတိုင်း လုပ်ရတာပါဘဲ။

ဝ-နာ။ ။အဲ့-ဘုရားလက်ထက်က ကျွတ်သွားသူတွေ ဟာ စာတတ်တဲ့လူချည့်ဘဲလား၊ လမ်းမှန်တာဟာ ပဓာန။

ဉ-နာ။ ။ကိုယ်တော်ရဲ့ သတင်း ကြားရတာတော့ဖြင့် အလွန်ဘဲ ရဟန္တာအဖြစ်သို့ ရောက်နေတာဘဲ၊ သို့သော် စာမတတ်ဘူးဆိုသဖြင့် အချို့ဒါယကာများ ရဟန်းများက စာမသင်လဲမဂ်ဖိုလ်ရနိုင်တာဘဲ၊စာသင်တာအပိုပါဆိုကြ၍ ဘယ်သူမှ မသင်ကြားကြလျှင် ပရိယတ္တိသာသနာတော်ကြီး မပျက်စီးဘူးလား၊ ပရိယတ္တိပျက်စီးမှဖြင့် ပဋိပတ္တိ-ပဋိဝေဓ ပျက်စီးကုန်ရောပေါ့၊ အကယ်၍ တပည့်တော်တို့ကြားတဲ့ အတိုင်း ရဟန္တာဖြစ်ရိုးမှန်ပါမူ စာမတတ်ဟူသော စကား ကိုမဆိုသင့် ပရိယာယ်တမျိုးနှင့်သာ ဆိုသင့်၏၊ သာသနာ တော်ကြီး ပျက်စီးကလည်း ပုထုဇဉ်ထက် အရိယာပုဂ္ဂိုလ်က သာ၍ နာသင့်သည်မဟုတ်ပါလော။

ခြ။ ။တပည့်တော် မတတ်လို့ မတတ် ပြော တာပါ ဘုရား၊ပရိယတ္တိသင်ကြားသောပုဂ္ဂိုလ်များကို တပည့်တော် က သက်နှစ်စသည် လှူဒါန်းပြီး တိုက်တွန်းပါရဲ့။

ဝ-နာ။ ။အဲ့-ကိုယ်တော်က စာမှ တတ်ကဲ့ လားလို့ မေးပြီးတော့ စာမတတ်ဘဲနှင့် ကိုယ်တော်တို့ကို တတ်တယ် လို့ လိမ်ပြောရအုံးမှာ သား။

ဉ-နာ····ကိုယ်တော် နားထောင်နေစမ်းပါအုံး ပြော ပါစေ။

၁-နာ။　။အို-စာမတတ်ဘူးလို့မိမိကိုယ်ကိုမိမိဟုတ်မှန်ရာ ပြောတာနဲ့ဘဲ သာသနာ ၃-ရပ် ပျက်ရတော့မှာလား။

၃-နာ။　။နေစမ်းပါအုံး ဦးနာရဒရယ် ဒီစကားကို နောက်မှပြောပါ မြင်းခြီဘုန်းကြီးကို မေးပါရစေအုံး။

၁-နာ။　။အို ...ကိုယ်တော်တို့ဟာ ဟုတ်မှ မဟုတ်ဘဲ၊ ဟိုဘုရားလက်ထက်က သူငယ်ချင်း ရဟန်း ၂-ပါးရှိတယ် မဟုတ်လား၊ တပါးက ရဟန္တာ, တပါးက ပိဋကတ်သုံးပုံဆောင်၊ ဒါနဲ့ ပိဋကတ်သုံးပုံဆောင်ရဟန်းက သူငယ်ချင်းဟာ စာမသင်ပေမသင်နှင့် ထင်ရာနေတယ်လို့ ရဟန္တာကို စွပ်စွဲပြီးပြဿနာမေးမည်အကြံတွင်ရဟန္တာကိုပြစ်မှားမိမှာစိုးလို့ ဘုရားက မေးခွန်းထုတ်၍ မေးရတာကို ကြည့်ပါ၊ လမ်းမှန်လို့ နေရာကျသွားရင် ဝိပဿနာလမ်းစဉ်ကို သူတို့လောက် ဘယ်သူမှ မသိနိုင်ဘူးဗျ။

၃-နာ။　။နေစမ်းပါဦး ဦးနာရဒရယ်၊မြင်းခြံဘုန်းကြီးကိုသာ မေးပါရစေအုံး။ အဲ ဤကဲ့သို့ သာသနာ သုံးရပ်အရှည်ခိုင်ခံ့အောင်ဟာ စာမတတ်ဆိုသော စကားကို ပရိယာယ်တမျိုးနှင့်သာ ပြောဘို့ကောင်းပါတယ်။

ခြံ။　။တပည့်တော်ကလဲ မှန်တဲ့အတိုင်း ပြောတာပါဘုရား။

၃-နာ။　။ကိုယ်တော်စာသင်ပါအုံးလား၊စာသင်ပြီးမှ ပြောဟောရလျှင် သာသနာ သာလို့ မကြီးပွားဘူးလား။

ခြီ။ ။တပည့်တော် ဝိပါက်ဖြင့် စာမတတ်တာဟု ယုံကြည်ပြီး သင်ချင်တဲ့စိတ် မရှိပါဘုရား၊ တတ်လဲ တတ်မည် မထင်ပါဘုရား။

ဉ-နာ။ ။ဝိပါက်ကြောင့် ဆိုတာလဲ ဟုတ်ပါရဲ့-သို့သော် ရှုဥပန်တို့များ ပုထုဇဉ်တုန်းကသာ ဝိပါက်ထားတာ ရဟန္တာဖြစ်တော့မထားဘူး၊ခုလဲ ကြားတဲ့အတိုင်းရဟန္တာ ဖြစ်က စာတတ်ရမှာပေါ့။

၁-နာ။ ။ဟင်း-ဟင်း ရှုဥပန်က ပဋိသမ္ဘိဒါပတ္တ,အခုဘာဆိုတာ ကိုယ်တော် သိရဲ့လား၊ အရိယာချင်းတောင် အောက်ပုဂ္ဂိုလ်က အထက်ပုဂ္ဂိုလ်ကို မသိနိုင်ဘူး၊ ရဟန္တာဖြစ်လျှင် ဝိပါက်မလိုက်ဘူးတဲ့လား။

ဉ-နာ။ ။ဟုတ်ပါရဲ့၊ သို့သော်လဲ စာသင်ကြည့်ပါဦးဟု ထပ်ပြန်၍ ဤကဲ့သို့ပြောနေကြစဉ် မိုးရွာသဖြင့် ကျောင်းပေါ်သို့ တက်ရောက်ကြရကုန်၏။

## ကျောင်းပေါ်သို့ ရောက်က ပြောဆိုကြပုံ

သာ။ ။ကိုယ်တော် အဘိညာဏ်ရအောင် လုပ်ပြီးမှ ဟောပါလား။

ခြီ။ ။ရမည်မထင်ပါဘုရား။

ဉ-နာ။ ။လောကီနှင့် လောကုတ္တရာ ဘယ်က ခက်သလဲ။

ခြီ။ ။လောကီက ခက်ပါတယ်ဘုရား။

သာ။    ။လောကုတ္တရာ ရပြီးတဲ့နောက် သာပြီးမလွယ်ဘူးလား။

ခြီ။    ။အားထုတ်ချင်တဲ့ စိတ်လဲ မရှိပါဘုရား။

၃-နာ။    ။ကိုယ်တော်ယခုသံဃာဘယ်နှစ်ပါးရှိသလဲ။

ခြီ။    ။၁၅-ပါးရှိပါတယ်ဘုရား။

၃-နာ။    ။တပည့်တော်များကြားတဲ့အတိုင်း ရဟန္တာဖြစ်ပါမှ တပည့် သံဃာဇဉ် ရှိသေးသလား။

ခြီ။    ။တပည့်တော်က လိုက်တွယ်နေသည် မဟုတ်ပါ၊ သူတို့နေချင်၍လာနေတာကို တပည့်တော်က မနေရဘူးဟု မဆိုနိုင်ပါ။

၁-နာ။    ။ဟင်း-ဟင်း ဘုရားနောက် တပည့်ထောင်ကိုးရာရှိနေတာ ဘုရားက သံယောဇဉ် တွယ်နေလို့လား။

၃-နာ။    ။ဦးနာရဒကလဲ တယ်ရှုပ်ကိုး။

၁-နာ။    ။ရှုပ်တာ မဟုတ်ဘူး၊ ကိုယ်တော် တို့ဟာ မဟုတ်လို့။

## နေ့ဆွမ်းစားချိန် ဆွမ်းစားပြီး

၃-နာ။    ။ဘုန်းကြီးအားထုတ်ပုံ အစဉ်ပြောစမ်းပါ။

ခြီ။    ။လူဝတ်ကစ၍ မဂ်တိုင်အောင်ပြောလေ၏။

၃-နာ။    ။မဂ်ပြီးတော့ ပစ္စဝေက္ခဏာ မဆင်ခြင်ဘူးလား။

ခြီ။    ။ဆင်ခြင်ပါ၏ဘုရား။



ကျေးဇူးရှင် ဗွန်းလွန်းဂူကျောင်း ဆရာတော်ကြီး ဦးကာဝိ

၁၃၀၉ ခုနှစ်က ရိုက်ကူးထားသောပုံတော်

ဉ-နာ။ ။မင်္ဂ,ဖိုလ်, နိဗ္ဗာန် ဆင်ခြင်ပုံအာကာရ ပြော ပြပါ။

ခြီ။ ။ဆင်ခြင်ပြီး အလွန် ဝမ်းမြောက်ပါ၏ဘုရား။

ဉ-နာ။ ။ပြောစမ်းပါ။

ခြီ။ ။ပြောပြီးပါပြီဘုရား။

ဉ-နာ။ ။ပြောစမ်းပါ။

ခြီ။ ။ဆရာတော်များကို လျှောက်ပြီးသားပါ ဘုရား။

ဉ-နာ။ ။တပည့် တော်က ဆင်တွေပြီး ခြေရာ မခံ ချင်ဘူး။

ခြီ။ ။ဆင်ခြင်ပြီးဝမ်းမြောက်တာပေါ့၊ ယောဂီပုဂ္ဂိုလ် မှန်က မိမိတို့ပယ်ပြီးသောတရားကို သိမ်းဆည်းကြတာဘဲ။

ဉ-နာ။ ။တပည့်တော်တို့ ဘုရားလောင်း ရသေ့ဟာ ပုထုဇဉ်ဘဲ၊ ဒေါသတရား အလွန် သိမ်းဆည်းပါတယ်၊ သိမ်းဆည်းရုံမျှနှင့် မယုံကြည်နိုင်ဘူး။

ာ-နာ။ ။ပါရမီချင်းမှ မတူဘဲ ကိုယ်တော်က ထင်ရာ ပြောနေတာကိုး။

ဉ-နာ။ ။မင်းက ဘာဝင်ပြောသလဲ။

ာ-နာ။ ။ဘုန်းကြီးကဘာလဲ။

ဉ-နာ။ ။တို့တော့ မသိပါဘူးဗျာ။

ဖက်ပင်အိုင်။ ။ရန်တော့ မဖြစ်ကြနှင့် ဆင်ခြင်တော့ အာကာရနှင့် ပြောစရာမရှိဘူး၊ မင်္ဂရုံသိတာပါဘဲ။

## အဂ္ဂမဟာပဏ္ဍိတ တောင်သာဆရာတော်နှင့် ဦးကဝိ ဆွေးနွေးခန်း

**၁၂၉၂–ခု ဝါဆိုလဆန်း ၁၄–ရက်နေ့ညနေ တောင်သာမြို့ တောရကျောင်း၌ သီတင်းသုံး၍ နေသော အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဦးအဂ္ဂဝံသ ဆရာတော်ဘုရားသည် မြင်းခြံမြို့ ဦးကဝိနှင့် တွေ့ကြသောအခါ ပဋိသန္ဓာရစကား ပြောကြပြီး သကာလ သာသနာတော်၏ ကြီးပွားရာ ကြီးပွားကြောင်း ကျင့်စဉ် ထမ်းကောင်းကို ဦးအဂ္ဂဝံသ ဆရာတော်က စိစစ် မေးမြန်းတော်မူသော စကား (အကျဉ်းချုပ်မှတ်တမ်း)။**

မေး…ဦးကဝိ စိတ်ချမ်းသာပါ၏လား။

ဖြေ…မှန်လှပါ–စိတ်ချမ်းသာပါ၏ ဘုရား။

မေး…ဦးကဝိ၏ သတင်းကို ကြားရသဖြင့် အလွန် ဝမ်းမြောက်ပြီးတွေ့ချင်နေတာ ယခုတွေ့ရ၍ဝမ်းမြောက်လှပါ၏။

ဖြေ…တပည့်တော်များလဲ ဆရာတော်ဘုရား၏ ပရိယတ္တိဂုဏ်သတင်း ကြားရပြီးသော်လည်းမတွေ့ရ၊ယခုမှ ဖူးမြင်ရသဖြင့် ဝမ်းမြောက်ပါကြောင်းဘုရား။

✽ သမထ, ဝိပဿနာ, တရားအားထုတ်ပုံ နည်းနာကို နာလိုပါသည်ဟုတောင်းပန်လျှောက်ထား၍ အခွင့်ပြုတော်မူက အားထုတ်ပုံ အခြင်းအရာကို ဟောပါမည်ဟု ခွင့်ပန်ပြီးလျှင် မိမိထံသို့ ရှေ့ရှုရောက်လာသော တပည့်များအား တရား ဟောတော်မူသော

နည်းအတိုင်း (အာနာပါန)ပရိကံမှစ၍ အားထုတ်ပုံ အလုံးစုံကို မင်္ဂကျအောင် ဟောပြောလေ၏။

မေး… ရှေ့ကို ဘယ်သို့သုံးသပ်သနည်း။
ဖြေ…သမ္မသန ဉာဏ်ကစ၍ ရှေးအတိုင်း သုံးသပ် ရပါကြောင်း ဟောကြားလေ၏။

(၁) ထိုအခါ တောင်သာ ဆရာတော်က ဦးကဝိတို့ ယခုအားထုတ်သောလမ်းသည်အကျဉ်းဆုံးလမ်းပေတည်း။

(၂) တပည့်တော်တို့ အားထုတ်သော လမ်းက ကျယ်လွန်း၍ နေသောကြောင့် ပေါက်ရောက်နိုင်ခဲ့သည်။

(၃) ဦးကဝိတို့ ယခုအားထုတ်သော လမ်းစဉ်အတိုင်း သဘောကျပါ၏၊ ယုံကြည်သက်ဝင်၍ ဝန်ခံလေသည်။

(၄) ထိုသို့ဝန်ခံပြီးနောက်တပည့်တော်လည်း အကျဉ်းဆုံး အတိုဆုံးနည်းလမ်းကို ရှာဖွေနေစဉ်မှာ ယခုမှ တွေ့ရှိရသဖြင့် ကျေးဇူးများပေသည်။ဦးကဝိနှင့်တွေ့ရတာ ကျေးဇူးများသည်ဟု ဒဋ္ဌိကမ္မစကားကို မိန့်ကြားတော် မူလေသည်။

(၅) ထိုသို့ ပဋိသန္ထာရ စကား တပါးနှင့်တပါး ဆွေးနွေးတိုင်ပင်၍ ပြီးသည့်နောက် မြင်းခြံဆရာတော် ဦးကဝိအား တည်းခိုဘို့ရာ ကျောင်းသို့ တောင်သာ ဆရာတော်က လိုက်၍ပို့ပြီးလျှင်မိမိသိတင်းသုံးရာကျောင်းသို့ပြန်ကြွလေ၏၊

(၆) ထိုနောက် ဝါဆိုလပြည့်နေ့နံနက် ၇-နာရီအချိန်တွင် တောင်သာဆရာတော်သိတင်းသုံးရာကျောင်း၌ ဆွမ်းဘုဉ်းပေးပြီးနောက်သမထဝိပဿနာကျင့်စဉ်လမ်းကို ပြော

ပြပြန်ရာ သဘောကျကြောင်းကို တောင်သာဆရာတော်က အမိန့် ရှိပြီးနောက် ဝိသုဒ္ဓိမဂ်၌ လာသော မဇ္ဈိမ နိကာယ် ဆောင် တိပိဋကက စူဠနာဂမထေရ်သည် စာတတ်ပြေးသော် လည်း လုပ်ထုံးမကျွမ်းကျင်သည်ဖြစ်၍ (မဟာဓမ္မရက္ခိတ) မထေရ်ထံသွား၍ လုပ်ထုံးဥပနိသျှကိုယူရကြောင်းနှင့် ဆရာ တော်ဦးကဝိ၏နိသျှည်းများအဘိုးတန်ကြောင်းကို အနား၌ ရှိသောဒ ါယကာများအားဟောကြားလေသည်။ နောက် ညော့သည်များ ချထားသောကျောင်းသို့ မြင်းခြံဆရာတော် ဦးကဝိ ကြွသွားလေသည်

(၇) ထို့နောက် နေ့ဆွမ်းစားချိန် ရောက်သဖြင့် ဆွမ်း စားပြီးသည့်နောက် ဥပသမ္ပဒကံ စိမ်ဆောင်ရွက်ပြီးသကာ လ တောင်သာဆရာတော်ကမြင်းခြံဆရာတော်အားတရား ချီးမြှင့်ဘို့ရာ တောင်းပန်သဖြင့် မြင်းခြံ ဆရာတော်သည် တောင်သာမြို့ ရဟန်းဒါယကာ အစိုးရ အထောက်အပံ့ခံ ကျောင်းအုပ်ကြီး (ကိုစ) အစရှိသည့် ရောက်လာသော ဒါ ယကာ ဒါယိကာမတို့အား သံသရာစက်လည်ကြောင်း, သံ သရာစက်ပြတ်ကြောင်း တရားနှင့် ဓမ္မစကြာ တရားများကို ဟောကြား ညွှန်ပြ ဆုံးမလေသည်။

(၈) ထို့နောက်ဆရာတော်ဦးကဝိသည် မိမိသီတင်းသုံး နေထိုင်ရာဖြစ်သော ဇလွန်ကျောင်းသို့ ပြန်ချိန်ရောက်သဖြင့် တောင်သာ ဆရာတော်ကြီးအား ကန်တော့သော အခါ တောင်သာ ဆရာတော်က မြင်းခြံဆရာတော်၏ နည်းနာ

နိသျှည်းကိုလိုက်နာဆောင်ရွက်လိုသည်ဖြစ်၍ ဦးကဝိ-အား ထုတ်ပုံ ကျင့်စဉ်နည်းလမ်းကို အကျဉ်းချုပ်ရေး၍ ပို့ပါမည့် အကြောင်း တောင်းပန်လျှောက်ထားပြန်၏။

(၉) ထိုသို့ တောင်းပန်လျှောက်ထားချက်အရ မြင်းခြံ ဆရာတော်ကဝိပဿနာတရားအားထုတ်ပုံအကျဉ်းချုပ်ကို ၁၂၉၂-ခု ဝါဆိုလဆုတ် ၄-ရက် တနင်္ဂနွေနေ့တွင် ရေး၍ တောင်သာမြို့ အဂ္ဂမဟာ ပဏ္ဍိတ ဘွဲ့တံဆိပ်ရ ဂိုဏ်းချုပ် (ဦးအဂ္ဂဝံသ) ဆရာတော်ဘုရားထံသို့ ပေးပို့လိုက်သည်မှာ သံသရာစက် လည်ကြောင်း ပြတ်ကြောင်း နှစ်မျိုးရှိသည့် တွင် သံသရာစက် လည်ကြောင်းမဟုတ်ဘဲနှင့် သံသရာစက် ပြတ်ကြောင်း တမျိုးကိုသာ အားထုတ်ဘို့ပါဘဲဘုရား။

သံသရာစက်ပြတ်ကြောင်းလုပ်ရမည်မှာတံခါးကစောင့် ၍ဖြတ်ပါက သံသရာစက် ပြတ်ပါလိမ့်မည်။တံခါး ဆိုသည် မှာ ကာယတံခါးက စောင့်၍ဖြတ်ပါ။ ကာယ တံခါးက စောင့်၍ ဖြတ်ပါ ဆိုသည်မှာ ကာယတံခါးသည် စက္ခု စသောတံခါးတို့ထက် ယောဂီပုဂ္ဂိုလ်တို့၏ဉာဏ်မှာသိလွယ် မြင်လွယ် နှလုံးသွင်းလွယ် သုံးသပ်လွယ်သည်ဖြစ်၍ နာမရူပ ပရိစ္ဆေဒဉာဏ် အမြင်သန်စေခြင်းငှာသာ ဆိုပါသည်။

စက္ခုစသောတံခါး[illegible]သည်းစောင့်၍သတ်ရပါသေး၏။ သတ်သော်လည်း စက္ခု[illegible]သော တံခါးသည် အလွန်သိမ်မွေ့ သည်ဖြစ်၍ ယောဂီပုဂ္ဂိုလ်၏ ဉာဏ်က နုံ့နှေးသောကြောင့် နာမရူပ ပရိစ္ဆေဒဉာဏ် အမြင်မသန်နိုင်ပါ၊ သို့ဖြစ်သော ကြောင့် ကာယတံခါးက စောင့်၍ဖြတ်ပါ ဆိုပါသည်။

ထိုကာယတံခါးကလည်း ထိမှုဖြစ်တတ်ပါသည်၊ အဲဒီထိမှုမှာ သိမှုလဲပါပါသည်။အဲဒီ ထိမှု,သိမှု ထိုနှစ်ခုကိုသတိ ကြပ်ကြပ်ပြုဘို့ပါဘဲ ဘုရား။

ထိုကာယ တံခါးကို ထိတော့ ဖဿဖြစ်သည်၊ ဖဿဖြစ်တော့ ဝေဒနာဖြစ်သည်။ ၎င်းဝေဒနာကို တဏှာဥပါဒါန်ဘဝ-စသည်မဖြစ်ရအောင် သတိနှင့်စောင့်၍ သတ်ဘို့ပါဘဲ ဘုရား။

သတ်ရာမှာလဲ ဝေဒနာသညာ, ဝေဒနာပညာ နှစ်ပါးဖြစ်တတ်ရာ၌ သညာ ဆိုသည်မှာ ပညတ်ခြင်း သဏ္ဌာန်ကို အာရုံပြု၍ သုံးသပ်ခြင်းကို ဆိုပါသည်။ ဝေဒနာပညာ ဆိုသည်မှာ ပရမတ်အစစ် ဓာတ်အနှစ်ကို အာရုံပြု၍ သုံးသပ်ခြင်းကို ဆိုပါသည်။

ထိုဆိုခဲ့သောဝေဒနာသညာမဖြစ်စေဘဲ ဝေဒနာပညာဖြစ်ပါမှ ဥဒယဗ္ဗယဉာဏ် အမြင်သန်၍ မိမိဉာဏ်မှာ တစတစ သန့်ရှင်း၍ လာပါလိမ့်မည်။ ထိုနောက် ကာယတံခါးကစောင့်၍သတိနှင့်သုံးသပ်သဖြင့်ထင်ပါများသော် မနောဒွါရာဝဇ္ဇန်း ဖြစ်ပြီးသည့်နောက် သင်္ခါရုပေက္ခာဉာဏ် ဖြစ်ပေါ်လာလိမ့်မည်။

ထိုသင်္ခါရုပေက္ခာဆိုတဲ့ပရိကံ,ဥပစာ, အနုလုံဇောများက ကိလေသာတရား ကင်းစင်သွားအောင်ပြုပေးတော့ ဂေါတြဘူက နိဗ္ဗာန်ကို မြင်ရရော၊ သည့်ပော့မှ ဂေါတြဘူက နိဗ္ဗာန်လို့ သညာပေးလိုက်တာနှင့် ဂေါတြဘူ၏ သညာသို့

လိုက်၍ ဝင်းဂေါ်တြဲဘုသည္တာပေးသောနိဗ္ဗာန်ကို အမှိတ်ကဲ သယဲပြုပြီး မင်က အနုသယကို ပယ်ပါရောဘုရား။

---

၁၂၇၅-ခုနှစ် ဝါကျွတ်တွင် မိမိနှင့်အတူနေ ရဟန်းဖြစ်သော ဦးဝိဇယကိုယ်တော်အား ကျောင်းနှင့် ပရိသတ်များ ပါအကုန်လွှဲအပ်တော်မူ၍ဆရာတော်ဦးကဝိသည် သီတင်းကျွတ်လပြည့်ကျော် ၁-ရက်နေ့၌ ယခု စွန်းလွန်းဂူကျောင်းတည်ရှိရာ စွန်းလွန်းချောင်းကမ်းဘေး ရွာပင်အောက်တွင် ဝါးကွပ်ပြစ် တခုနှင့် နေထိုင်သီတင်းသုံးနေတော်မူရာတွင် နတ်ညွန်းရွာမှ လူအမည် ဦးဘိုး (ယခု ရဟန်းအဖြစ်နှင့်နေသော ဦးဇာနိယ)ဆိုသူ ဒါယကာကြီးက သုံးပင်နှစ်ဆောင်ဖြိုင် ကျောင်းတကျောင်းနှင့် ကုဋီတလုံး ဆောက်လုပ် လှူဒါန်းလေ၏။ ထိုအချိန်မှစ၍ ပဌမ **စွန်းလွန်းချောက်ကျောင်း** ဟု အမည်တွင်ရှိပြီး၊ နောက်-တရားအားထုတ်သော ဂူတွေများလာသည်နှင့် **(စွန်းလွန်းဂူကျောင်း)**.ဟု ယခုထက်တိုင် အမည်တွင်လေသည်။

ဤကဲသို့ စွန်းလွန်းဂူကျောင်းဟု ခေါ်ဝေါ် သမုတ်ကြသည်နှင့်အညီ ကျေးဇူးရှင် ဆရာတော်ဘုရားကြီး သီတင်းသုံးနေထိုင် သွားတော်မူသော ကျောင်းတော်ကြီးနှင့်တကွ တရားအားထုတ်ကြသော ဂူကျောင်းများတို့သည် သာယာကြည်နူးဘွယ်ကောင်းသောဂုဏ်ထူးဝိသေသများကိုဆောင်လျက် တည်ရှိနေလေတော့သည်။

---

## ဓမ္မစကြာတရားတော်

ဒါယကာကြီး ဒါယိကာမကြီးတို့ မချမ်းသာချင်ကြဘူးလား။ အဲသည်လို မေးတော့ မှန်လှပါဘုရား ချမ်းသာချင်တာပေါ့။ **အေး ချမ်းသာချင်လျှင် မိမိကိုယ်ကိုလဲ မချစ်နှင့်၊ သူတပါးကိုလဲ မချစ်နှင့်၊ ချစ်လျှင် ဒုက္ခ ရောက်တတ်တယ်၊ ချစ်ခြင်းသမုဒယဟာ ဒုက္ခကိုသာ အကျိုးပေးတယ်။**

အရှင်ဘုရားကမချစ်နှင့်ဆိုပေမဲ့ချစ်သေးတာပေါ့ဘုရား။ အဲ-ချစ်တာ မသိလို့ ချစ်တာ၊ သိလျှင် မချစ်ဘူး။ အဲဒါကြောင့် မသိလို့ လိုချင်၊ လိုချင်လို့ စွဲလမ်း၊ စွဲလမ်းတော့ ပြုလုပ်၊ ပြုလုပ်တော့ရရှိ၊ ရရှိတော့-ခံရ၊ ခံကြပေတော့ဟု အားပေးလိုက်ရမှာပေါ့၊ **မသိတာက အဝိဇ္ဇာ၊ လိုချင်တာက တဏှာ၊ အဝိဇ္ဇာနှင့် တဏှာ နှစ်ပင်ပူးလို့ အကြောင်းပြုလိုက်တော့ ဇာတိတရားကြီး ရတာပေါ့။ အဲ-ဇာတိတရား ဝဋ်ကောင်ကြီး ရမှဖြင့် ခံရလိမ့်မယ်၊ မညည်းကြနှင့်၊ အဲ-သိတော့ မလိုချင် မလိုချင်တော့ မပြုလုပ်၊ မပြုလုပ်တော့မရ၊ မရတော့ ငြိမ်းတာပေါ့။**

ဒါယကာ-ဒါယိကာမကြီးတို့လိုပုဂ္ဂိုလ်ကို မဆိုထားဘိ၊ မြတ်စွာဘုရား ကိုယ်တော်မြတ်ကြီးတောင်မှ ဗောဓိပင်နှင့် ရွှေပလ္လင်တော်ပေါ်ကျမှ မိမိကိုယ်ကို သုံးသပ်လိုက်တယ်၊ အဲဒီလို မိမိကိုယ်ကို သုံးသပ်လိုက်တော့မှ **ဓမ္မစက္ခုက** ပွင့်သွားတယ်။ အဲဒီလို **ဓမ္မစက္ခုက** ပွင့်သွားတော့မှ လောကကြီးရဲ့အကြောင်းကိုသိတော်မူတ...။ အဲဒါကြောင့် မြတ်စွာ

ဘုရားကိုယ်တော် မြတ်ကြီးက ဟဲ့-လောကကြီး နှင်၏ အကြောင်းကိုငါသိပြီ၊ရှေးအထက်ကျော်ကာရီက လောကကြီးရဲ့အကြောင်းကို ငါမသိ၍ တဏှာယောက်ျား ဆောက်လုပ်ပေးတဲ့ လူ့အိမ် နတ်အိမ်အစရှိတဲ့ အိမ်အမျိုးမျိုးကို ငါနေရတယ်၊ အခုတော့ လောကကြီးရဲ့ အကြောင်းကို ငါသိပြီ။ ဘယ်လို သိသလဲဆိုတော့ စိတ်-စေတသိက်-ရုပ် ဆိုတဲ့တရားသုံးပါးဟာ ဖြစ်လိုက်-ပျက်လိုက်နှင့် နေတာကို မြင်ရတယ်၊ အဲဒါဘဲ သတ္တဝါ-သတ္တလောကလို့ခေါ်တယ်၊ ပြုပြင် စီရင်နေတာက သင်္ခါရ၊ သင်္ခါရ လောကလို့ ခေါ်တယ်။တည်ရာမှီရာကဩကာသ၊ဩကာသလောကလို့ခေါ်တယ်။ အဲဒါဟာ အတွင်းလောက သုံးပါးလို့ ခေါ်တယ်။ အပြင်လောကသုံးပါးကတော့ သတ္တဝါ အမျိုးမျိုးတွေကို မြင်ရတယ်။ အဲဒီသတ္တဝါအမျိုးမျိုးတွေကိုဘဲ "သတ္တလောက"လို့ခေါ်တယ်။ပြုပြင်စီရင်နေတာက"သင်္ခါရလောက" လို့ခေါ်တယ်။ တည်ရာမှီရာက "ဩကာသလောက" လို့ ခေါ်တယ်။ အဲဒါဟာ အပြင်လောကသုံးပါး။

အဲဒီလို လောကကြီးရဲ့ အကြောင်းကိုသိတော်မူတော့ တဏှာယောက်ျား ဆောက်လုပ်ပေးတဲ့ လူ့အိမ်-နတ်အိမ် အစရှိတဲ့ အိမ်အမျိုးမျိုးကို ငါဖျက်ဆီး၍ ပစ်လိုက်ပြီ။ အဲဒါကြောင့် မြတ်စွာဘုရား ကိုယ်တော်မြတ်ကြီးက ကြိမ်းတော်မူတယ်။ ဘယ်လိုများ ကြိမ်းတော်မူပါသလဲဆိုတော့၊ ဟဲ့-တဏှာယောက်ျား ပဲခွပ်သမား၊ နင် ဆောက်လုပ်ပေးတဲ့ အိမ်၏ တဏှာတည်းဟူသော အခြင်အမိုးတို့ကို ငါချိုးဖဲ့၍

ဖျက်ဆီးပစ်လိုက်ပြီ၊ ဟဲ့-အဝိဇ္ဇာကြီး၊ နင်-ကာပေးတဲ့ထရံ အကွယ်အကာကြီးကို ငါခွါလှန်၍ချပစ်လိုက်ပြီ၊ သဏ္ဍာယ ဒိဋ္ဌိတည်းဟူသော ယက်မ-ဆင့်စသော ခြောင့်-တံသင်းတို့ ကိုလဲ ငါနုတ်ပယ်ပစ်လိုက်ပြီ၊ အဲဒီလို ကြိမ်းတော်မူတယ်။ အဲဒီလို မြတ်စွာဘုရား ကိုယ်တော်မြတ်ကြီးဟာ မြင်တော် မူတယ်၊ သိတော်မူတယ်။ အဲဒီလို မြတ်စွာဘုရားကိုယ်တော် မြတ်ကြီးဟာ မြင်တော်မူတော့-သိတော်မူတော့ မလိုချင်၊ မလိုချင်တော့ မပြုလုပ်၊ မပြုလုပ်တော့ မရ၊ မရတော့ ငြိမ်း တာပေါ့၊ အဲဒါကြောင့် မြတ်စွာဘုရားကိုယ်တော်မြတ်ကြီး ဟာ ပရိနိဗ္ဗာန်ပြုပြီး တဖန်ဇာတိတရားကြီး ရသေးသလား၊

မရပါဘုရား။

အဲဒီလို မြတ်စွာဘုရား ကိုယ်တော်မြတ်ကြီးဟာ ကိုယ် တော်တိုင်မြင်တော်မူတဲ့ သိတော်မူတဲ့တရားတွေကို မိဂဒါ ဝုန်တောမှာ အရှင်ကောဏ္ဍည စသော ပဉ္စဝဂ္ဂီငါးဦးတို့၏ အပေါင်းကို တရားဦး ဟောတော်မူတယ်။ အဲဒီလို ဟော တော်မူတဲ့ တရားက **ဓမ္မစကြာ** တရားလို့ခေါ်တယ်၊ ဘယ် လိုများဟောတော်မူပါသလဲဆိုတော့-**စက္ခုံ ဥဒပါဒိ၊ ဉာဏံ ဥဒပါဒိ၊ ပညာ ဥဒပါဒိ၊ ဝိဇ္ဇာ ဥဒပါဒိ၊ အာလောကော ဥဒပါဒိ-လို့**ဟောတော်မူတယ်။

အဲဒီလိုဟောတော်မူတော့ စက္ခုံဥဒပါဒိ ဆိုတာ ဘာ ပါလဲဘုရားဟု အရှင်ကောဏ္ဍည မထေရ်က-မေးလျှောက် တယ်ဆိုပါတော့၊ အဲဒီလိုမေးလျှောက်ငတော့ **စက္ခုံ**ဥဒပါဒိ ဆိုတာ ဓမ္မစက္ခုကဖွင့်ပေးတော့ မှန်တာမြင်တာပေါ့။ မှန်

တာ မြင်တယ်ဆိုတာ ဘာပါလဲဘုရားဟု ထပ်မံ၍လျှောက်ထားပြန်တော့ မှန်တာမြင်တယ်ဆိုတာ **"အပ္ပိယေဟိ သမ္ပယောဂေါ ဒုက္ခော၊ ပိယေဟိ ဝိပ္ပယောဂေါဒုက္ခော၊ ယံပိစ္ဆံ နလဘတိ တံပိဒုက္ခံ"**ပေါ့။

"အပ္ပိယေဟိ သမ္ပယောဂေါ ဒုက္ခော" ဆိုတာ စိတ်-စေတသိက်-ရုပ်-ဆိုတဲ့ တရားသုံးပါးဟာ ဇာတိဖြစ်လိုက် ဇရာဖြစ်လိုက် မရဏဆိုက်လိုက်နှင့် တပြောင်းပြန်ပြန် ခံနေရတာကို မြင်ရတယ်၊ အဲဒီလို မြင်ရတော့ ဇာတိဖြစ်လျှင် ဇရာမရဏ ချစ်ပါ့မလား၊ မချစ်ဘူးပေါ့။ မချစ်ပေမဲ့ ဘယ်ကစပြီး ပေါင်းသင်းလာရမှန်းမှမသိဘဲ၊အဲဒါကြောင့်"အပ္ပိယေဟိ သမ္ပယောဂေါ ဒုက္ခော"တဲ့=မချစ်မနှစ်သက်သောသူနှင့် ပေါင်းဖော်ရခြင်းသည် ဆင်းရဲ၏လို့ ဟောတော်မူတယ်။

✱ အဲဒီ စိတ်-စေတသိက်-ရုပ်ဆိုတဲ့ တရားသုံးပါးဟာ ဖြစ်ပျက်ပြီး ဆင်းရဲနေတာကို ဒုက္ခကြီးဟု ပိုင်းပိုင်းခြားခြား သိတယ်။ အဲဒီဒုက္ခသစ္စာကို ပိုင်းခြား၍ သိတော့ မည်သူ့ကြောင့်တုံးဟု စီစစ်လိုက်တယ်။ အဲသည်လို စီစစ်လိုက်တော့ လုပ်ပေးတတ်တဲ့ လောဘတဏှာ သမုဒယသစ္စာကို မြင်ပါရော။အဲသည်လို လုပ်ပေးတတ်တဲ့ လောဘတဏှာ သမုဒယသစ္စာကို မြင်တော့ နိုင်တဲ့သူက လက်ဝါးကြီးအုပ်ပြီး သိမ်းလိုက်တယ်ဆိုပါတော့၊ အဲဒီလို လက်ဝါးကြီးအုပ်ပြီး သိမ်းလိုက်တော့ စိတ်-စေတသိက်-ရုပ်-ဆိုတဲ့

တရားသုံးပါးဟာ တဦးနှင့် တဦး တွယ်တွယ်နေတယ်၊ ခွဲရမှာ ကြောက်မှာပေါ့၊ အဲသည် စိတ်-စေတသိက်-ရုပ်ဆိုတဲ့ တရားသုံးပါးဟာ ဘယ်ကစပြီး ပေါင်းသင်း လာရမှန်းမှ မသိဘဲ၊ အဲဒါကြောင့် "ပိယေဟိ ဝိပ္ပယောဂေါ ဒုက္ခော"=ချစ်သောသူနှင့် မပေါင်းဖော်ရခြင်းသည် ဆင်းရဲကြီးဟု ဟောတော်မူတယ်။

* အဲသည် ဒုက္ခကြီးမှ လွတ်လျှင် ကောင်းလေစွ ဟု တောင့်တတယ်။ အဲသည်လို တောင့်တလို့ မရခြင်းကြောင့် ယမ္ပိစ္ဆံ နလဘတိ တမ္ပိ ဒုက္ခံ-လို့ မြတ်စွာဘုရားကိုယ်တော်မြတ်ကြီးက ဟောတော်မူတယ်။

* အဲသည် စိတ်-စေတသိက်-ရုပ်ဆိုတဲ့ တရားသုံးပါးဟာ တဦးနှင့်တဦး တွယ်တွယ်နေတာကို သတ္တာယလို့ခေါ်တယ်။ လောဘတဏှာ သမုဒယကို မင်္ဂကပယ်လိုက်တာက မဂ္ဂသစ္စာ။ အဲသည်လို မင်္ဂကပယ်လိုက်တော့ စိတ်-စေတသိက်-ရုပ် ဆိုတဲ့ တရားသုံးပါးဟာ ဖရိုဖရဲဖြစ်ပြီး အကြောင်း အကျိုး ပြတ်သွားတာက နိရောဓ-နိရောဓ သစ္စာ၊ အဲသည်လို ဒုက္ခသစ္စာ,သမုဒယသစ္စာ, မဂ္ဂသစ္စာ, နိရောဓသစ္စာ ဤသစ္စာ လေးပါးကို ပိုင်းပိုင်း ခြားခြား မြင်ခြင်းကြောင့် **"စက္ခုံဥဒပါဒိ"** ထင်ရှားရှိ၏လို့ ဟောတော်မူတယ်။

အဲသည်လို မြေစက္ခုက ဖွင့်ပေးတော့ မှန်တာမြင်တယ်။ မှန်တာမြင်တော့မှန်တာသိတယ်။အဲသည်လိုမှန်တာသိခြင်းကြောင့် **"ဉာဏံ ဥဒပါဒိ"** ထင်ရှားရှိ၏-လို့ ဟောတော်မူတယ်။

**အဲ**သည်လို မြေစက္ခုကဖွင့်ပေးတော့ မှန်တာ မြင်တယ်၊ မှန်တာမြင်တော့မှန်တာသိတယ်။မှန်တာသိတော့ပညာက ဝေဘန်ကပြုပြီး ဆုံးဖြတ်တာပေါ့၊ ဘယ်လိုများ ဝေဘန်ကပြုပြီး ဆုံးဖြတ်ပါသလဲဆိုတော့ ဤကားရုပ်၊ ဤကားနာမ်၊ ဤကားစိတ်၊ ဤကား စေတသိက်၊ ဤကား ဒုက္ခသစ္စာ၊ ဤကား သမုဒယသစ္စာ၊ ဤကား မဂ္ဂသစ္စာ၊ ဤကားနိရောဓသစ္စာ၊ ဤသစ္စာ လေးပါးကိုပင်လျှင် သောတာပတ္တိမဂ်သောတာပတ္တိဖိုလ်ခေါ်တယ်။ဤကား ဒုက္ခသစ္စာ၊ဤကားသမုဒယသစ္စာ၊ ဤကား မဂ္ဂသစ္စာ၊ ဤကား နိရောဓသစ္စာ၊ ဤသစ္စာလေးပါးကိုပင်လျှင်သကဒါဂါမိမဂ်,သကဒါဂါမိဖိုလ်ခေါ်တယ်။ ဤကား ဒုက္ခသစ္စာ၊ ဤကား သမုဒယသစ္စာ၊ဤကား မဂ္ဂသစ္စာ၊ ဤကား နိရောဓသစ္စာ၊ ဤသစ္စာလေးပါးကိုပင်လျှင် အနာဂါမိမဂ်, အနာဂါမိဖိုလ် ခေါ်တယ်။ ဤကား ဒုက္ခသစ္စာ၊ ဤကား သမုဒယသစ္စာ၊ဤကားမဂ္ဂသစ္စာ၊ ဤကား နိရောဓသစ္စာ၊ ဤသစ္စာလေးပါးကိုပင်လျှင် အရဟတ္တမဂ်, အရဟတ္တဖိုလ်ခေါ်တယ်။ဤကားသတ္တလောက,ဤကား သင်္ခါရလောက,ဤကားဩကာသလောက, ဤကား အတွင်းလောကသုံးပါး၊ ဤကားအပြင်လောကသုံးပါး၊ အဲသည်လို ပညာက ဝေဘန်ကပြုပြီး ဆုံးဖြတ်

ခြင်းကြောင့် **"ပညာ ဥဗ္ဗပါဒိ"** ထင်ရှားရှိ၏-လို့ ဟော တော်မူတယ်။

မဂ္ဂစက္ခုက ဖွင့်ပေးတော့ မှန်တာမြင်တယ်၊ မှန်တာမြင် တော့ မှန်တာသိတယ်၊မှန်တာသိတော့ပညာကဝေဘန်ရွက ပြုပြီးဆုံးဖြတ်တယ်။မည်သူ့အပေါ်မှာပညာက ဝေဘန်ရွက ပြုပြီး ဆုံးဖြတ်သလဲ၊ အလင်းခတ်ကြီးပေါ်မှာ ပညာက ဝေဘန်ရွက ပြုပြီး ဆုံးဖြတ်တယ်။ အဲ-သည်လို ပညာက အလင်းခတ်ကြီး ပေါ်မှာ ဝေဘန်ရွကပြုပြီး ဆုံးဖြတ်ခြင်း ကြောင့် **"ဝိဇ္ဇာ ဥဗ္ဗပါဒိ"** ထင်ရှားရှိ၏-လို့ ဟောတော်မူ တယ်။

မဂ္ဂစက္ခုက ဖွင့်ပေးတော့ မှန်တာမြင်တယ်၊ မှန်တာမြင် တော့ မှန်တာသိတယ်၊မှန်တာသိတော့ပညာကဝေဘန်ရွက ပြုပြီးဆုံးဖြတ်တယ်။မည်သူ့အပေါ်မှာ ပညာက ဝေဘန်ရွက ပြုပြီး ဆုံးဖြတ်သလဲ၊ အလင်းခတ်ကြီးပေါ်မှာ ပညာက ဝေဘန်ရွကပြုပြီး ဆုံးဖြတ်တယ်။ မည်သူ့အထဲမှာ ပညာက ဝေဘန်ရွကပြုပြီး ဆုံးဖြတ်သလဲ၊ အာလောကကြီး ထဲမှာ ပညာက ဝေဘန်ရွကပြုပြီး ဆုံးဖြတ်တယ်။ အဲသည်လို ပညာ က အာလောကကြီးထဲမှာ ဝေဘန်ရွကပြုပြီး ဆုံးဖြတ်ခြင်း ကြောင့် **"အာလောကောဥဗ္ဗပါဒိ"** ထင်ရှားရှိ၏-လို့ ဟော တော်မူတယ်။

မဂ္ဂစက္ခုက ဖွင့်ပေးတော့ မှန်တာမြင်တယ်၊ မှန်တာမြင် တော့ မှန်တာသိတယ်၊မှန်တာသိတော့ပညာကဝေဘန်ရွက

ပြုပြီးဆုံးဖြစ်တယ်။မည်သူ့အပေါ်မှာ ပညာကဝေဘန္ဒီက ပြုပြီး ဆုံးဖြစ်သလဲ၊ အလင်းခေတ်ကြီးပေါ်မှာ ပညာက ဝေဘန္ဒီကပြုပြီး ဆုံးဖြစ်တယ်။ မည်သူ့အထဲမှာ ပညာက ဝေဘန္ဒီကပြုပြီး ဆုံးဖြစ်သလဲ၊အာလောကကြီးထဲမှာပညာ ကဝေဘန္ဒီကပြုပြီး ဆုံးဖြစ်တယ်။ အဲဒါကြောင့် မြတ်စွာ ဘုရား ကိုယ်တော်မြတ်ကြီးက **"စက္ခုံ ဥဒပါဒိ၊ ဉာဏံဥဒပါဒိ၊ ပညာဥဒပါဒိ၊ ဝိဇ္ဇာဥဒပါဒိ၊ အာလောကော ဥဒပါဒိ"** ထင် ရှားရှိ၏-လို့ ဟောတော်မူတယ်။

---

## ပဋ္ဌာန်း တရားတော်

### ပဋ္ဌာန်းတရားတော်ကြီးကို ဟောကြားတော်မူပါဟု လျှောက်ထားရာ

သခင်နု-ရန်ကုန်မြို့မှာနေစဉ်အခါက မြင်းခြံမြို့ဝွန်းလွန်း ဂူကျောင်း ဘုန်းတော်ကြီး ဦးကာဝိ ရှိတယ်လို့ မကြားဘူး ယား။

ကြားပါ၏ဘုရား။

အဲဒါ ဟိတ်ခတ်တာ၊ ဟေတုပစ္စယော-လို့ခေါ်တယ်။

ရင်းနောက် သွားအုံးမှပါလေလို့-အာရုံက မဆန့်ဘူး လား။

ဆန့်ပါ၏ဘုရား။

အဲဒီ အာရုံဆန့်တာကို အာရမ္မဏ ပစ္စယော-လို့ ခေါ် တယ်။

နောက်တဖန် အိမ်မှာ ကျီးစားစား ခွေးစားစား ဘုန်းတော်ကြီး၏ခြေရင်းသို့ မရောက်-ရောက်အောင် သွားအုံးမှဘဲလို့ ခန္ဓာကိုယ်ကြီးကို အာရုံကဆွဲလာ၍ ယခု ဘုန်းတော်ကြီး ခြေရင်းသို့ ရောက်လာတာဟာ ဒကာကြီး လာချင်လို့ လာတာမဟုတ်ဘူး၊ ခန္ဓာကိုယ်ကြီးကို အာရုံက အမိပတိ တပ်၍ဆွဲလာခြင်းကြောင့်အမိပတိပစ္စယော-လို့ခေါ်တယ်။

မှန်လှပါဘုရား။

အဲဒါ ဘာကြောင့် လာရတာလဲဆိုလျှင် ရှေးက ဘုန်းတော်ကြီးနှင့် တွေ့ခဲ့ရဘူးလို့ ခုတွေ့ချင်တယ်။ ခုတွေ့ချင်လို့ တွေ့ရပြန်တယ်၊ နောင်ကိုလဲ တွေ့ရလေအုံးမယ်။

ဒကာကြီး ဝက်သားများ စားဘူးသလား။

စားဘူးပါ၏ဘုရား။

အဲ-ရှေးက ဝက်သားကို စားဘူးလို့ ခု-စားချင်တယ်၊ ခု-စားချင်လို့ စားရပြန်တယ်။ နောင်ကိုလဲ စားရလေအုံးမယ်။

ခွေးသားကော စားဘူးပါသလား။

မစားဘူးပါဘုရား။

အဲ-ရှေးက ခွေးသား မစားဘူးလို့ ခု-မစားချင်ဘူး၊ ခု - မစားချင်လို့ ခု-မစားဘူး။ နောင်ကိုလဲ စားရမှာ မဟုတ်ဘူး။

ရှေးက သည်တရားမျိုးကို နာခဲ့ရဘူးလို့ ခု-နာချင်တယ်။ ခု-နာချင်လို့ ခု-နာရပြန်တယ်။ နောင်ကိုလဲ နာရလေအုံးမယ်။

အနန္တရ, သမနန္တရ, သဟဇာတ, အညမည ပစ္စည်း ဆက်မသွားပေဘူးလား။

သွားပါ၏ဘုရား။

ဘုန်းကြီး၏ခြေရင်းရောက်တော့ ဘုန်းကြီးက ရှေးဦးစွာ ဘုရားကန်တော့၊ မေတ္တာပို့၊ အမျှဝေ၊ မိမိ ခန္ဓာကိုယ်ကို ဘုရားလှူ၊ နှာသီးဖျားမှာ စိတ်ကိုထား၊ လေတိုးထိတော့ သိလိမ့်မယ်။ သိတဲ့အပေါ် သတိထားရမယ် ပြောတော့ နိဿယပစ္စယော၊ ဥပနိဿယ ပစ္စယော-လို့ခေါ်တယ်။

မှန်လှပါဘုရား။

အားထုတ်ဆဲ အခိုက်အတန့်မှာ မျက်စိကကော တောင်ကြည့် မြောက်ကြည့် ကြည့်သေးရဲ့လား။

မကြည့်ပါဘုရား။

နားကကော-ဟိုထောင်-သည်ထောင် ထောင်သေးရဲ့လား။

မထောင်ပါဘုရား။

နှာခေါင်းကကော ဟိုရှူ သည်ရှူ ရှူသေးရဲ့လား။

မရှူပါဘုရား။

ပါးစပ်ကကော ဟိုစားချင်သည်စားချင်ရှိသေးရဲ့လား။

မရှိပါဘုရား။

(၁၂၂)　　စွန်းလွန်းဆရာတော်ဘုရားကြီး၏

ခန္ဓာ ကိုယ်ကြီးကကော ဟိုသွားချင် သည်သွားချင် ရှိသေး၍လား။

မရှိပါဘုရား၊

အဲ-စက္ခုန္ဒြေ၊သောတိန္ဒြေ၊ဃာနိန္ဒြေ၊ဇိဝှိန္ဒြေ၊ကာယိန္ဒြေ၊ ဆိုတဲ့ ဣန္ဒြေငါးပါး မလုံဘူးလား။

လုံပါ၏ဘုရား။

အဲဒါ ဣန္ဒြိယပစ္စယော-လို့ ခေါ်တယ်။

မိမိနှာသီးဖျားမှာ လေတိုးတာကို သတိနှင့် သုံးသပ်ပါ များသော် ဈာန်၏သတ္တိ ဖြစ်ပေါ်၍ လာလိမ့်မည်၊ ဈာန်ဆို တာ ကိလေသာ လောင်ကျွမ်းခြင်းကို ဈာန်ဟုခေါ်သည်။ အဲဒါ ဈာနပစ္စယော-လို့ ခေါ်တယ်။

မှန်လှပါဘုရား။

ဘုန်းကြီးက ခန္ဓကိုယ်တွင် ပူမှန်း သိတဲ့ အပေါ်မှာ သတိထား၊ ပူမှုနှင့် သိမှု ချုပ်လိမ့်မယ်။

အေးမှန်းသိတဲ့အပေါ် သတိထား၊ အေးမှုနှင့် သိမှုချုပ် လိမ့်မယ်ဆိုတော့ မဂ်ခရီးရောက်ခြင်းကြောင့် မဂ္ဂပစ္စယော- လို့ခေါ်တယ်။

မှန်လှပါဘုရား။

ငင်းမဂ်ခရီးသို့ သွားပါများ၍ သမာဓိ ကြီးထွားလာ သော် ဥဒယဗ္ဗယဉာဏ်အမြင်သန်၍လာခြင်းကြောင့်မရှိတာ ကို ကျေးဇူးပြုလိမ့်မယ်၊ ရှိတာကိုလဲကျေးဇူးပြုလိမ့်မယ်။

မရှိတာက ငါ့မြေ့,ငါ့ထက်,ငါ့ခေါင်း, ရှိတာက-စိတ်စေတသိက်-ရုပ်-နိဗ္ဗာန်ဆိုတဲ့ ပရမတ္ထတရားသဲ။

ကင်းတာကိုလဲ ကျေးဇူးပြုလိမ့်မယ်၊ မကင်းတာကိုလဲ ကျေးဇူးပြုလိမ့်မယ်။ မကင်းတာက-သန်တခေတ်၊ကင်းတာက-အသန်တခေတ်မဟုတ်လား။

ဟုတ်ပါ၏ဘုရား။

အဲဒါ အတ္ထိပစ္စယော, နတ္ထိပစ္စယော, ဝိဂတပစ္စယော' အဝိဂတပစ္စယော-လို့ခေါ်တယ်။

* ၎င်းပဋ္ဌာန်းဒေသနာတော်ကို လိုရင်းပစ္စည်းသောက် ဖော်ပြလိုက်သည်။

ပဋ္ဌာန်းဒေသနာတော်ကြီး ပြီးပြီ။

---

### အနုကာယကို မင်ကပယ်ပုံ

မေး …အနုသယကို မဂ်ကပယ်ပုံ အလုံးစုံကို ဟောကြားတော်မူပါဘုရား။

ဖြေ…ဒကာကြီး – မြင်တတ်သော တရား၊ မြင်အပ်သော တရား၊ သိတတ်သော တရား၊ သိအပ်သော တရား။ ပယ်တတ်သော တရား၊ ပယ်အပ်သော တရား။ ပြတ်သော တရားရယ်လို့ ရှိတယ်။ ဝိပဿနာတရားအလုပ်ကိုအားထုတ်သော ယောဂီပုဂ္ဂိုလ်တယော ၎က်

သည် စိတ်-စေတသိက်-ရုပ် ဆိုတဲ့ တရားသုံးပါးကို ဝိုင်းဝိုင်းခြားခြားမြင်သောအခါ ကြီးစွာသော ဒုက္ခကြီးပါကလား၊ဒီဒုက္ခကြီးဟာ မည်သူ့ကြောင့်လဲလို့ စီစစ်လိုက်တော့လုပ်ပေးတတ်တဲ့ လောဘတည်းဟူသော သမုဒယကို မြင်သည်နှင့် တပြိုင်နက် မဂ်က အနုသယကို ပယ်သတ်လိုက်ပါရော။

ဂုင်းစိတ်-စေတသိက်-ရုပ်-နိဗ္ဗာန် မြင်တတ်ထာက မဂ္ဂစက္ခု၊ မြင်အပ်ထာက သစ္စာလေးပါး၊ သိတတ်ထာက ညာဏ်၊ သိအပ်ထာက သစ္စာလေးပါး၊ ပယ်တတ်ထာက မဂ်၊ ပယ်အပ်ထာက သမုဒယ၊ ပြတ်ထာက နိရောဓလို့ ခေါ်တယ်။

---

## လောကသုံးပါး

ဂုင်းစိတ်-စေတသိက်-ရုပ်-မြင်တာကိုပင် သတ္တဝါသတ္တလောကလို့ ခေါ်တယ်။ ပြုပြင်တာထို သင်္ခါရလောကလို့ ခေါ်တယ်။သတ္တဝါတို့၏တည်ရာမှီရာ ဘုံဗိမာန်၏ တည်ရာမှီရာကို ဩကာသ လောက-လို့ ခေါ်တယ်။

## ဉာဏ်သုံးပါး

ဂုင်းစိတ်, စေတသိက်, ရုပ်,မြင်တာကို သစ္စညာဏ်-လို့ ခေါ်တယ်။

မဂ်ကိစ္စကို ကိစ္စညာဏ်လို့ခေါ်တယ်။

အနုသယကို မဂ်က ပယ်သတ်လိုက်တော့ အကြောင်းအကျိုးပြတ်ထာကိုပင် ကတညာဏ်လို့ခေါ်တယ်။

## ပရိညာ သုံးပါး

ရုပ်နာမ်-စေတသိက်-ရုပ်ဆိုတဲ့ တရားသုံးပါး မြင်တာကိုပင် ဉာတပရိညာလို့ ခေါ်တယ်။ မည်သူ့ကြောင့်လဲလို့ စိစစ်ထာကို တီရဏ ပရိညာလို့ ခေါ်တယ်။ မဂ်က အနုသယ ပယ်တာကို ပဟာနပရိညာလို့ခေါ်တယ်။

## ဝဋ်သုံးပါး

ရုပ်စိတ်-စေတသိက်-ရုပ် တို့၏ အပေါင်း အစုသည် ကိလေသာဝဋ်။

ကုသိုလ် အကုသိုလ်က ကမ္မဝဋ်။

တပြောင်းပြန်ပြန် ခံနေရတာကဝိပါကဝဋ်-ခေါ်တယ်။

## ဥဃျမ်တရား ငါးပါး

ရုပ်း စိတ်-စေတသိက်-ရုပ်ကို သင်္ခါရက စုပေးတော့ သိမှု မှတ်မှု ဖြစ်ပေါ်လာတယ်။ အဲ-စုပေးတာက သင်္ခါရ၊ ဖြစ်ချုပ် ဖြစ်ချုပ်နှင့် ဖောက်ပြန်တာက ဝိကာရ၊ မြေ-ရေ-လေ-မီး ဓာတ်ကြီးလေးပါးက လက္ခဏ၊ နိဗ္ဗာန်က နိဗ္ဗာန်၊ ဤကာ-ရုပ်-ဤကာ-နာမ်-ဤကာ-စိတ်-ဤကာ စေတသိက်လို့ ပါးစပ်က ပြောတာကို ပညတ်လို့ခေါ်တယ်။

---

**၁၃၁၀-ခု၊ ဝါခေါင် လဆုတ် ၁၄-ရက် ကြာသပတေးနေ့ည ၈-နာရီအချိန်တွင် ပြည်ထောင်စုမြန်မာနိုင်ငံတော် ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့ဝင် ဝန်ကြီး၊ချုပ်ဟောင်းသခင်နုက မြင်းခြံမြို့စွန်းလွန်းဂူကျောင်း၊ ကမ္မဋ္ဌာနာစရိယ ဆရာတော်ဘုရားကြီးအား လျှောက်ထားသော....**

## ပုစ္ဆာ ဝိသဇ္ဇနာ

မေး....တထောင့်ငါးရာ တည်းဟူသော ကိလေသာဟာ ခန္ဓာကိုယ်ကြီးတွင် ဘယ်နေရာမှာ ကိန်းပါသတုံး ဘုရား။

ဖြေ ...သိချင်သလား သိချင်လျှင် ဓာတ်မြင်အောင်ကြည့်၊ ဓာတ်ကိန်းတယ်။

မေး....ဘယ်ပုံဓာတ် ဘယ်လိုမြင်အောင် ကြည့်ရမှာတုံး ဘုရား။

ဖြေ....မြေ့,ရေ့,လေ့,မီး ဓာတ်ကြီးလေးပါး ရှိတယ် မဟုတ်လား၊ဎင်းဓာတ်ကြီးလေးပါးကိုသင်္ခါရကပြုပြင်ပေးတော့ သိမှု့, မှတ်မှု့, ခံစားမှု့, ဖြစ်ပေါ်၍လာတယ်။ အဲဒါဓာတ်ဘဲ၊ အဲသည်ဓာတ်ကို မြင်အောင်ကြည့်၊ သိလိမ့်မယ်။

မေး....နိဗ္ဗာန်၏ အကြောင်းကို အမိန့်ရှိတော်မူပါ ဘုရား။

ဖြေ....နိဗ္ဗာန်အကြောင်း သိချင်သလား၊ သိချင်လျှင် ဘင်စွန်းမြင်အောင်ကြည့်က သိလိမ့်မယ်။

မေး····ဘယ်လို ဘင်စွန်း ဘယ်လို မြင်အောင် ကြည့်ရမှာတုံး ဘုရား။

ဖြေ····ယောဂီ ပုဂ္ဂိုလ် တယောက်သည် မိမိ ခန္ဓာကိုယ်ကို သတိနှင့်သုံးသပ်၍သမာဓိကြီးထွားလာသော် စိတ်, စေတသိက်, ရုပ်ဆိုတဲ့ တရားသုံးပါးကို ပိုင်းပိုင်းခြားခြား မြင်သောအခါ-သည့်ဒုက္ခကြီးဟာ ဘယ်သူ့ကြောင့်လဲလို့ စိစစ်လိုက်တော့ လုပ်ပေးတတ်တဲ့ လောဘတည်းဟူသော သမုဒယကိုမြင်တော့ မဂ်က အနုသယကို ပယ်သတ်လိုက်တာနှင့် ဥပါဒ်-ဌီ-ဘင် ဆိုတဲ့ အကြောင်းအကျိုး ပြတ်တာကို ဘင်စွန်းဟု ခေါ်တယ်။ အဲဒီဘင်စွန်းကို ပြောတာ။

**နိဗ္ဗာန်အကြောင်း ပြီးပြီ။**

---

မေး····မိမိခန္ဓာကိုယ်ကို ထိတော့ သိတယ်လို့ ပြောတယ် ဘုရား။ သိတယ်ဆိုတာ သူ့ချည်းဘဲ သိတာလား၊ သူတကာနှင့် ရောစပ်မှ သိတာလားဘုရား။

ဖြေ····ရောစပ်မှသိတယ်။

မေး ····ရောစပ်သူ ထည့်ပေးပါဘုရား။

ဖြေ····ဝေဒနာ-သညာ-ဝိညာဏ်-ထိုသုံးချက်စုမှ သိမှုဖြစ်တယ်။

မေး ····စုပေးတဲ့သူ ရှိသေးသလားဘုရား။

ဖြေ····ရှိတယ်။

မေး····ရှိလျှင် ထည့်ပေးပါဘုရား။

ဖြေ····ဝေဒနာ-သညာ-ဝိညာဏ် ထိုသုံးချက်ကို သင်္ခါရက မြေ-ရေ-လေ-မီး ဓာတ်ကြီး လေးပါး တံခါးမှာ စုပေးတော့ သိမှု-မှတ်မှု-ခံစားမှု ဖြစ်ပေါ်၍လာသည်ကို သိတယ်လို့ ခေါ်တယ်။

**သိဆောဝအကြောင်း ပြီးပြီ။**

---

မေး····"လူတို့ပြည်တွင်၊ သစ်လေးပင်။ သေစေလို ရေအေးလောင်း။ ရှင်စေလို ရေနွေးလောင်း" ဟူသော အမေးကို ဖြေရှင်းတော်မူပါဘုရား။

ဖြေ····"လူတို့ပြည်တွင်၊ သစ်လေးပင်" ဆိုရာ၌ လူ့ပြည်-နတ်ပြည်-ဗြဟ္မာ့ပြည်ရယ်လို့ လောက ဝေါဟာရအားဖြင့် ရှိတယ်မဟုတ်လား။
ရှိပါတယ်ဘုရား။

ဘယ်ပြည်များ ဘုရားပွင့်တယ်လို့ကြားဘူးသတုံး။

လူ့ပြည်၌ ကြားဘူးပါတယ်ဘုရား။

အဲ-ဂေါတမ သဲစုမက ပွင့်တော်မူကြတဲ့ဘုရားရှင်များမှာ သစ္စာလေးပါး နှင့်သာ ပွင့်ခြင်းကြောင့်-"လူတို့ပြည်တွင်-သစ်လေးပင်"ဟု ဆိုပါသည်။

"သေစေလို-ရေအေးလောင်း"ဆိုရာ၌ မဂ္ဂင်ရေကို ဆိုသည်။

"ရှင်စေလို-ရေနွေးလောင်း"ဆိုရာ၌ လောဘ,ဒေါသ, မောဟကို ဆိုသည်။

**မေး**····"ထင်းမရှိ - တောသုံးထောင်၊ ရေမရှိ - မြစ်လယ် ခေါင်၊နှမ,မရှိ-ခြောက်ယောက်မောင်"ကို ဖြေရှင်း တော်မူပါဘုရား။

ဖြေ····ဘုရားအစရှိသော အရိယာ သူတော်ကောင်းတို့မှာ ကာမ, ရူပ,အရူပဆိုတဲ့ တောသုံးထောင်ထဲတွင်နေ ကြပါးသော်လည်း ၎င်းပုဂ္ဂိုလ်များမှာ လောင်စာမရှိ ၍ "ထင်းမရှိ တောသုံးထောင်"ဟု ခေါ်သည်။

သတ္တဝါတို့၏အာရုံမှာ မြစ်ရေအယဉ်ကဲ့သို့ တသွင်သွင် စီးဆင်းပြား သော်လည်း ဘုရား အစရှိသော အရိယာ သူတော်ကောင်းတို့မှာ အာရုံယိုစီးခြင်း မရှိတာကို"ရေမရှိ မြစ်လယ်ခေါင်"ဟု ခေါ်သည်။

ဘုရား အစရှိသော အရိယာ သူတော်ကောင်းတို့မှာ မျက်စိ,နား,နှာခေါင်း,ပါးစပ်,ကာယ,မန, တံခါးခြောက် ပေါက်ပင် ရှိပြားသော်လည်း အာရုံလိုက်စားခြင်း မရှိတာ ကို"နှမ-မရှိ ခြောက်ယောက်မောင်"လို့ ခေါ်သည်။

မေး····"မထိုင်ခင်က ခြေဆင်း၊ မလင်းခင်က ရောင်နီလာ၊ မချက်ခင်က ထမင်း၊ မကျက်ခင်က စားပြီးပြီ၊ မရက် ခင်က ပုဆိုး၊မချုပ်ခင်က ဝတ်ပြီးပြီ" ၎င်းအမေးကို ဖြေကြားတော်မူပါဘုရား။

ဖြေ····အဲဒါ ဝိတက်လို့ခေါ်တယ်။

မေး····အကြောင်းပြ ဘုရားတဆူတဆူလျှင် သင်္ချေနှစ်ဆယ် ကုဋေရှစ်ဆယ် ဗိုလ်ခြေတသိန်း ကျွတ်တမ်းဝင်သွားတယ်လို့ ကြားဘူးပါတယ်။ ကျန်သောသတ္တဝါဟာ ရေ့သလား၊ မရေ့ဘူးလား–ဘုရား။

ဖြေ····ဒကာကြီး မေးတဲ့ အတိုင်းဘဲ ရေ့သလား–ရေ့တယ်။ မရေ့ဘူးလား–မရေ့ဘူး။

မေး····ရေ့တာဘယ်လို၊ မရေ့တာဘယ်ပုံဆိုတာ သိလိုကြောင်းပါဘုရား။

ဖြေ····"ရေ့တယ်" ဆိုတာက **ဥပမာ**–ဒကာကြီး အိမ်မှာ လူဆယ်ယောက်ရှိတယ် ဆိုပါတော့၊ ငါးယောက် ဆင်းသွားလျှင် ဆင်းသွားသော ပုဂ္ဂိုလ် သတ္တဝါ ရေ့တာပေါ့။

"မရေ့ဘူး" ဆိုကာကာစိတ်၊ စေတသိက်၊ ရုပ်၊ နိဗ္ဗာန် ဆိုတဲ့ ပရမတ္ထတရား မရေ့ဘူး။

**အဘိဓမ္မာ ပြီးပြီ။**

---

မေး····အရှင်ဘုရားတို့ ရဟန်းများမှာ မိမိကိုယ်ကိုမိမိသွေးထွက်အောင်လုပ်ရုံမျှဖြင့်ဒုက္ကဋ်အာပတ်တပ်သလား မတပ်ဘူးလားဘုရား။

ဖြေ····တပ်တယ်။

**မေး**····ဒါဖြင့်လျှင် ဘုရားလက်ထက်က ရဟန်းတပါးဟာ မိမိ၏လည်ပင်းကို ဓားနှင့်လှီးပြီး ဝေဒနာရှုတာနှင့် အရဟတ္တဖိုလ်သို့ ဆိုက်ပြီး ပရိနိဗ္ဗာန်ပြုသွားတယ်လို့ ကြားဘူးပါတယ်။ ထိုပုဂ္ဂိုလ်ဟာ ဒုက္ကဋ်အာပတ်နှင့် တကွ မဂ်ဖိုလ်သို့ ဆိုက်ပါသလား ဘုရား။

**ဖြေ**····ဆိုက်တာ မှန်တယ်၊ ဒုက္ကဋ်အာပတ်မရှိလို့ဆိုက်တာ။

**မေး**····ဒါဖြင့်ဘုရား အရှင်ဘုရားတို့မှာ သွေးထွက်ရုံမျှနှင့် ဒုက္ကဋ်အာပတ် တပ်ထား ယခုတော့ သွေးထွက်ရုံမျှ မက အသေတောင် သတ်တာဘဲ၊ ဒုက္ကဋ်အာပတ် မသင့်ပေဘူးလားဘုရား။

**ဖြေ**··· မသင့်ဘူး၊ **ဥပမာ** ဒကာကြီး ပစ္စည်း မကိုင်နှင့်လို့ မတားမြစ်ခင် ဘုန်းကြီးက ကိုင်လိုက်ပြီ၊ ဘုန်းကြီး၌ အပြစ်ရှိသလား။
မရှိပါဘုရား။

တားမြစ်ပြီးမှ ကိုင်တော့ကော။
အပြစ်ရှိပါ၏ဘုရား။

အဲသည် ဥပမာအတိုင်းဘဲ ထိုပုဂ္ဂိုလ်မှာလဲ အပြစ်မရှိ တာလဲမှန်တယ်။ မဂ်ဖိုလ်ဆိုက်တာလဲ မှန်တယ်။

ကျေနပ် ဝမ်းမြောက်ပါ၏ဘုရား။

**ဝိနည်း ပြီးပြီ။**

မေး…တခုလဲ လျှောက်ပါရစေဘုရား၊ သုတ်မဟာဝါပါဠိ
တော် မဟာပရိနိဗ္ဗာန သုတ်ထဲမှာ ဘုရား၏ခတ်
တော်ဝေခက်း တွေ့ပါတယ်။ ၎င်းသုတ်ကို ဘုရား
ဟော ပါဠိတော်လို့လဲ ပြောပါတယ်။ ခတ်တော်
များကို ဘုရား ပရိနိဗ္ဗာန် မပြုမီက ဝေခဲ့ပါသလား၊
သို့တည်းမဟုတ် မည်သူဝေခဲ့သတုံးဘုရား။

ဖြေ…"ဝေံမေသုတံ-သယ်သူဟောသတုံး"
ကျေနပ်ပါ၏ဘုရား။

**သုတ္တန်ပြီးပြီ။**

---

မေး…ရဟန်းများ၌ သိအပ်သောတရားငါးပါးကို အမိန့်
ရှိတော်မူပါဘုရား။

ဖြေ…(၁) အလိုရှိခြင်း။
(၂) ကျက်စားခြင်း။
(၃) ဆောက်တည်ခြင်း။
(၄) နှလုံးသွင်းခြင်း။
(၅) ပြီးဆုံးခြင်း။

အလိုရှိတာကဘာကိုအလိုရှိသတုံးဆိုလျှင် သုခချမ်းသာ
ကို အလိုရှိတယ်။

ပညာကို ကျက်စားတယ်။

သီလ သမာဓိ ပညာကို ဆောက်တည်တယ်။

ကြောင့်ကြမှု တောင့်တမှု ကင်းတာကိုနှလုံးသွင်းတယ်။

နိဗ္ဗာန်ကို ပြီးဆုံးတယ်။

အဲဒါ-ရဟန်းများ၌ သိအပ်သောတရား ငါးပါးဘဲ။

## သူတော်ကောင်းတရား ခုနစ်ပါး တရားတော်

ကောသလမ္ဗပြည့်ရှင် ဘုရင်မင်းမြတ်သည် ကြွေအန်ကစား ဝါသနာထုံသည့်အတိုင်း တနေ့သောအခါ ဘောဂဝတီ တိုင်းပြည်မှ ဝိမလဒေဝီအမည်ရှိ မိဖုရားကြီးသည် ကောသမ္ဗ တိုင်းပြည် ဘုရင်မင်းမြတ်ထံတွင်ရှိသော ဝိဓူရအမတ်ကြီး၏ နှလုံးသည်းပွတ်ကို စားလိုသောချင်ခြင်းတပ်သတဲ့။ အဲဒီလို ချင်ခြင်း တပ်ကြောင်း တပင်တိုင် နန်းပြာသာဒ်တွင် တ ယောက်ထည်းနေထိုင်သော သမီးတော်ဣရန္ဓတီကကြား သိလေရာ သမီးတော်က ငါ၏မယ်တော်ချင်ခြင်းတပ်ခြင်း ကို ငါဖြေမှတော်မည်၊ ငါကဲ့သို့သော သမီးရှိပါလျက် ငါ ၏မယ်တော် အသက်သေရမည်ဆိုလျှင် ရှဥ်ဂင်ရိုင်းတော့ မယ်၊ မယ်တော်မသေရအောင် ငါကြိုးဆောင်မည်ဟု ယုံ ကြည်စွာ သန္နိဋ္ဌာန်ချပြီး မယ်တော်ထံပါးသို့ သွားရောက်၍ မယ်တော်ဘုရား-ဝိဓူရအမတ်၏ နှလုံးသည်းပွတ်ကို သမီး တော်ရအောင်ကြိုးဆောင်ပါမည် စိတ်ချမ်းသာအောင် နေ ပါတော့ဟု မယ်တော်အားလျှောက်ထားပြီးထွက်ခွာသွား သတဲ့။

ဣရန္ဓတီ သမီးတော်သည် ယာဂန္ဓိုရ်၏ တောင်ထိပ်ပေါ် တက်၍ ချိုတေးသံသာယာ ... ာဖြင့် သီချင်းများကိုသီဆိုရင်း ဒန်းစီး၍နေဒါပေါ့၊ အဲဒီလို ဒန်းစီးနေစဉ် ပုဏ္ဏက ဘီလူး ကလဲ လမ်းလျှောက်ရင်း သာယာလှသောချိုတေးသံသဒ္ဒါ ရုံကလေးကိုကြားလိုက်ရသည်နှင့် တပြိုင်နက် နားဝင်ချိုပြီး

ဝိတိဖြစ်ကာ **"စိတ်နောက်ကိုယ်ပါ လိုက်မြဲသာတည်း"**ဆိုသကဲ့သို့ အသံကြားရာ အရပ်သို့ ရွှေ့ရှုသွားရာတွင် ဇရာဏာသီကို မြင်လိုက်သည်နှင့်တပြိုင်နက် တဏှာ တည်းဟူသောဘီလူးသည် ပုဏ္ဏကတွင် ပူးဝင်ဖမ်းစားလေ၏၊ အနီးသို့ ချဉ်းကပ်ပြီး အကြောင်းကို မေးမြန်းရာ ကျွန်ုပ် အလိုရှိတာကို ကြံဆောင်ပေးနိုင်ပါက သင်ပြောတဲ့အတိုင်း ကျွန်ုပ်လိုက်နာပါမည်ဟု ပြောတော့ ပုဏ္ဏကဘီလူးက ဒါဖြင့်ရင်ကောင်းပြီ သင်အလိုရှိတာကို ပြောပါ ကျွန်ုပ် ကြံဆောင်ပါမည်။ ထိုအခါ ဇရာဏာသီက ကောရဗ္ဗတိုင်း ပညာရှိ ဝိဓူရအမတ်ကြီး၏ နှလုံးသည်းပွတ်ကို အလိုရှိပါတယ်၊ အဲဒါ ရလျှင် သင်၏ အလိုကို ဖြည့်နိုင်ပါမယ်၊ မရလျှင် သင်၏အလိုကို အကျွန်ုပ် မလိုက်နိုင်ပါလို့ ပြောလိုက်တော့ ပုဏ္ဏကဘီလူးက ကောင်းပါပြီ ရအောင် ကြံဆောင်၍ ပေးပါမည်ဟု ဝန်ခံ၍ ထွက်သွားလေ၏။

ပုဏ္ဏက ဘီလူးက ငါသည် ဤအတိုင်း သွားလို့တော့ မတော်ပေဘူး ပတ္တမြားနှင့်မြင်းကိုယူ၍ အမည်ကို ကစ္စည်းလုလင်လို့ပြောင်းပြီးသွားမှဘဲဟုအကြံဖြစ်ကာ တရှိန်တည်းနှင့် နန်းတော်တံခါးဝသို့ရောက်ပါရောတဲ့၊ရောက်သည်နှင့် တပြိုင်နက် တံခါးမှူးထံ ဝင်ခွင့်တောင်းပြီး-ဘုရင့်ရွှေတော်မှောက်ရောက်ပါရောတဲ့ဘုရင်ကလည်းဘယ်လိုအကြောင်းကြောင့် ရောက်လာကြောင်းကိုမေးမြန်းရာ မှန်လှပါဘုရားအရှင်မင်းကြီးနှင့် ကြွေအန်ကစားလိုသော ဆန္ဒရှိပါသဖြင့် ရောက်ရှိလာကြောင်းပါဘုရားဟု လျှောက်ကြားသော အခါ ဘုရင်မင်းမြတ်က ငါနှင့်ကြွေအန်ကစားဘို့ရန် ဘာများပါ

သလဲလို့မေးမြန်းပြန်တော့ ပဏ္ဍမြားနှင့်မြင်းပါလာကြောင်း လျှောက်ထားရသတဲ့၊ ဒါဖြင့် ပဏ္ဍမြား နှင့် မြင်း ဘယ် လောက်အဘိုးထိုက်တန်သလဲလို့ မေးမြန်းပြန်ရာ။ ပဏ္ဍမြား သည် နှစ်ပြည်သာသာ တန်ပါသည်ဘုရား။ မြင်းကော– မြင်းတော့ စီးပြပါမည်ဘုရားဟု လျှောက်ထား၍ ကဥ္စန လုလင်သည် ပဏ္ဍမြားကိုကိုင်ပြီး မြင်းပေါ်သို့တက်ခါ စိုင်း ထိုက်သော် မီးစကြီးကို လက်နှင့် ကိုင်ဆွဲနေဘိသကဲ့သို့ ပဏ္ဍမြားချင်း မြင်းချင်း ဆက်သွားတာကို မြင်တော့မှ မင်း ကြီးက အင်း–ပဏ္ဍမြားကလဲ ပဏ္ဍမြား, မြင်းကလဲ မြင်းသဲ ပဲ–ဆိုကာ ရှေးအခါကဂါမမြင်စဘူး ယခုမှငါနှင့်ထိုက် တန်လို့ရောက်လာတယ်၊ဒီအခါလဲ ငါနိုင်မှာဘဲဟုသဘော ကျသော အမူအရာနှင့် ကိုင်း–ထစားကြစို့ဟု ဆိုကာ အန် စာတုံးကို ပြင်ကြသတဲ့၊ အဲ–အန်စာတုံးကိုပြင်ပြီး၍ ကစား မည်အပြုတွင် ကဥ္စနလုလင်က ပြောသည်မှာ အရှင်မင်း ကြီး–အကျွန်ုပ်ကရှုံးခဲ့သော် ပဏ္ဍမြားနှင့် မြင်းကို ပေးမည်၊ အရှင်မင်းကြီးကရှုံးခဲ့သော်ဘာပေးမှာတုံး၊ အို–ငါ့အသက် နှင့် မိဖုရားကိုချန်လှပ်၍ ငါ့ပိုင်ပစ္စည်း အကုန်ပေးမယ်ဟု ဝန်ခံပြီးနောက် ကစားကြရာ ပထမအကြိမ်မှာ ပဏ္ဍမြားနှင့် ကစားတယ်၊ ထီးချက်စောင့် နတ်သမီး၏ မ–စမှုကြောင့် မင်းကြီးကနိုင်သွားတယ်၊နိုင်တော့ ပဏ္ဍမြားကိုရတာပေါ့။ ဒါနဲ့ ကဥ္စနလုလင်က နတ်သမီး ဖြစ်သည်အားလျော်စွာ သယ်–ငါ၏ရန်သူ မည်သူရှိပါသနည်းဟု ဆိုကာ အရှေ့, အနောက်, တောင်, မြောက်, အောက်, အထက်သို့ ကြည့် တော့ ထိုနတ်သမီးကို မြင်ပါရောတဲ့၊မြင်တာနှင့်တပြိုင်တည်း

ငါကဲ့သို့သောပုဏ္ဏားကကို သင်ဘာမှတ်လို့တားမြစ်ရတာတုံး ဝေးရာသို့ ပြေးရှေ့လာဟယ်ဆိုပြီး မျက်စောင်းနှင့် ခဲလိုက်တာ ဝေးရာသို့ပြေးရပါရောတဲ့၊ တဖန် ထပ်မံကစားပြန်ရာ ကဋ္ဌနလုလင် နိုင်သွားရောတဲ့၊ ဒီတော့မှ ကဋ္ဌနလုလင်က မင်းကြီးနှင့်အကျွန်ုပ် ကစားကြရာတွင် အကျွန်ုပ်က တခါသာရှုံးတယ်၊ မင်းကြီးက နှစ်ခါရှုံးတယ်၊ ကိုင်း-ကျွန်ုပ်လိုရာ ပေးလော့ဟု ဆိုလေ၏။ ထိုအခါမင်းကြီးက ငါပိုင်ပစ္စည်း ရွှေတိုက် ငွေတိုက် ကျောက်သံပတ္တမြား တိုင်းပြည်နှင့်တကွ ငါပိုင်ပစ္စည်းကို ယူလော့ဟုပြောရာတွင် ကဋ္ဌနလုလင်က ငြင်းပယ်သတဲ့၊ ဒါဖြင့် သင်ဘာကိုများ အလိုရှိပါသလဲလို့ ဘုရင်မင်းမြတ်က မေးပြန်တော့၊ ကဋ္ဌနလုလင်က အရှင်မင်းကြီးထံမှ ပညာရှိ ဝိဓူရအမတ်ကြီးကို လိုချင်တယ်လို့ ပြောတော့ မင်းကြီးက ဝိဓူရအမတ်ကြီးကို ငါမပိုင်ဘူး။ ပုဏ္ဏားကဘီလူးက သင်မင်းကြီး ပိုင်တယ်။ မင်းကြီးကလဲ ငါမပိုင်ဘူး။ ဒါဖြင့် ပရိသတ်အလယ်မှာ ဝိဓူရအမတ်ကြီးကို မေးပါရစေ၊ အကယ်၍ ဝိဓူရအမတ်ကြီးကပိုင်တယ်ဆိုလျှင် ပေးမလားလို့မေးပြန်သတဲ့၊ ပေးမည်ဟု မင်းကြီးက ကတိပြုရသတဲ့၊ ကိုင်း-ဒါဖြင့် ကောင်းပြီ ဝိဓူရအမတ်ကြီးနှင့်တကွ ပရိသတ် ဗိုလ်ပုံအလယ်တွင် မေးမြန်းကြသတဲ့၊ ဒီတော့ မင်းကြီးက ဝိဓူရအမတ်ကြီးအား ပရိယာယ် အမျိုးမျိုးဖြင့် မပိုင်ဘူးလို့ပြောဆိုရန် မှာကြားနေစဉ် ကဋ္ဌန လုလင်က မင်းကြီးထံ ဝိဓူရအမတ်ကြီးနှင့်စကားပြောရန် ခွင့်တောင်းသတဲ့၊ ခွင့်ရတာနှင့် ကဋ္ဌနလုလင်က အသင်ဝိဓူရ-ဘာသုများ ဟောင်းသတုံး၊ ငါဘုရား ဆုတောင်းတယ်၊ ဒါဖြင့်

အသင်သည့် သူတော်ကောင်းကြီးဘဲ၊ သူတော်ကောင်းဆို တာ လိမ်ပြောမှာ မဟုတ်ဘူး၊ မှန်တာပြောမှာပေါ့၊အေး- ငါလိမ်မပြောဘူး၊ ဟုတ်တာ မှန်တာပြောမည်။ ကောင်းပြီ ဒါဖြင့် သင့်ကို မည်သူပိုင်သနည်းလို့ မေးတယ်၊ သည်တော့ ဝိဓူရက ငါဟာ-ကျွန်ဆယ်ပါးတွင် ကပါးအပါအဝင် ဖြစ် သောကြောင့် မင်းကြီးက ပိုင်တယ်လို့ပြောသတဲ့။ ထိုအခါ ကဥ္စနလုလင်က ကိုင်း-ပရိသတ်တို့ ကြားကြတယ် မဟုတ် လား၊ မင်းကြီးပိုင်တယ်လို့ပြောပါတယ်၊ ကဲ-မင်းကြီး ပေးပေ တော့ဟု ဆိုလေ၏။

မင်းကြီးက ခုနစ်နှစ်လောက်ဆိုင်းပါအုံး၊မဆိုင်းနိုင်ဘူး၊ အရေးကြီးတယ်။ ခုနစ်နှစ် မဆိုင်းနိုင်လျှင် ခုနစ်လလောက် ဆိုင်းပါ၊ မဆိုင်းနိုင်ဘူး။ ဒါဖြင့် ခုနစ်ရက်လောက်ဆိုင်းပါ၊ အင်း····ခုနစ်ရက်တော့ ဖြစ်နှစ် ဆိုင်းရတာပေါ့လေ - ဟု ကဥ္စနလုလင်က ဝန်ခံလိုက်သတဲ့။ အဲသည်လို ဝန်ခံစကား ရမှ မင်းကြီးကဝိဓူရအမတ်ကြီးကိုခေါ်ပြီးလျှင် အသင်ဝိဓူရ အမိန့်တော်ကို နာခံလော့၊ ယနေ့မှစ၍ ခုနစ်ရက်မြောက် သကာလ ကဥ္စနလုလင်နောက်သို့ လိုက်ရမည်ဟု အမိန့် တော်ပြန်ပြီး မျက်နှာတော်လွှဲသွားလေ၏။ မင်းကြီး၏အမိန့် တော်ကို ကြားရတော့ ဝိဓူရအမတ်ကြီးက ညည်းညူသတဲ့၊ ဩော် ပညာနည်းလိုက်လေကောရဇ္ဇမင်းရယ်··· အခြား သော တိုင်းပြည်များက ကြားလို့မှ မတော်ပါ ကလား၊ ငါကဲ့သို့သော ပညာရှိတယောက် ရန်သူနောက်ထည့်လိုက် တယ်လို့ အများက ကဲ့ရဲ့မှာ စိုးပါဘိနော်၊ လူမှန်းလဲမသိ၊

ဘိလူးမှန်လဲမသိ၊ဖနောင့်လဲတိုတယ်၊ မျက်တောင်လဲမခတ်ဘူး၊ အရိပ်လဲမထွက်ဘူး၊ သည်အင်္ဂါကို သူမသိဘူး၊ ပညာနည်းလိုက်တာ၊ ငါရန်သူ့နောက် လိုက်ရတာ ကိစ္စမရှိပါဘူး၊ လူအများ ဝိုင်းကဲ့ရဲ့မှာစိုးပါဘိနော်လို့ ညည်းညူရင်း အသင် ကာဠနလုလင် အိမ်သွားကြစို့ရဲ့ဟု ခေါ်ကာ နေအိမ်သို့သွားကြသတဲ့၊ အိမ်ရောက်တော့ သားသမီးဆွေမျိုးတွေကိုစုရုံးစေပြီး**"ထိမှု-သိမှု၊ ထိုနှစ်ခု၊သတိကြပ်ကြပ်ပြု"**ဆိုတဲ့ တရားတော်ကြီးကို အမိကထားပြီး ရှင်းလင်းပြတ်သားစွာ ဟောကြား ဆုံးမတော်မူသတဲ့။

ဘယ်လိုများ ဟောကြားဆုံးမသလဲလို့ မေးတယ်ဆိုပါတော့၊ သွားရင်လဲ သတိနှင့်သွား၊ စားရင်လဲ သတိနှင့်စား၊ ထိုင်ရင်လဲ သတိနှင့်ထိုင်၊ အိပ်ရင်လဲ သတိနှင့် အိပ်ကြပါလို့ ဟောသတဲ့။ သွားသတိ ဆိုတာ-ခြေဘဝါးနှင့် မြေကိုထိလိမ့်မယ်၊ ထိတော့ သိလိမ့်မယ်၊ အဲသည် သိတဲ့အပေါ်မှာ သတိထားဘို့ပါဘဲ၊ စားသတိနှင့်စားဆိုတာ-ကိုင်တဲ့အခါမှာ ထမင်းနဲ့ လက်နဲ့ထိတော့ သိလိမ့်မယ်၊ အဲသည် သိတဲ့အပေါ်မှာ သတိထားဘို့ပါဘဲ၊ ယူတာ သတိနဲ့ယူ၊ ခွံ့တာ သတိနဲ့ခွံ့၊ ဝါးတာ သတိနဲ့ဝါး၊ မျိုတာ သတိနဲ့မျိုဘို့ပါဘဲ၊ ထိုင်တာ သတိနဲ့ထိုင်ဆိုတာ ကြမ်းပြင်နဲ့ တင်သားထိတော့ သိလိမ့်မယ်၊ အဲသည် ထိတဲ့အပေါ်မှာ သတိထားပါ၊ အိပ် သတိနဲ့အိပ် ဆိုတာကလဲ အိပ်ရာ ဝင်ခါနီးတော့ ဘုရားကိုကန်တော့ သီလယူ၊မေတ္တာပို့၊အမျှဝေ၊ ခန္ဓာကိုယ်ဘုရားလှူ၊ ငါတို့ အမတ်ကြီး ရန်သူ့နောက် ပါသွားတာ

လွှတ်ပါစေလို့ ဆုတောင်းကြ၊ ပြီးတော့ နှာသီး၀ ကာယ တံခါးကို ထွက်လေ ဝင်လေ တိုးထိ၍ သွားတဲ့ အခါမှာ သိလိမ့်မယ်၊ အဲသည် သိတဲ့အပေါ်မှာ သတိထားပြီး အိပ် ကြပါ အစရှိသည်တို့ ဟောပြောနေခိုက် ကဋ္ဌနလုလင်ရဲ့ ဘဝင်ထဲမှာလဲ အဝိဇ္ဇာနဲ့ ဝိဇ္ဇာ စစ်တိုက်နေသတဲ့။

ဘယ်လိုများ တိုက်သလဲဆိုတော့ အင်း....ဝိဓူရ အမတ် ကြီးဟာ သူတော်ကောင်းကြီးပါကလား၊ ငါ-သူ့ကိုသတ်ပြီး ယူသွားပါရင် အပြစ် ကြီးတော့မှာဘဲ၊ မယူဘဲ သွားရင်လဲ ဧရာဏသီကို ငါ ရတော့မှာ မဟုတ်ဘူး၊ ယူသွားမှာဘဲ၊ သို့သော်လဲ ငါကိုယ်တိုင်တော့ မသတ်ဘူး၊ မြင်းကိုအသတ် ခိုင်းမှ တော်တော့မယ်ဟု အကြံဖြစ်ယင်း တဏှာ၏ဒဏ်ကို မခံနိုင်တာနဲ့ ဝိဓူရအမတ်ကြီးကို ပလ္လင်ပေါ်က ဆွဲချ မြေကြီး နဲ့ချည်၊ လက်ကြိုးနဲ့ချည်၊ ဆောင့်ဆွဲနဲ့ အမျိုးမျိုး နှိပ်စက် ခါ မြင်းမီးမှာ ချည်ပြီ၊ အသင် ဝိဓူရ-အသင့်ကို ဟောဒီ မြင်းမီးမှာချည်ပြီး စိုင်းတော့မယ်၊ ကောင်းကောင်း နှလုံး သွင်း၍လိုက်ပေတော့-ဟုဆိုခါတယူဇနာမြင့်သောတောင် ထိပ်သို့တက်ခါ တရှိန်တည်း စိုင်းနှင်ပါရော။

ထိုအခါ တောစောင့်နတ်, တောင်စောင့်နတ်, ရုက္ခစိုး စသော နတ်တို့က စောင်မကြသဖြင့် ဝိဓူရ အမတ်ကြီးမှာ ခေါင်းခဲခြင်းမျှ မဖြစ်ဘူးတဲ့။ တော်တော်စိုင်းမိတော့ လူက လဲမောမြင်းကလဲမောတာနဲ့ မြင်းဇက်ကြိုးသတ်ခါနောက် လှည့်ကြည့်ပြီး အသင်ဝိဓူရ-အသင် မသေသေးဘူးလားလို့

မေးသတဲ့၊ ဒီတော့ ဝိဓူရ အမတ်ကြီးက ငါ မသေဘူးလို့ ပြောတယ်၊ အသင့်မှာမသေနိုင်သော အင်း၊အိုင်၊ခါးလှည့်၊ လက်ဖွဲ့များ ရှိသလား၊ မရှိဘူး။ ဝိဇ္ဇာမိုရ် အတတ်ကော တတ်သလား၊ မတတ်ဘူး။ ဒါဖြင့် သင့်မှာ ဘာရှိသတုံး၊ ငါ့မှာ သူတော်ကောင်းတရား ခုနစ်ပါးတော့ရှိတယ်၊ ဒါနဲ့ တခါစိုင်းပြန်တယ်၊စိုင်းသော်လဲမသေ၊ တခါစိုင်းလဲမသေ၊ နှစ်ခါစိုင်းလဲမသေ၊ သုံးခါစိုင်းလဲမသေတာနဲ့ အင်း-ဝိဓူရ အမတ်ကြီးဟာ မသေနိုင်သောအင်း၊အိုင်၊ခါးလှည့်၊လက်ဖွဲ့ လဲမရှိဘူးပြောတယ်၊ဝိဇ္ဇာမိုရ်အတတ်လဲ မတတ်ဘူးလို့ပြော တယ်၊ ပြီးတော့ သူတော်ကောင်းတရား ခုနစ်ပါးတော့ရှိ တယ်-လို့ပြောတယ်၊ သည်လိုနဲ့တော့ မသေဘူး၊ ငါသူ့ကို ခြောက်လှန့်သတ်မှဘဲဟုအကြံဖြစ်ခါ မြင်းဇတ်ကွိုးကိုသတ်၊ အောက်သို့ဆင်း၊ ဝိဓူရ အမတ်ကြီးကို မြင်းမီးမှ ဖြုတ်ကာ အသင်ဝိဓူရ-အသင့်ကို ဧဟာဒီချောက်ထဲ ထိုးချမည်ဆိုပြီး အသူတရာနက်သော ချောက်ကြီးထဲသို့ ထိုးချမည်ပြုလေ၏။ သည်တော့ ဝိဓူရက အသင် ကဠုန လုလင်၊ သင်-ငါ့ကို မခြောက်နဲ့ ငါမကြောက်ဘူးလို့ ပြောလေ၏။ ဟာ-သူ့ကို အဟုတ် မလုပ်မှန်းသိ-ထင်ပါရဲ့ ဆိုပြီး ဘီလူးကြီးယောင် ဆောင်တင်းပုတ်ကြီးကိုကိုင်ပြီး ဝိဓူရအမတ်ကြီး၏ဦးခေါင်း ကို ထုမည် ပြုလေ၏။ ဒီတော့လဲ ဝိဓူရက အသင်ကဠုန လုလင်-သင်ငါ့ကိုမခြောတ်နဲ့ ငါမကြောက်ဘူးလို့ပြောပြန် တယ်။ အင်း····ငါမှန်းသူသိထင်ပါရဲ့ဆိုပြီးတခါ နဂါးကြီး ယောင်ဆောင်ပြီး ကိုယ်ကိုခုနစ်ပတ် ရစ်ပတ် ဦးခေါင်းကို ပေါက်သတ်မည်ပြုပြန်တယ်၊ ဒီတော့လဲ ဝိဓူရက အသင်

ကဋ္ဌနလုလင်-ငါ့ကိုမခြောက်နဲ့ ငါမကြောက်ဘူးလို့ ပြော ပြန်တယ်၊ ဟင်-ငါမှန်း သူသိသွားပြန်ပြီ ထင်ပါရဲ့ ဆိုပြီး တဖန် ဆင်ကြီးယောင်ဆောင် နှာမောင်းနဲ့ မွှေပြီး ခွါ အောက်သို့ ပစ်လိုက်သတဲ့၊ ဒီတော့လဲ ဝိဓူရအမတ်ကြီးက အသင် ကဋ္ဌနလုလင်-သင်ငါ့ကို မခြောက်နဲ့ ငါမကြောက် ဘူး၊ အသင်ဟာ ကဋ္ဌနလုလင်ဆိုသော်လဲ အသင်လူမဟုတ် ဘူး၊ တန်းခိုးဇာဒ္ဓိပါဒ်နဲ့ အမျိုးမျိုး ဖန်ဆင်းနိုင်တဲ့ ပုဏ္ဏ ဘီလူးမှန်းငါသိတယ်၊ ယော-သူငါ့အကြောင်း အကုန်သိ ပေါ့ဘဲ၊ ဒါဖြင့်ရင် နေစမ်းပါအုံး အသင်ဝိဓူရ—အသင့်မှာ မသေနိုင်သော အင်း,အိုင်,ခါးလှည့်,လက်ဖွဲ့လဲမရှိဘူးပြော တယ်၊ ဝိဇ္ဇာမိုရ်အတတ်လဲ မတတ်ဘူးပြောတယ်၊ သို့သော် သင့်မှာ သူတော်ကောင်းတရား ခုနစ်ပါးတော့ ရှိတယ်လို့ သင်ပြောတယ်၊ အဲသည် သူတော်ကောင်း တရား ခုနစ်ပါး ကို ပြောပြပါလို့ တောင်းပန်သတဲ့၊ အဲသည်တော့ ဝိဓူရ အမတ်ကြီးကအသင်-ကဋ္ဌနလုလင်-သင့်မှာသီလလဲမရှိဘူး၊ သမာဓိလဲ မရှိဘူး၊ ပညာလဲ မရှိဘူး၊ သင့်မှာ ဇူရာဏာသီ မင်းသမီးကို လိုချင်သောအဝိဇ္ဇာကြီးက ဖုံးနေတော့ သီလ, သမာဓိ,ပညာတည်းဟူသော တရားတော်ကြီး ကွယ်နေဒါ ပေါ့၊ အဲဒါကြောင့် "အဝိဇ္ဇာကြီးက ကွယ်လေလေ ဇူရာ ဏာသီတည်းဟူသော ရူပါရုံကလေးကို နှစ်သက်လေသော၊ ကာမောဃထဲ ပလုပ်ပလုပ်နဲ့ ကျလေလေ"ဆိုသလို ဖြစ်နေ တော့ သင့်ကို ငါသူတော်ကောင်းတရား ခုနစ်ပါး မဟော နိုင်ဘူး၊ သို့သော် မည်သူမဆို ငါ့ကို ရိုရိုသေသေနဲ့ အမြင့် ပေါ်မှာထားပြီး နိမ့်ရာကနေ၍ ပဆစ်ဒူးတုပ်ခါ တောင်း

ပန်လျှင် ငါဟောပါတယ်၊ သင့်ကိုတော့ငါ-မဟောနိုင်ဘူး လို့ပြောသတဲ့၊ သည်တော့မှ ကဥ္စနလုလင်က ကောင်းပါပြီ ဒါဖြင့်လျှင် ဟောဒီ တောင်ကုန်းကလေးပေါ် ကတ်ပါတဲ့ ဆို၍ မိမိမှာပါလာတဲ့ ပုဆိုးကိုခင်းပေးပြီး နိမ့်ရာကနေ၍ ပုဆစ်ဒူးတုပ်ခါ တရားတောင်းသတဲ့၊ သည်တော့မှ ဝိဓူရ အမတ်ကြီးက သူတော်ကောင်းတရား ခုနစ်ပါး ဆိုတာ- "သဒ္ဓါ, သီလ, သုတ, စာဂ, ပညာ, ဟိရီ, ဩတ္တပ္ပ" ပါဘဲလို့ ဟောသတဲ့၊ ဒီတော့ ကဥ္စနလုလ မှာ ထိုတရားကို နား မလည်နိုင်သဖြင့် အသင်ဝိဓူရ-သူတော်ကောင်းတရား ခုနစ် ပါးလုံးကို ထားဘိဦး သဒ္ဓါတလုံးကို ကွဲကွဲပြားပြား ရှင်း ရှင်း လင်းလင်းရှိအောင် ပြောပြပါလို့ တောင်းပန်သတဲ့၊ ဒီတော့ဝိဓူရအမတ်ကြီးက **သဒ္ဓါ**ဆိုတာအသင်ငါ့ကိုမြင်းမီး ချည်စိုင်းစဉ်အခါက အသင်ကလဲမောမြင်းကလဲမောတော့ မြင်းဇက်ကြိုးကိုသတ်ပြီး အသင်ဝိဓူရ အသင်မသေသေးဘူး လားလို့မေးတယ် မဟုတ်လား၊မေးတယ်။ဒီတော့ငါကဘာ များပြောသတုံး၊ ငါ-မသေဘူးလို့ပြောတယ်၊ အေး-ငါက ကံ,ကံ၏အကျိုးကို ယုံကြည်တယ်၊ သင်သတ်သော်လဲ ငါ သေနေ့မစေ့က မသေဘူး။ သင်မသတ်ပေမဲ့ တနေ့နေ့ကျ တော့ ငါ-သေရမှာဘဲ၊အဲဒါကြောင့်ပညာမရှိသောပုဂ္ဂိုလ် ဟာ အိုခြင်း,နာခြင်း,သေခြင်းတရားကို မသိဘူးတဲ့၊ ထိုအို ခြင်း, နာခြင်း,သေခြင်းတရားကို မသိခြင်းကြောင့် ခိုက်ရန် ဖြစ်ပွားခြင်းကိုလဲ ငြိမ်းအောင်မလုပ်နိုင်ကြဘူး၊ ထိုခိုက်ရန် ဖြစ်ပွားခြင်းကို ငြိမ်းအောင် မလုပ်နိုင်ခြင်းကြောင့် ခိုက်ရန် ဖြစ်ပွားခြင်းကိုလဲ ပြုတယ်၊ နောင်ကိုလဲ ခိုက်ရန်ဖြစ်ပွားအုံး

မှာဘဲတဲ့။ ပညာရှိသော ပုဂ္ဂိုလ်ဟာ အိုခြင်း-နာခြင်း-သေ ခြင်းတရားကိုသိတယ်၊ အိုခြင်း-နာခြင်း-သေခြင်းတရားကို သိခြင်းကြောင့်ခိုက်ရန်ဖြစ်ပွားခြင်းကိုလဲငြိမ်းအောင်ပြုလုပ် နိုင်တယ်၊ ခိုက်ရန်ဖြစ်ပွားခြင်းကိုလဲ မပြုဘူး၊ နောင်ကိုလဲ ခိုက်ရန်ဖြစ်ပွားရမှာမဟုတ်ဘူး၊အိုရလိမ့်အုံးမယ်၊ နာရလိမ့် အုံးမယ်၊ သေရလိမ့်အုံးမယ်၊ အိုခြင်း, နာခြင်း, သေခြင်း တရားကိုငါယုံကြည်တယ်၊ အဲဒါဟာ ဘဒ္ဒါဘဲ။ **သီလ**-ပြော ပါအုံး၊ သီလဆိုတာက အသင်ငါ့ကို မြင်းမီးမှာ ချည်ပြီး စိုင်းမည်လုပ်စဉ်အခါက ခြေကြိုးနဲ့ချည်၊ လက်ကြိုးနဲ့ချည်၊ ဆောင့်ဆွဲ အမျိုးမျိုးလုပ်တယ် မဟုတ်လား၊ လုပ်တယ်။ အဲသည်အခါတုန်းက ငါ၏ ဝစီဘေဒ-က ဘာများပြော သေးသလဲ၊ မပြောဘူး ဆိတ်ဆိတ်နေတယ်၊ ဝစီဘေဒက မပြောရှိပါစေအုံး လက်နဲ့များဘွန်းဖယ်မိသေးသလား၊ငါ ၏ခန္ဓာကိုယ်ကြီးကကောရုန်းထွက်ပြေးသေးသလားလက်နဲ့ လဲမတွန်းဖယ်ပါဘူး၊ ခန္ဓာကိုယ်ကြီးကလဲ ရုန်းဖယ်၍ ထွက် မပြေးပါဘူး၊အဲဒီတုန်းက ငါသည် ကာယကံမှုကိုလဲ မကြူး လွန်ဘူး၊ ဝစီကံမှုကိုလဲ မကြူးလွန်ဘူး၊ မနောကံ မှုကိုလဲ မကြူးလွန်ဘူး၊ အဲဒါဟာ သီလဘဲ သီလဘဲ။ **သုတ**-ပြော ပါအုံး၊ သုတဆိုတာက အသင် ငါ့ကိုမြင်းမီးချည်စိုင်းစဉ်က အသင်၏ မြင်းခွါသံကို အသင်မကြားဘူးလား၊ကြားတယ်။ အသင်သာကြားတယ် ငါ့မှာရုံခါရုံခါသာကြားတယ်။ ငါ တော့ကြားပါရဲ့ အိုရလိမ့်အုံးမယ်၊ နာရလိမ့်အုံးမယ်၊ သေရ လိမ့်အုံးမယ်။ အဲဒီတရားတွေသာ ကြားရတယ်။ အဲဒါဟာ သုတကွဲ့သုတဘဲ။ **စာဂ**-ပြောပါအုံး၊ စာဂဆိုတာကတော့

ငါသည် သိလောက်သောအရွယ်မှစ၍ ငါ၏ ခန္ဓာကိုယ်ကို မည်သူဆိုဆို, မည်သူဆဲဆဲ, မည်သူသတ်သတ် ဆိုပြီး ငါ၏ ကိုယ်ကို စွန့်ထားတယ်။ အဲသည်ဟာ စာဂဘဲ-စာဂဘဲ။ **ပညာ**-ပြောပါအုံး၊ ပညာဆိုတာ အသင်ငါ့ကိုမြင်းမီးချည် စိုင်းပြီးတဲ့နောက် ငါ့ကိုမြင်းမီးမှဖြုတ်၍ အသူတရာ နက်တဲ့ ချောက်ထဲ ထိုးချမည် ရှယ်တယ်မဟုတ်လား၊ ရှယ်တယ်။ ဒီတော့ ငါဘာပြောသတုံး၊ အသင် ကဣန လုလင်-ငါ့ မချောက်နဲ့ ငါမကြောက်ဘူးလို့ပြောတယ်၊အဲဒါ ပညာဘဲ ပညာဘဲ။ နောက်တဖန် ဘီလူးကြီးယောင် ဆောင်ပြီး ဦးခေါင်းကို တင်းပုတ်ကြီးနဲ့ ထုမယ်လို့ ရှယ်တယ် မဟုတ်လား၊ ရှယ်တယ်။ သည်တော့-ငါဘာပြောသတုံး၊ အသင် ကဣနလုလင်-ငါ့မချောက်နဲ့ ငါမကြောက်ဘူးလို့ပြန်ပြော တယ်၊ အဲဒါ ပညာဘဲကွဲ့ ။ နောက်တဖန် နဂါးကြီးယောင် ဆောင် ကိုယ်ကို ခုနစ်ပတ်ပတ်ပြီး ဦးခေါင်းကို ပေါက် သတ်မယ် ရှယ်တယ်မဟုတ်လား၊ ရှယ်တယ်။ ဒီတော့ငါက ဘာပြောသ တုံး၊ အသင်ကဣနလုလင်-ငါ့မချောက်နဲ့ ငါ မကြောက်ဘူးလို့ပြောပြန်တယ်၊ အဲသည်ဟာ ပညာဘဲကွဲ့။ နောက်တဖန် ဆင်ကြီးယောင်ဆောင် နှာမောင်းနဲ့မွှေပြီး ခွာအောက်သို့ပစ်လိုက်ကာ နင်းမယ်ရှယ်တယ်မဟုတ်လား၊ ရှယ်တယ်။ သည်တော့ ငါက ဘာများပြောသတုံး၊ အသင် ကဣနလုလင်-ငါ့မချောက်နဲ့ ငါမကြောက်ဘူး၊အသင်ဟာ ကဣနလုလင်ဆိုပေမဲ့ အထူးထူးအပြားပြားတန်းခိုးဖန်ဆင်း ဟတ်တဲ့ ပုဏ္ဏကဘီလူးမှန်း ငါသိတယ်လို့ပြောတယ်၊ သိပါ့ ဒသာ်ကော၊ ဤတောအုပ်ကြီးထဲမှာ အသင်နှင့်ငါ နှစ်

ယောက်ထဲရှိတယ်၊ အသင်ဟာ စိတ်ပြောင်းတိုင်း ရုပ်က ပြုပ်ပြုပ်လာတာကိုး၊ ငါ-သိတာပေါ့ကွဲ၊ အဲသည်ဟာလဲ ပညာဘဲကွဲ။ **ဟိရီ**-ပြောပါအုံး၊ဟိရီဆိုတာကတော့ အသင် ငါ့ကို တရားဟောပလ္လင်ပေါ်ကဆွဲချပြီး မြင်းမီးမှာချည်ပြီး စိုင်းမည်ပြုစဉ်က ခြေကြိုးနဲ့ချည် လက်ကြိုးနဲ့ချည် ဆောင့်ဆွဲ အမျိုးမျိုး နှိပ်စက်တယ်မဟုတ်လား၊ဟုတ်တယ်။ အဲဒီအခါ တုန်းက ပရိသတ်အလယ်ခေါင်မှာ ဒီလိုလုပ်တာ ရှက်စရာ ကောင်းလိုက်တာလို့များ ငါကပြောမိသလား၊မပြောမိပါ ဆိတ်ဆိတ်သာနေတာဘဲ။ အသင်သာ မရှက်လို့လုပ်တာ၊ အသင့်မှာ သီလလဲမရှိဘူး၊ သမာဓိလဲမရှိဘူး၊ ပညာလဲမရှိ ဘူး၊ သီလ,သမာဓိ,ပညာမရှိလို့-ပရိသတ်အလယ်ခေါင်မှာ အကုသိုလ်အမှုတွေကို ပြုလုပ်ဝံ့တာပေါ့၊ ငါတို့တော့ ဒီလို အကုသိုလ်အမှုတွေကို မပြုလုပ်ဝံ့ပါဘူး ရှက်ပါရဲ့ကွဲ၊ ရှက် ပါရဲ့၊ အဲသည်ဟာ ဟိရီပါဘဲကွဲ-ဟိရီပါဘဲ။ **ဩတ္တပ္ပ**-ပြော ပါအုံး၊ ဩတ္တပ္ပဆိုတာကတော့ အသင် ငါ့ကို မြင်းမီးမှာ ချည်စိုင်းပြီး နောက် အသူတရာနက်တဲ့ ချောက်ကြီးထဲကို ထိုးချမည် ရွယ်တယ်မဟုတ်လား၊ ရွယ်တယ်။ သည်တော့ ငါကဘာများပြောသတုံး၊အသင်ကဒွနလုလင်ငါ့မချောက် နဲ့ ငါ-မကြောက်ဘူးလို့ပြောတယ်။ အဲ-ကြောက်ခြင်းသတ္တိ ဟာ တဏှာ၏သတ္တိဘဲ၊ အသင်ဟာ တဏှာ၏ကျွန်၊ တဏှာ ၏သားပေါက်၊ အသင်ဟာ တဏှာကခိုင်းတိုင်း လုပ်တယ်။ အသင့်မှာ တဏှာ,မာနတည်းဟူသော ဘီလူးကြီးကပူးဝင် ဖမ်းစားပြီး တဏှာက ခြေကို ကြိုးနဲ့ချည်ဆို ချည်တာဘဲ။ လက်ကို ကြိုးနဲ့ ချည်ဆို လက်ကို ကြိုးနဲ့ ချည်လိုက်တာဘဲ။

ဆောင့်ဆွဲဆို ဆောင့်ဆွဲတာဘဲ။ ။အဲသည်လို လုပ်တာဟာ ဇရာဏာသီကိုလိုချင်လို့၊ ဇရာဏာသီကိုစုံမက်လို့၊ ဇရာဏာသီကို နှစ်သက်လို့ ဇရာဏာသီကို တွယ်တာလို့၊ ဇရာဏာသီကို ကပ်ငြိလို့၊ လုပ်တာ။ အဲသည်လို လုပ်တာဟာ တဏှာ၏ သတ္တိတွေဘဲ၊ တဏှာကို ဝေဒနာက ကျေးဇူးပြုတယ်။ ဝေဒနာကို ဖဿကကျေးဇူးပြုတယ်။

အဲဒါကြောင့် ဖဿပစ္စယာ ဝေဒနာ၊ ဝေဒနာ ပစ္စယာ တဏှာ၊ တဏှာကျမှဖြင့် ဘဝဘေထိ ရောက်ပါရောတဲ့။ ဘဝရောက်မှဖြင့် ဇာတိကိုရပါရော။ အဲသည် ဇာတိဖြစ်တိုင်း, ရတိုင်းကြောက်စရာကောင်းတယ်ကွဲ၊အသင်သာမကြောက်လို့လုပ်တာ တို့တော့ ကြောက်ပါရဲ့, ကြောက်ပါရဲ့၊ အဲသည်ဟာ ဩတ္တပ္ပပါဘဲ။

အဲသည်တော့ ပုဏ္ဏက–က အသင်ဝိဓူရ အကျွန်ုပ်မှားပါပြီ၊ ကာယကံမှု အပြစ်ကြီးအပြစ်ငယ်၊ ဝစီကံမှု အပြစ်ကြီးအပြစ်ငယ်၊ မနောကံမှု အပြစ်ကြီးအပြစ်ငယ် ထိုအပြစ်များကိုသည်းခံတော်မူပါ၊အသင်ဝိဓူရအမတ်ကြီးကိုလဲကောရဗ္ဗတိုင်းနိုင်ငံသို့ ပြန်ပို့ပါရစေ ဟောဒီမြင်းပေါ်သို့ တက်ပါလို့ ပြောတော့မှ ဝိဓူရအမတ်ကြီးက မဟုတ်ပါဘူးကွယ်– နေစမ်းပါအုံး အသင်ငါ့ကို ခေါ်လာတဲ့ အကြောင်းကို ပြောစမ်းပါအုံး၊ ဒီတော့ ပုဏ္ဏက–က အမြားမဟုတ်ပါဘူး အသင် အမတ်ကြီးကို ခေါ်လာတာဟာ တောဂဝတီတိုင်းပြည် နဂါးမင်းကြီး၏မိဖုရား ဝိမလာဒေဝီက အသင်ဝိဓူရအမတ်ကြီး၏ နှလုံးသည်းပွတ်ကို စားချင်တယ်လို့ ချင်ခြင်းဖြစ်တာနဲ့ သူ့သမီး ဇရာဏာသီက အသင်အမတ်ကြီး၏

နှလုံးသည်းပွတ်ကို ရပါလျှင် သူကချစ်ခင်စုံမက်နှစ်သက်ပါ မည် ပြောတာနဲ့ အသင်အမတ်ကြီးကိုသေကြောင်းကြံမိပါ တယ်၊ သို့သော် ဣရာဏာသီကို မရလျှင် နေပါစေတော့ အသင်ဝိဓူရ အမတ်ကြီးကိုသာ ကောရဗ္ဗတိုင်းပြည်သို့ပြန်၍ ပို့ပါရစေ မြင်းပေါ်ကိုသာ တက်ပါလို့ ပြောတော့မှ…. သည်လိုဆိုရင် အသင်မှားတာပေါ့၊ မိုက်တာပေါ့၊ ဣရာဏာ သီ မင်းသမီးတည်းဟူသော အဝိဇ္ဇာကြီးဖုံးတာကြောင့် သူ တော်ကောင်းတရား ကွယ်ရတာပေါ့။ အကယ်၍ ငါသာ သေသွားပါမူ ဝိမလဒေဝီ၏ ချင်ခြင်း ဟာလဲ ပြေမှာ မဟုတ်ဘူး၊ ငါဟာ-ပညာရှိကြီး ပါကွဲ့ ပညာရှိဆိုတာ သူတပါး၏အလိုကိုလဲ ပြည့်အောင် ကိုယ့်အလိုကိုလဲ ပြည့် အောင် ငါကြံနိုင်တယ်၊ ဘယ်နှယ်ကြံမတုံး၊ အသင်နှင့် ဣရာဏာသီအကြောင်းရှိလို့ ပေါင်းမိပြီဆိုလျှင် အသင့်အလို ကော မပြည့်ဘူးလား၊ ပြည့်တယ်။ ဣရာဏာသီအလိုကော မပြည့်ဘူးလား၊ ပြည့်တယ်။ ဝိမလ ဒေဝီကကော ငါ၏ တရားကိုနာရလျှင် ချင်ခြင်းပြေ၍ဝိမလဒေဝီအလိုမပြည့်ဘူး လား၊ ပြည့်တယ်။ ငါကကော ငါ၏တရားတော်ပူဇော်ပြီး ကောရဗ္ဗတိုင်းနိုင်ငံသို့ ပြန်ပို့တော့ ငါ၏အလိုကော မပြည့် ဘူလား၊ ပြည့်တာပါဘဲ။ ကဲ-ဒါဖြင့်လျှင် ငါ့ကိုနဂါးပြည် ပို့လိုက်-နဂါးပြည် ပို့လိုက်ပေါ့-ဟု သူတော်ကောင်းတရား ခုနစ်ပါးကို ရှင်းလင်း ဟောကြားတော် မူလေသည်။

* **ဥင်းဝတ္ထုသွား၌ ပါသော အမည်များသည် ကြားရသူတို့ မှတ်သား လွယ်ကူစေခြင်းငှာ ဆရာထော် ဘုရားကြီးက ယခုအတိုင်း ဟောကြားတော်မူသည်။**

---

## ကံ၊ စိတ်၊ ဥတု၊ အာဟာရ အကြောင်းတရား လေးပါး တရားတော်

**မမလေး ခန္ဓာကိုယ်၊ အဝိဇ္ဇာ မှောင်ရိပ်မှာခို။ အဝိဇ္ဇာခြောင့်ကြီး ကိုယ့်ကိုစူး၊ နှုတ်လို့ ရနိုင်ဘူး။ ကိုယ့်အာတတ်နဲ့-ကိုယ်ပြန်စူး၊ နှုတ်လို့ ရပေဘူး။**

**ကံ**က ဆရာကြီး၊ စိတ်က သခင်၊ ဥတုက ပန်းရံဆရာ၊ အာဟာရက ကူလီဆိုပါတော့။ စိတ်သခင် ကလေးက ကံဆရာကြီးကို ကံဆရာကြီးရယ် ကျုပ်ကို အိမ်တလုံးဆောက်ပေးစမ်းပါလို့ ခိုင်းတယ် ဆိုပါတော့၊ အဲဒီတော့ ကံဆရာကြီးက ဆောက်ဆိုဆောက်ရတာပေါ့၊ ဘယ်မြို့-ဘယ်ရွာ-ဘယ်ဌာနမှာ ဆောက်ရမှာလဲ။ တမြို့ကတော့ ရူပါရုံလဲမရှိဘူး၊ သဒ္ဒါရုံလဲမရှိဘူး၊ ဂန္ဓာရုံလဲ မရှိဘူး၊ ရသာရုံလဲ မရှိဘူး၊ ဖောဋ္ဌဗ္ဗာရုံလဲမရှိဘူး၊ မြို့ချောက်ကြီး။ တမြို့ကတော့ ရူပါရုံကလဲ တင့်တင့်တယ်တယ်၊ သဒ္ဒါရုံကလည်း အမျိုးမျိုး အမယ်မယ်၊ ဂန္ဓာရုံကလည်း ထုံထုံသင်းသင်း၊ ရသာရုံကလည်း ဖွယ်ဖွယ်ရာရာ၊ ဖောဋ္ဌဗ္ဗာရုံကလည်း ဆန်းဆန်းပြားပြား အလွန်ပေါများတယ်၊ ဘယ်မြို့မှာ ဆောက်ရမှာတုံးလို့မေးတယ်ဆိုပါတော့၊ ဒီတော့ စိတ်သခင်ကလေးက အောင်မယ် ကံဆရာကြီးရေ-ကျုပ်က ရူပါရုံ-သဒ္ဒါရုံ-ဂန္ဓာရုံ-ရသာရုံ-ဖောဋ္ဌဗ္ဗာရုံတွေရှိတဲ့မြို့မှ ပိုပြီး ကြိုက်တယ်ဗျ-လို့ပြောတယ်။ ဒီတော့ ကံဆရာကြီးက ဟာ-ဒီမြို့ကို မနေချင်ပါနဲ့ မကောင်းဘူးလို့ ပြောတယ်၊ စိတ် သခင်ကလေးက

ဘာမကောင်းတာတုံးလို့ မေးတော့ ကံ့ဆရာကြီးက ဒီမြို့ဟာ မြို့ပျက်ကြီး ခဏခဏမြေပြိုတတ်တယ်။ ပြိုပြိုဗျာကျမ်းကြက ရှုပါရုံကလေး ကြိုက်လွန်းလို့ပါ၊ မနေချင်ပါနဲ့၊ ခဏခဏ ရေနစ်တတ်တယ်။ နစ်နစ်ဗျာ ကျုပ်က သဒ္ဒါရုံကလေး နှစ်သက်လွန်းလို့ပါ။ မနေချင်ပါနဲ့ ခဏခဏ လေတိုက်တတ်တယ်။ တိုက်တိုက်ဗျာ ကျုပ်က ဂန္ဓာရုံကလေးသဘောကျလွန်းလို့ပါ။ မနေချင်ပါနဲ့ ခဏခဏ မီးလောင်တတ်တယ်၊ လောင်လောင်ဗျာ ကျုပ်က ရသာရုံတွေ-ဖောဋ္ဌဗ္ဗာရုံတွေ အလိုရှိလွန်းလို့ ဒီမြို့ကိုသာ နေချင်တယ်ဗျ။ ဆောက်သာ ဆောက်ပါလို့ အတင်းခိုင်းတယ်။

ဒီတော့ ကံ့ဆရာကြီးက ကိုင်း-ဒါဖြင့် မြေကြီးထဲယက်မြှုပ်လိုက်မယ်၊ကြိုက်ပြီလား၊ ဟာ····ဒါတော့ မကြိုက်ဘူး။ မကြိုက်ဘူးဗျို၊ ခဲတွေပိနေလို့ အသက်ရှူနိုင်မှာ မဟုတ်ဘူး။

ကဲ-ဒါဖြင့် ရေထဲ ထိုးနှစ်လိုက်မယ်၊ ကြိုက်ပြီလား၊ ဟာ ဒါလဲမကြိုက်ဘူးဗျ၊ ရေနစ်သေလိမ့်မယ်။

ဒါဖြင့်လေပွေကြီးထဲပွင့်လိုက်မယ်ကြိုက်ပြီလား၊ဒါလဲ မကြိုက်နိုင်ဘူး၊ လွင့်ပါသွားမယ်။

ဒါဖြင့် မီးထဲပစ်ချလိုက်မယ်၊ သဘောကျပြီလား၊ အို-လောင်းကျွမ်းသွားမှ သာဆိုးနေမယ်။

ကဲ-ဒါဖြင့် မြေတမက်, ရေတမက်, လေတမက်, မီးတမက်စု စရနယ်ပြီး အိမ်ဆောက်ပေးရင်ကော မကောင်း

ဘူးလား၊ အဲ-ဟုတ်ပြီဗျို့ ဒါတော့ ကြိုက်တယ် ကြိုက်ပြီ ကြိုက်ပြီ၊ ဆောက်လိုက် ဆောက်လိုက်တော့လို့ စိတ်သခင် ကလေးက ခိုင်းတယ်ဆိုပါတော့ ဒီတော့ ကံဆရာကြီးက ဆောက်ဆိုပေမဲ့ ငါလဲ မဆောက်တတ်ဘူး ငါ့တပည့်ပန်းရံ သမား မောင်ဥတုကို ခိုင်းမှာဘဲ။

ဟော့-ပန်းရံသမား မောင်ဥတု၊ ဟောဒီက စိတ်သခင် ကလေးကို မြေတမတ်, ရေတမတ်, လေတမတ်, မီးတမတ်, ဝင်းလေးပါးကိုစု စရနယ်ပြီး အိမ်တလုံး ဆောက်ပေးလိုက် ပါကွယ်လို့ ကံဆရာကြီးက ခိုင်းတယ်၊ ဒီတော့ ပန်းရံ သမားမောင်ဥတုက ဆောက်ဆိုဆောက်ရတာပေါ့၊ဒါပေ မဲ့ ကျုပ်က ကူလီယမား မောင်အာဟာရ ပေးသမျှ အုတ် ကောင်းပေးလဲ လုပ်ရမှာဘဲ၊ အုတ်ကျိုးပေးလဲ လုပ်ရမှာဘဲ၊ အုတ်နာပေးလဲလုပ်ရမှာဘဲ၊မီးမကျက်တဲ့အုတ်ပေးလဲ လုပ် ရမှာဘဲလို့ ပြောတယ်ဆိုပါတော့၊ ဒီတော့ ကံဆရာကြီးက ဟော့-စကားများမနေနဲ့ကွာ ဆောက်မှာသာဆောက်လိုက် လို့ ထပ်ပြီး အမိန့်ပေးတာနဲ့ ပန်းရံသမား မောင်ဥတုက ကူလီ မောင်အာဟာရနှင့် တိုက်အိမ်ကြီးတည်ဆောက်ပေး တာပေါ့။

အဲ ယခု လောက မြို့ထဲ ရွာထဲမှာ တိုက်အိမ်ဆောက် သောအခါ အုတ်ပေး-အုတ်ပေး ရေ့ဗျ-ရေ့ဗျ ဆိုသလို ပေါ့၊ အုတ်ကောင်းပေးလဲ ဘက်ခနဲကပ်လိုက်၊ အုတ်ကျိုး ပေးလဲ ဘက်ခနဲကပ်လိုက်၊ မီးမကျက်တဲ့အုတ်ပေးလဲ ဘက်

ခနဲ၊ အုတ်နာပေးလဲ ဘက်ခနဲကပ်တဲ့ပြီး အပေါ်က အင်တေကလေးကျုံထားလိုက်တာနဲ့ တိုက်အိမ်ကြီးပြီးသွားရော၊ အဲဒီဥပမာလိုဘဲ ကောင်းတာနဲ့တွေ့တော့ လူ့အိမ် နတ်အိမ် ဗြဟ္မာ့ခန္ဓာအိမ်အစရှိသည်ကိုရပါရော၊မကောင်းတာနဲ့တွေ့တော့ ခွေးဝက်စတဲ့ တိရစ္ဆာန် ခန္ဓာအိမ် ရပါရော။ ခန္ဓာအိမ်ဟာ ကောင်းသည်ဖြစ်စေ ဆိုးသည်ဖြစ်စေ တနေ့ကျတော့ မြေပြိုလို့အောင်ရတာနဲ့၊ ရေနစ်လို့ အောင်ရတာနဲ့၊ လေပွေကြီး တိုက်လို့ ပါရတာနဲ့၊ မီးလောင်လို့ အောင်ရတာနဲ့ တကျယ်ကျယ် တလောင်လောင် ဆူညံအောင် အော်နေတာတွေများမကြားကြဘူးလား၊မမြင်ကြဘူးလား ဒါယကာ ဒါယိကာမကြီးတို့။

ဒါကြောင့် သင်္ခါရာ-ကံ,စိတ်,ဥတု, အာဟာရ တည်းဟူသော အကြောင်းတရား လေးပါးတို့ ပြုပြင်သမျှ စီရင်သမျှ ခံနေကြရကုန်သော သင်္ခါရတရားတို့ဟာ၊ ဝယဓမ္မာ-ပျက်တတ်သော သဘောရှိကုန်၏-လို့ မြတ်စွာဘုရားကိုယ်တော်မြတ်ကြီးက ဟောတော်မူပါလျက်နှင့် မပျက်ဘူး အထင်ရှိပြီး လိုချင် ကြတာကြောင့် မြေပြိုလို့လဲ ခံကြ ရတယ်။ ရေနစ်လို့လဲ ခံကြရတယ်၊ လေပွေကြီး တိုက်လို့လဲ ခံကြရတယ်၊ မီးလောင်လို့လဲ ခံကြရတယ်၊ ကိုယ်လိုချင်ခဲ့တာတွေ ရတာမှို ပျော်ပျော်ကြီးခံကြ၊ ကိုယ်မနှစ်သက် တောင့်တခဲ့တာတွေရတာမှို **မညည်းမညူဘဲနဲ့** ကြိုးစားပြီး ခံလိုက်ကြတော့၊ ကိုယ်လိုချင်လို့ ကိုယ်ရတယ်၊ ကိုယ်မလိုချင် ကိုယ်မရဘူးပေါ့။

ကဲ-မလိုချင်ကြပါဘူး မနှစ်သက်ကြပါဘူးဆိုရုံနဲ့လဲမပြီးသေးဘူး၊ သိအောင် တရားအားထုတ် ကြရမယ်။ သိတော့မလိုချင်၊ မလိုချင်တော့မရ၊ မရတော့ မခံရ၊ မခံရတော့ငြိမ်းတာပေါ့။ (အသံသွင်းထားသည်။)

## အရှိကိုကြဉ်၊ မရှိတာကို မြင်တတ်သည့် ပုထုဇဉ်ကန်း

အရှိကို ကြဉ်ဆိုတာဘာလဲလို့ မေးတယ်ဆိုပါတော့ ပရမတ္ထနယ်မှာ ရုပ်-နာမ်နှစ်ပါးဘဲရှိတယ် မဟုတ်လား၊မှန်လှပါဘုရား၊ အဲ-အမှန်ရှိ တကယ်ရှိတဲ့ ရုပ်-နာမ် နှစ်ပါးကိုတော့ သိအောင် မြင်အောင် မကြိုးစားကြဘဲ အပြင်ဖြစ်တဲ့ခြေ, လက်, နှာခေါင်းမှစ၍ မှတ်သိပညတ်ဖြစ်တဲ့ လူ, နတ်, ဗြဟ္မာသတ္တဝါတွေကိုသာ အာရုံပြုကြသဖြင့် "အရှိကိုကြဉ် မရှိတာကို မြင်တတ်တဲ့ ပုထုဇဉ်ကန်း"လို့ ဆိုတယ်။

### မခံသာ မှန်ပါဘိ သည်တရား၊ ခံသာလျှင် သံသရာ ကြောမှာ....မျောလိမ့်အများ။

မခံသာ မှန်ပါဘိ သည်တရား ဆိုတာ-တရားအားထုတ်နေတဲ့ ယောဂီပုဂ္ဂိုလ်များမှာ ဝေဒနာတွေ ဖြစ်ပေါ်လာပြီး ခံနေကြရတယ်၊ ၎င်းဝေဒနာကို မခံသာဘူး၊ အဲ-မခံသာတာကိုဘဲ တရားစစ် တရားမှန်လို့ ဆိုတယ်။ ဖြစ်ပေါ်လာတဲ့ဝေဒနာကို ခံသာအောင် ဣရိယာပုထ်ကို ဖျက်ပစ်လိုက်တော့ ခံသာပြီး သက်သာနေတယ်။ ခံသာပြီး သက်သာ

နေတော့ မိမိစိတ်က ရောက်ချင်ရာရောက် ကြံချင်ရာကြံပြီး သံသရာကြောမှာ မျောပါသွားတာကြောင့် သံသရာကြော မှာ မျောလိမ့်အများလို့ဆိုတယ်။

**သောတာပန်ဖိုလ်နှစ်ခု၊ ကိုအမှုလိုသေးတယ်၊ အနာဂါမ် ဖိုလ်ကို ကူးကာမှ၊ နှစ်ကိုယ်ပူး ကွာတော့တယ်။**

ဆိုတာက သောတာပန် သကဒါဂါမ် ပုဂ္ဂိုလ်တွေဟာ ကာမရာဂကို မပယ်သေး၍ အိမ်ကြို့အိမ်ကြားမှာ ရှိသေးတယ်လို့ဆိုတယ်။ အနာဂါမ်ဖိုလ်ကို ကူးကာမှ နှစ်ကိုယ်ပူး ကွာတော့တယ်ဆိုတာ အနာဂါမ်ဖိုလ်ကျမှကာမရာဂ ပယ်ပြီးဖြစ်၍ အိမ်ကြို့အိမ်ကြားမှလွတ်တယ်လို့ဆိုတယ်။

**ပညတ် ပရမတ်၊ ကွဲသည့်မှတ်၊ သူမြတ် မဆိုသာ။**
**ပညတ် ပရမတ်၊ တွဲသည့်မှတ်၊ သူမြတ် မဆိုသာ။**
**ပညတ် ပရမတ်၊ နှစ်ခုစပ်၊ သိတတ်သူမှ မြတ်။**

---

## သေလေးပါး, ရှင်လေးပါး

မဂ်ကအသေ၊ဖိုလ်ကအရှင်၊ သောတာပတ္တိမဂ်၊သကဒါဂါမိမဂ်၊အနာဂါမိမဂ်၊ အရဟတ္တမဂ်တို့သည် တကြိမ်စီသာ ဖြစ်ကြ၍ နှစ်ကြိမ်ထပ်မံ မဖြစ်ကြခြင်းကြောင့် **အသေ** လို့ ခေါ်တယ်။

သောတာပတ္တိဖိုလ်၊ သကဒါဂါမိဖိုလ်၊ အနာဂါမိဖိုလ်၊ အရဟတ္တဖိုလ်တို့သည် အလိုရှိ၍ ဝင်စားတိုင်း အကြောင်း ညီညွတ်သည့်အခါ ဖြစ်နိုင်သော အကြောင်းများကြောင့် **အရှင်** လို့ ခေါ်တယ်။

**တော့ဆက်၊ ချိတ်ဆက်၊ ကွင်းဆက်ဆိုသည်ကား**

ပုထုဇဉ်တို့၏ သဒ္ဓါသည် မခိုင်မြဲလေသောကြောင့် တော့ဆက်လို့ ခေါ်တယ်။

အရိယာတို့၏ သဒ္ဓါသည် ခိုင်မြဲလေသောကြောင့် ချိတ်ဆက်လို့ခေါ်တယ်။

မြတ်စွာဘုရားရှင်တို့၏ သဒ္ဓါသည် ဗိုမို ခိုင်မြဲလေသောကြောင့် ကွင်းဆက်လို့ခေါ်တယ်။

**သာသနာ အထက်ဆန်**–ဆိုသည်မှာ သမထ ဝိပဿနာ ဘာဝနာအားထုတ်သော ယောဂီပုဂ္ဂိုလ်သည် သောတာပတ္တိမဂ်ကျပြီးနောက် အောက်သို့ ပြန်မလည်တော့ဘဲ သကဒါဂါမ်မှ အနာဂါမ်၊အနာဂါမ်မှ ရဟန္တာသို့ တဆင့်မှတဆင့် ဆင့်ကဲဆင့်ကဲ တက်သွားခြင်းသည် သာသနာ အထက်သို့ ဆန်တယ်လို့ခေါ်တယ်။

---

## ဆရာတော် ဦးကဝိနှင့်အနာဂါမ်ဒေါ်ငွေဘုံတို့ တွေ့ဆုံခဏ်း

အနာဂါမ် ဒေါ်ငွေဘုံက ကျော်ကြားနေသူ မင်းကွန် ဆရာတော်၏ တပည့်မ တယောက်သည် မောင်ရင်ပေါ ချောက်တွင် တရားပေါက်၍ ရဟန်းကိစ္စပြီးသော ပုဂ္ဂိုလ် တပါးရှိကြောင်း ကြားသိရသည်နှင့် ဟုတ်မဟုတ် စုံစမ်းလို သဖြင့် ဆရာတော်ဦးကဝိ သီတင်းသုံးနေရာမောင်ရင်ပေါ ချောက်သို့ လာရောက်လေသည်။ဆရာတော်၏တပည့်များ သည် ဆရာတော်နှင့် ဒေါ်ငွေဘုံတို့၏ အမေးအဖြေများကို ကြားနာလိုဇောနှင့်မောင်ရင်ပေါချောက်ကျောင်းသို့လာ ရောက် စုရုံးနေကြ လေသည်။ ဆရာတော် ဦးကဝိ၏ ထံ မှောက်သို့ ဒေါ်ငွေဘုံ မေးမြန်းလျှောက်ထားရန် ရောက်ရှိ လာသောအခါ ဆရာတော်ကပင်စတင်၍ ပရိကံမှ မဂ်ကု သည်အထိ သဘာဝကျကျနှင့် အမိန့် ရှိတော်မူသည့်ပြင် ဒေါ်ငွေဘုံ ဆက်လက် မေးလျှောက်မည့် တရားအချက် အလက်များကိုပါ တခုမကျန် ကြိုတင် ဖြေဆိုတော်မူလေ သည်။ ထိုအခါ ဒေါ်ငွေဘုံက အရှင်ဘုရား၏ တရားကျင့် စဉ် လမ်းတလျှောက်လုံးတွင် “**သတိ**”ကို အဓိကထားခြင်း သည် သဘာဝကျလှပါသည်ဘုရားဟု လျှောက်ထားလျှက် ‘ဒါမှငါ့သား-ဒါမှငါ့သား’ဟုလက်ခမောင်းခတ်ခါထခုန် သည်နှင့် ဆရာတော်ဦးကဝိက“သား-တော်ချင်ရင်-ကျွေးမှ အမေတော်မှာ”ဟု ပြန်လည် အမိန့်ရှိတော် မူလေသည်။ ဒေါ်ငွေဘုံသည်နောက်တနေ့ကျောင်းတွင်းရှိသံဃာတော်

များအား ဆွမ်းကပ် လှူဒါန်း၍ သာဓုအနုမောဒနာ ပြုပြီးမှ ပြန်သွားလေသည်။

(သူက ငါ့ထံကို ချက်ခြင်းမလာဘဲ ကျောင်းဝိုင်းထဲက စရပ်တခုမှာ တဲခိုပြီး စုံစမ်းနေတုန်း ငါက အမိန့်ရှိပြုပြီး သူမေးမဲ့ပုစ္ဆာတွေကိုအာရုံပြုထားပြီးဖြစ်လေတော့ကြိုတင် ဖြေဆိုနိုင်တာပေါ့၊ သူမေးမဲ့ဟာတွေဟာ မခေလှဘူး၊ သဘာဝကျလှတယ်၊ စာလဲတတ်တယ်၊ ဝတ်စားနေထိုင်ပုံ ဟာ သပ်သပ်ရပ်ရပ်နဲ့ တည်ကြည်တဲ့ အမူအရာရှိတယ်ဟု ဒေါ်ငွေဘုံကို ချီးမွမ်းတော်မူခဲ့ဘူးသည်။)

---

## တရား ဂုဏ်တော်

တရားဂုဏ်တော်ကို ယောဂီများ နားလည်စေရန်ဥပမာ ဆောင်၍ ဟောတော်မူသည်မှာ....

သန္ဒိဋ္ဌိကော၊ အကာလိကော၊ ဧဟိပဿိကော၊ ဩပနေယျိကော၊ ပစ္စတ္တံ ဝေဒိတဗ္ဗော ဝိညူဟိ–လို့ မြတ်စွာဘုရား ဟောတယ် မဟုတ်လား၊ မှန်လှပါဘုရား။ အေး–ဥပမာ တရားအားထုတ်တဲ့ယောဂီပုဂ္ဂိုလ်ဆိုပါတော့၊ဒီပုဂ္ဂိုလ်ဟာ ပရိကံ,ဥပစာ,အနုလုံ, ဂေါတြဘူတိုင်အောင် သန္ဒိဋ္ဌိကော ဂုဏ်ပုဒ်၊ သစ္စာလေးပါးကို လေးကြိမ်မြင်တာက အကာလိကောဂုဏ်ပုဒ်။

ဝိညူဟိ ပညာက ပြည့်ရှင် မင်းကြီးပမာ၊ ဩပနေယျိ ကောက ပြည့်ရှင်မင်းကြီးအနားမှာနေတဲ့ အမတ်ကြီးဝမာ၊

ဟေ်ပဿီကောာက ယှဉ်ကိုင်တွယ်ပြီး ကြည့်ပါရှုပါ သည့် ထက်သည် ကောင်းပါသေးတယ် ဆိုသည့်အလား သစ္စာလေးပါးကို ယေးကြိမ်တိုင်တိုင် ပြတယ်ဆိုပါတော့။ အဲဒီလိုပြတဲ့အခါမှာ ဝိညူဟိ-ပညာက ပစ္စတ္တံ ဝေဒိတဗ္ဗော၊ အသီးသီးဝေဘန္ဒိကပြုပြီး ဆုံးဖြတ်တယ်။ ဘယ်လိုဆုံးဖြတ်သတုံးလို့ မေးတယ်ဆိုပါတော့ ဤကားရုပ်၊ ဤကားနာမ်၊ ဤကားစိတ်၊ ဤကား စေတသိက်၊ ဤကား ဒုက္ခသစ္စာ၊ ဤကား သမုဒယသစ္စာ၊ ဤကားမဂ္ဂသစ္စာ၊ ဤကားနိရောဓသစ္စာ ဤသစ္စာလေးပါး တရားကိုပင် သောတာပတ္တိမဂ်၊ သောတာပတ္တိဖိုလ်ခေါ်တယ်။ ဤကား ဒုက္ခသစ္စာ၊ ဤကား သမုဒယသစ္စာ၊ ဤကား မဂ္ဂသစ္စာ၊ ဤကား နိရောဓသစ္စာ၊ ဤသစ္စာ လေးပါးကိုပင် သကဒါဂါမိ မဂ်၊ သကဒါဂါမိဖိုလ်ခေါ်တယ်။ ဤကား ဒုက္ခသစ္စာ၊ ဤကား သမုဒယသစ္စာ၊ ဤကား မဂ္ဂသစ္စာ၊ ဤကား နိရောဓသစ္စာ၊ ဤသစ္စာလေးပါးကိုပင် အနာဂါမိမဂ်၊ အနာဂါမိဖိုလ် ခေါ်တယ်။ ဤကားဒုက္ခသစ္စာ၊ ဤကား သမုဒယသစ္စာ၊ ဤကား မဂ္ဂသစ္စာ၊ ဤကားနိရောဓသစ္စာ၊ ဤသစ္စာလေးပါးကိုပင် အရဟတ္တမဂ်၊ အရဟတ္တဖိုလ်ခေါ်တယ်။ ဤကားသတ္တလောက၊ ဤကား သင်္ခါရလောက၊ ဤကား ဩကာသလောက၊ (အတွင်းလောကသုံးပါး)။ ဤကား သတ္တလောက၊ ဤကား သင်္ခါရလောက၊ ဤကား ဩကာသလောက (အပြင်လောကသုံးပါး)။ ဤကဲ့သို့ ပညာက ဝေဘန္ဒိကပြုပြီး ဆုံးဖြတ်တယ်။ အဲဒီလိုဆုံးဖြတ်ပြီး ပညာက အသီးအသီး ခံစား၍နေလေသတည်း။

စိတ်-စေတသိက်-ရုပ်ဆိုတဲ့ တရားသုံးပါးဟာ ဖြစ်လိုက် ပျက်လိုက်နှင့်နေတာကို မြင်ရတယ်။ အဲသည်လိုမြင်ရတော့ ၎င်းဖြစ်ပျက်ပြီး ဆင်းရဲနေဘာကို ဒုက္ခသစ္စာဟု ပိုင်းခြား၍ သိမြင်းသည် ဉာတပရိညာ မည်၏။ အဲသည် ဒုက္ခဟာ ဘယ်သူ့ကြောင့်တုံးဟု စိစစ်လိုက်တယ်။ အဲသည်လို စိစစ် တာက တီရဏပရိညာမည်၏။ စိစစ်လိုက်တော့ လောဘ တဏှာ သမုဒယသစ္စာကို မြင်တယ် ၎င်းကိုမြင်တော့ မဂ်က ပယ်လိုက်တယ်၊ အဲသည်လို ပယ်ရ် ်ဘာကတော့ ပဟာန ပရိညာမည်၏။

၎င်းစိတ်-စေတသိက်-ရုပ် မြင်တာကိုပင် သစ္စဉာဏ်လို့ ခေါ်တယ်။ မဂ်ကိစ္စကို ကိစ္စဉာဏ်လို့ ခေါ်တယ်။ အနုသယ ကို မဂ်ကပယ်သတ်လိုက်တော့ အခြေကြာင်းအကျိုးပြတ်တာ ကိုပင် ကတဉာဏ်လို့ခေါ်ပါယ်။

မြင်တတ်သောတရားက .... မဂ္ဂစက္ခု။
မြင်အပ်သောတရားက ... သစ္စာလေးပါး။
သိတတ်သောတရားက .... ဉာဏ်။
သိအပ်သောတရားက .... သစ္စာလေးပါး။
ပယ်တတ်သောတရားက ... မဂ်။
ပယ်အပ်သောတရားက .... သမုဒယ။
ပြတ်သောတရားက.... နိရောဓ။

(အသံသွင်းထားသည်။)

---

## စကြာတောင် တရားတော်

ဘုန်းကြီးပြမြင်းခြံအရှေ့မြောက်ဘက်မှာ စကြာတောင်ဘုရားရယ်လို့ရှိတယ်။ အဲဒီစကြာတောင် ဘုရားမှာ ပွဲတော်ကျင်းပတဲ့အခါ ထန်းရေမူးသမားတွေ အလွန်ပေါများကြသတဲ့၊ ဒီအထဲမှာ ထန်းရေမူးသမား တယောက်ဟာ ဆံပင်ကိုရှောင်ပေရုံးကလေးထုံး ခါးတောင်းမြောင်အောင်ကျိုက် ဝါးရင်းဒုတ်တို တချောင်းကို ကိုင်ပြီး ဘုရားပွဲဈေးတန်းတလျှောက် တွေ့တဲ့လူတိုင်းကိုပခုံးချင်းယှဉ်ယှဉ်ပြီး "မော်တဲ့လူ ရှာသဗျို၊ မော်တဲ့လူရှာဘဗျို" လို့ အော်သတဲ့။

အဲဒီလို အော်နေတာကို အခြား ထန်းရေမူး သမားတယောက်က မခံချင်တာနဲ့ သူ့ထက်သာအောင် သူ့လိုဘဲ ဆံပင်ကိုရှောင်ပေရုံးထုံး ခါးတောင်းမြောင်အောင်ကျိုက်၊ သူကိုင်တဲ့ ဒုတ်ထက် ကြီးတဲ့ ဒုတ်ကိုကိုင်ပြီး "ရှာတဲ့လူ မော်သဗျို၊ရှာတဲ့လူ မော်သဗျို" လို့အော်ပြီးပခုံးချင်း တိုက်မယ်ပြုသတဲ့။

ဒီတော့ ပဌမ ထန်းရေမူးသမားက နောက် ထန်းရေမူးသမားရဲ့မျက်နှာကို ကြည့်ပြီး "မော်တဲ့လူ ရှောင်သဗျို၊ မော်တဲ့လူရှောင်သဗျို" လို့အော်ပြီး ရှောင်သွားသတဲ့။

ဒွိဒါယကာ ဒါယိကာမကြီးတွေလဲ အဲဒီ စကြာတောင်ဘုရားပွဲက ထန်းရေမူးသမားတွေနဲ့ တူနေပြီ၊ မော်တဲ့လူ မတွေ့ခင်ကတော့ "မော်တဲ့လူ ရှာသဗျို၊ မော်တဲ့လူ ရှာသဗျို" နဲ့ "ရှာတဲ့လူ မော်သဗျို" ဆိုတာနဲ့ တွေ့ပြန်တော့၊ "မော်

တဲ့လူ မော်သဗျို၊ မော်တဲ့လူရှောင်သဗျို” နဲ့ရှောင်ရှောင် သွားကြတယ်။

ကဿပဘုရားရှင် သာသနာတော်နှင့် ကြုံကြိုက်ခဲ့တုန်းက မော်တဲ့လူရှောင်သဗျို၊ မော်တဲ့လူရှောင်သဗျိုနဲ့ ရှောင်ခဲ့ကြပြီ။ မော်တဲ့လူ ရှာသဗျို၊ မော်တဲ့လူ ရှာသဗျို-ဆိုသလို ဂေါတမ မြတ်စွာဘုရားသာသနာတော်ကြီးကို လှမ်းပြီး ဆုတောင်း ခဲ့ကြတယ်၊ အဲဒီလို ဆုတောင်း ခဲ့ကြလို့-ခု ဂေါတမ မြတ်စွာဘုရား သာသနာတော်နဲ့ ကြုံကြိုက်ကြရတယ်။

အဲဒီလို သာသနာတော်နှင့် ကြုံကြိုက်ပြန်တော့လဲ ဟိုယောင်ယောင် ဒီယောင်ယောင်နဲ့ နောင် အရိမေတ္တေယျဘုရားရှင် ပွင့်တော်မူတဲ့အခါ ဆီမီးငါးတိုင် ကြာငါးခိုင်နဲ့ ကိုယ်တိုင်ကိုယ်ကျ လက်ဦးရှာ ဖူးတွေ့ရပါလို၏လို့ လှမ်းပြီး ဆုတောင်းနေကြတာဟာ“မော်တဲ့လူရှောင်သဗျို၊ မော်တဲ့လူရှောင်သဗျို”လို့ အော်တာနဲ့တူတယ်။

ဒီလိုနဲ့ဘဲ တရှောင်ထဲရှောင်ရှောင်ပြီး နောက်ပွင့်တော်မူမဲ့ ဘုရားတွေကို မြှော်မှန်းဆုတောင်းရင်း သံသရာထဲ နစ်နေကြရတယ်၊နိဗ္ဗာန်ရရာ ရကြောင်းဖြစ်တဲ့ တရားကိုတော့အားမထုတ်ကြဘဲ အမေကျော် ဒွေးတော် လှမ်းမနေကြနဲ့။ ခု ဂေါတမမြတ်စွာဘုရားသာသနာတော်ကြီးနဲ့ ကြုံကြိုက်တဲ့အခါ လသာတုန်းဗိုင်းငင် ဆိုတာလို သဒ္ဓါဗိုလ်,ဝီရိယဗိုလ်, သတိဗိုလ်, သမာဓိ ဗိုလ်, ပညာဗိုလ် ဆိုတဲ့ ဗိုလ်ကြီးငါးဦးလက်ကိုင်ထားပြီး လောဘ, ဒေါသ, မောဟဆိုတဲ့ အဝိဇ္ဇာမောင်သောင်းကျန်းတို့ကို နှာသီးဖျားကာယတံခါး

မှကာဗာ(အကွယ်အကာ)ယူကာထိမှ,သိမှ-သတိကြပ်ကြပ် ပြုဆိုတဲ့ သမထဝိပဿနာတရားနှင့် ပွားများတိုက်ထုတ်ပါ က သောတာပတ္တိမဂ်အစ အရဟတ္တမဂ်အဆုံး မိမိတို့ပါရမီ အတိုင်း ပေါက်ရောက်နိုင်ကြပါတယ်၊ ဒီတခါတော့စကြာ တောင်ဘုရားပွဲက ထန်းရေမူးသမားလို"မော်တဲ့လူ ရှောင် သဈှို၊ မော်တဲ့လူ ရှောင်သဈှို"ဆိုသလို ရှောင်မနေကြနဲ့ တော့။

ဒါနဲ့ ဆပ်ပြာသယ် အကြောင်း ဆက်ပြောရအုံးမယ်။ ဒို့စွန်းလွန်းရွာမှာ "ဆပ်ပြာ-ဆပ်ပြာ"နဲ့ သူတို့ ဆပ်ပြာ အလွန် ချေးကျွတ်တယ်, အလွန်ဖြူစင်စေဟယ်လို့ အော်ပြီး လယ်ရောင်းနေကြတယ်၊ သူတို့ကိုယ်ကို ကြည့်လိုက်တော့ ချေးတွေ ချည်းဘဲ၊ အဲ-ဒို့ဒကာ ဒကာမကြီးတွေလဲ အဲဒီ ဆပ်ပြာသယ်တွေလို ဖြစ်နေအုံးမယ်။ သူတကာ့ ချေးကျွတ် ဘို့ထက် ကိုယ့်ကိုယ်က,ချေးအရင်ကျွတ်ဘို့အရေးကြီးတယ်၊ သူတကာတွေအပေါ် ဆရာလုပ်ပြီး တရားဟော နေတာ ထက် ကိုယ့်ကိုယ်ကို တရားရအောင် ကြိုးစားအားထုတ်ဘို့ က အရေးကြီးပါတယ်။၊ ဒါကြောင့် ဆပ်ပြာသယ် လုပ် မနေကြနဲ့ဟု အမြဲတစေ ဆုံးမတော်မူခဲ့လေသည်။

---

## ဓမ္မဝိဟာရ တရားတော်

ဓမ္မဝိဟာရတရား ဘယ်လိုပုဂ္ဂိုလ်မျိုးမှာ တည်ပါသလဲ ဘုရားဟု လျှောက်ထားသည်ကို ကျေးဇူးရှင် ဆရာတော် ဘုရားကြီးက ဥပမာနှင့် ပြ၍ ဟောတော်မူသည်မှာ....

ရှေးရှေးတုန်းက ဗာရာဏသီပြည်မှာ ဗြဟ္မဒတ်မင်းကြီး မင်းပြုတယ်ဆိုပါတော့၊ ထိုအခါ တိုင်းစွန်ပြည်ဖျားမှာ မြွှမ်းသူပုန်ထသတဲ့၊ အဲဒီတော့ သူပုန်ရန်ကို ဖြိုဖျက်ရန် ဗြဟ္မဒတ်မင်းကြီးက စစ်သူကြီး ငါးယောက်ကို စေလွှတ်လိုက်တယ်။ ငါးယောက်သောစစ်သူကြီးတို့ဟာ ဘုရင်မင်းမြတ်၏အမိန့်တော်အတိုင်း သွားကြ၍ တိုင်းစွန်ပြည်ဖျား တောအုပ်ကြီးအနားသို့ရောက်တဲ့အခါ သူပုန်တွေသွားလာသောကြောင့် မြူမှုန်တွေထသည်ကိုမြင်လျှင်တယောက်သောစစ်သူကြီးက ကြီစည် စိတ်ကူးသည်မှာ....ဩော်....မြူမှုန်တွေ များပြားသလောက် ထောက်ဆကြည့်ရရင် သူပုန်တပ်သားတွေဟာ နည်းမှာ မဟုတ်ဘူးလို့ တွေးမိပြီး ကြောက်တာနဲ့ ကျနေရစ်ရော။

ဒါနဲ့ ကျန်တဲ့စစ်သူကြီးလေးယောက် ရှေ့ဆက်သွားပြန်တော့ သူပုန်တပ်သားတွေကကြိုးကျယ်ခမ်းနားလှစွာသော အောင်လံကြီးကို ခွံ့ခွံ့ညွှားညွှားကြီး စိုက်ထူ ထားတာကို တွေ့ရပြန်သတဲ့၊ ဒီတော့ တယောက်သော စစ်သူကြီးက အောင်မာ-တယ်ခွံ့ညွှားတဲ့ အလံကြီးဘဲလို့ အလံမြင်တာနဲ့ စိမ့်ကြောက်ပြီး ကျနေရစ်ပြန်ရော။

ဒါနဲ့ ကျန်တဲ့ စစ်သူကြီး သုံးယောက်ထဲ ရှေ့ဆက်သွားပြန်သတဲ့၊ သူပုန်တပ်သားတွေက စစ်သူကြီးတွေနီးလာမှန်းသိတော့“ဒို့လူလေးများ ဆိုသလေ....၊ ဘုရင့်စစ်သူကြီးတွေကို ဘယ့်နှယ်ဝိုင်းမယ်၊ ဒီနှယ်ဝိုင်းမယ်၊ ဘယ့်နှယ် ဖမ်း

မယ်…. ဒီနှယ်ဖမ်းမယ်၊ ညီစေနော်….အေး’’လို့ တစ်သံပေးကြတာပေါ့၊ ဒီမှာ တယောက်သော စစ်သူကြီးကဟာ-အသံတွေကဖြင့် နဲတာမဟုတ်ဘူး သူပုန် တပ်သားအတော်များမှာဘဲ၊ ငါတို့သုံးရောက်ထဲနှင့် နိုင်မှာမဟုတ်ဘူးဆိုပြီး ကျနေရစ်ပြန်ရောတဲ့။

ကျန်တဲ့ စစ်သူကြီးနှစ်ယောက်ကတော့ အနိုင်တိုက်မယ်ဆိုပြီး တက်သွားကြတယ်။ သူပုန်တပ်ထဲဝင်ပြီး သူပုန်တပ်သားတွေကို သူ့ထက်ငါ ပိုင်းကနဲ-ပိုင်းကနဲ နေအောင်ခုတ်ကြတာပေါ့၊ တော်တော်ကြာတော့ သူပုန်ဗိုလ်ကြီးကစစ်သူကြီးတယောက်ကို ခုတ်ချလိုက်တာ ပိုင်းကနဲကျသွားတယ်။ ကျန်တဲ့စစ်သူကြီးက တခါ သူပုန်ဗိုလ်ကြီးကို ပိုင်းကနဲ ကျသွားအောင် ပြန်လည်ခုတ်ချလိုက်တော့မှ သူပုန်တပ်သားတွေလဲ ဖရိုဖရဲနှင့်အကုန်ထွက်ပြေးကြကုန်ရောတဲ့၊ အဲဒီတော့မှ တယောက်ထဲကျန်နေတဲ့ စစ်သူကြီးဟာ သူပုန်ရန်ကို အကုန်ဖြိုဖျက်ပြီးပြီမို့ စစ်နိုင်တာနဲ့ အောင်လံလွှင့်ပြီးဘုရင်မင်းမြတ်ထံ ပြန်သွားပါရောတဲ့။

အဲဒါကို ဥပမာနဲ့ ပြောရသေးတာပေါ့၊ ယခုဘုန်းကြီးဆီရောက်နေကြတဲ့ ရဟန်းသာမဏေတို့ သတိထားရမှာကတော့ ဘယ်မြို့ဘယ်ရွာ ဘယ်ဌာနမှာ မည်သူ၏သမီးဟာအလွန်ချော အလွန် လှသတဲ့ဟု သတင်းစကား ကြားရတယ်ဆိုပါတော့၊ ဈေးကာလနီး တိုက်အိမ်ကာလကြီး ပစ္စည်းကာလပေါ သမီးကာလချော ဆိုတော့“နိုးနိုးကြီး” သုံးဦးလို

ပေါ့ (သိုက်စာဘတ်ရာ နားထောင်ပါ ဥစ္စာရရှိနိုး။ဗိန္ဒော ဘတ်ရာ နားထောင်ပါ သူနာ ပျောက်နိုးနိုး။ ကျောင်းက ဘုန်းကြီး မင်းသမီး- အပြီးရရှိနိုး) ဆိုသလိုဘဲ ရယိမ့်မယ် အထင်နဲ့ လူထွက်ပါရောတဲ့၊ အဲဒါ မြူမှုန်တွေထတာကိုမြင် တာနဲ့ ကျနေခဲ့တဲ့ စစ်သူကြီးနဲ့တူတယ်။

ဒီမှတဖန် သည်းခံနိုင်လို့ တက်ပြန်သော် ဆွမ်းခံအသွား မှာ ရပ်အဆင်းလှလှနဲ့ ကလေးမ တယောက် ရွှေနားက ဖြတ်သန်း သွားတာကို မြင်လိုက်ရရင် ဩော်… တနေ့က သတင်းကြားရတဲ့ ကလေးမဟာ ဒီကလေးမနဲ့ တူပါရဲ့၊ ကြားရတဲ့အတိုင်းလဲ ရုပ်ရည်က အလွန်ဘဲချော အလွန်လှ တာကိုးဟု အောက်မေ့ပြီး ဒီမိန်းကလေး ငါရအောင်ကြံ လေမှဘဲလို့ ရယိမ့်မယ် အထင်နှင့် လူထွက်ပြန်ရော၊ အဲဒါ အောင်လံကြီးကိုမြင်တာနဲ့ ကျသောစစ်သူကြီးနှင့် တူတယ်။

ဒီမှတဖန် သည်းခံနိုင်သေးလို့ရှိရင် ကလေးမ ကလေး က တပည့်တော်မတို့အိမ် ဆွမ်းခံကြွတော်မူပါဘုရား၊ နေ့ စဉ်အမြဲ ထိုင်တော်မူပါဘုရား-လို့ ပင့်ပြီး ပေါင်မှုံ့ကလေး မီးကင်၊ ထောပတ်တွေ ခပ်များများ သုတ်ပြီး ဘုဉ်းပေး တော်မူပါဘုရား၊ ဟောဒါက လဘက်ရည်အချိုပါဘုရား၊ သကြားကိုလဲဖြည့်စွက်နိုင်ပါတယ်ဘုရား။ ဘုန်းဘုန်းဘုရား အလိုရှိတာကိုလဲ အမိန့်ရှိတော်မူပါဘုရား။ အေးကုန်တော့ မယ်ဘုရား ပူပူနွေးနွေး ကလေး ဘုဉ်းပေးတော်မူလိုက်ပါ ဘုရားလို့ အနားက ပြုံးပြုံးဌာဌာ တီတီတာတာ ပြောဆို

ပြီး နေ့စဉ်နေ့တိုင်း ကျွေးမွေးလှူဒါန်း နေတာပေါ့။ အဲဒီ တော့ဘယ်လိုဖြစ်ပြန်သလဲဆိုရင်၊အောင်မယ်ဒီမိန်းကလေး ဟာ ငါ့ကို အတော်ဘဲစွဲနေပုံရတယ်၊ ငါယူရင် ရမှာဘဲ ဟု ထင်တလုံးနဲ့ လူထွက်ပြန်ပါရော၊ အဲဒါ တပ်သံပေးတာ ကိုကြားတာနဲ့ ကျတဲ့စစ်သူကြီးနှင့် တူတယ်။

ဒီမှတဖန် သည်းခံနိုင်သေးလို့ရှိပြန်သော် ဒီကနေ့တော့ အလုပ်တွေ ရှုပ်ပြီး များနေတာနဲ့ ဘယ်မှ မသွားနိုင် မလာနိုင်လို့ ဆေးလိပ်တောင် မရှိသေးဘူးဘုရား၊ ညနေ ငါးနာရီ-လောက်တော့ ကြွခဲ့ပါအုံး – ဘုန်းဘုန်းလို့ မိန်း ကလေးက မှာလိုက်တယ်ဆိုပါတော့၊ ညနေ ငါးနာရီကျ တော့ မိန်းကလေးကလဲ ပြုတင်းပေါက်က ထွက်အမြော် သတ်နီးခေါင်းမြီးချိုပြီး စိုက်စိုက် စိုက်စိုက်နဲ့ လာနေတာ တွေ့တော့ တံခါးပေါက်ဆီထသွား၍ တံခါးကိုမစေ့တစေ့ ပိတ်ပြီး အိပ်ချင်ဟန်ဆောင်နေတယ်။ ဘုန်းကြီးက တံခါး ကိုကပ်ပြီး ကျီကနဲတွန်းဖွင့်လိုက်တော့ အိမ်ထဲမှာ ကိုးယိုး ကားယားအိပ်နေတာကိုမြင်လိုက်ရရင်ဘဲ သိက္ခာတောင်ချု မနေနိုင်တော့ဘူး ပြုတ်ကျပါရောတဲ့။ အဲဒါ သူပုန်ဗိုလ်ကြီး ခုတ်ချလို့ ကျဆုံးသွားတဲ့ စစ်သူကြီးနဲ့တူတယ်။

ကျန်နေတဲ့ စစ်သူကြီးက သူပုန်ဗိုလ်ကြီးကို ပိုင်းကနဲနေ အောင် ခုတ်ချလိုက်သလို ကာမရာဂတည်းဟူသော သူပုန် ဗိုလ်ကြီးကို အပိုင်းပိုင်း အတစ်တစ် ခုတ်ထစ်ပြီး အသေ သတ်နိုင်သောသူမှသာလျှင် **မေ္ဗစိဟာရတရား** တည်လိမ့်မည် ဟု ဟောကြားတော်မူသည်။

ဧင်းကိုပင်အကြောင်းပြု၍ ကျေးဇူးရှင်ဆရာတော်ဘုရားကြီးက တိုက်တွင်းရှိ တပည့်သား သံဃာတော်များအား ဆုံးမလေ့ရှိတော်မူသည်မှာ-ဆွမ်းခံသွားရင် အစဉ်အတိုင်း တန်းရပ်ပြီး ဆွမ်းခံကြ၊ ထိုင်အိမ် မထားကြနဲ့၊ ထိုင်အိမ် ထားတော့ ကာမမှုရောက်တတ်တယ်၊ သူတပါးအချစ်မခံချင်ကြနဲ့၊ အချစ်ခံချင်လို့ ချစ်တော့ ပွဲတတ်တယ်။ ဂုဏ်မကြီးချင်နဲ့၊ ဘုန်းမကြီးချင်ကြနဲ့၊ ဘုန်းကြီးချင်လို့ ဘုန်းကြီးတော့-ဘုန်းမှန်တတ်တယ်။ ဂုဏ်လဲမကြီးချင်ကြနဲ့၊ ဂုဏ်ကြီးချင်လို့ ဂုဏ်ကြီးတော့ ဂုဏ်မွေးစူးတတ်တယ်။ ဂုဏ်မလိုချင်နဲ့ ဂုဏ်လိုလျှင်ဂုဏ်ပြုတတ်တယ်၊ဂုဏ်မလိုမှဂုဏ်ပိုတယ်။သပိတ်ကိုလဲမကျော်ကြနဲ့၊ သပိတ်ကျော်တော့-ငရဲကျိုးတတ်တယ်။ ခြေနှင့်ကျော်တာတော့ ကလေးတောင်သိတာပေါ့၊ ဥပမာ ဒါယကာကြီး တယောက်က ချဉ်ပေါင်ရွက်ရေလုံပြုတ် အရေကြည်ကြည်လောင်းလိုက်ပါပေါ့တဲ့၊ ဒီတော့ ဟင်ဆိုပြီး နှာခေါင်း ရှုံ့လိုက်တာ သပိတ် ကျော်တာဘဲ။ ဝက်သား ဆီပြန်ဟင်း လောင်းလိုက်ပါပေါ့တဲ့။ ဟာ-နေရာကျလိုက်လေဆိုပြီး ပြုံးတုံးတုံးဖြစ်လာတာ သပိတ်ကျော်တာဘဲ။

အဲဒီလို ဆွမ်းခံသွားရင်းလောဘ,ဒေါသ,မောဟ,မဖြစ်ရလေအောင် မိမိ၏စိတ်ကို ရူပါရုံ,သဒ္ဒါရုံ,ဂန္ဓာရုံ,ရသာရုံ,ဖောဋ္ဌဗ္ဗာရုံတို့နောက် လိုက်ပါမသွားရလေအောင် စောင့်ရှောက် ထိန်းသိမ်း နိုင်သမျှ ထိန်းသိမ်းပြီး သတိထားနေကြရမည်ဟု ဆုံးမတော်မူလေသည်။ (အသံသွင်းထားသည်)

---

## ဒါယိကာမများ သိကြတဲ့ အကြောင်းတရား ငါးပါး

၁။ **အလို့ရှိခြင်း**=ဒါယိကာမများဟာ၊ သူ့နှမ ကိုယ့်နှမ သူ့အမေ ကိုယ့်အမေ၊ လင်ယောက်ျားကို အလိုရှိတယ်။

၂။ **ကျက်စားခြင်း**=ဖီးခြင်း၊ လိမ်းခြင်း၊ ဝတ်စားတန်ဆာ ဆင်ခြင်း၌ ကျက်စားတယ်။

၃။ **ထောက်တည်ခြင်း**=သားသမီးလင်သားနှင့် ဆွေမျိုးမိဘ များအပေါ် ထောက်တည်တယ်။

၄။ **နှလုံးသွင်းခြင်း**=ငါ့လင် မယားငယ်မယူပါစေနဲ့၊ ငါ့လင် မယားငယ် မယူပါစေနဲ့ဟု နှလုံးသွင်းတယ်။

၅။ **ပြီးဆုံးခြင်း**=ကိုယ့်လင် ကိုယ့်စကား နားထောင် လို့ မယားငယ် မယူရင် ပြီးဆုံးရောတဲ့။

---

## ပဋ္ဌာစာရီ တရားတော်

ဟဲ့-ဒါယိကာမကလေးတွေ နင်တို့မကြိုက်တာ ပြောရအုံးမယ်၊ မလှချင်နဲ့၊ ချောချင်နဲ့၊ ပစ္စည်းမပေါချင်နဲ့၊ ဂုဏ်မကြီးချင်နဲ့၊ ကြပ်ကြပ်လှ - ကြပ်ကြပ်ချော - ကြပ်ကြပ် ပစ္စည်းပေါပြီး ကြပ်ကြပ်ဂုဏ်ကြီးလျှင် ကြပ်ကြပ်ဒုက္ခရောက် တတ်တယ်။ မျက်စိအလိုလဲ မလိုက်နဲ့၊ နားအလိုလဲ မငဲ့

နဲ့၊ နှာခေါင်းအလိုလဲ မလိုက်နဲ့၊ လျှာအလိုလဲ မလိုက်နဲ့၊ ခန္ဓာကိုယ်အလိုလဲ မလိုက်ကြနဲ့၊ အလိုလိုက်မှဖြင့် အမိုက်စော်ကား တတ်တယ်။ ဘယ်လိုများ အမိုက် စော်ကား ပါသလဲဆိုရင် … အဲသည့် မျက်စိ-နား-နှာခေါင်း-လျှာ-ခန္ဓာကိုယ် အလိုလိုက် မိတော့၊ အဲသည့် ငါးပေါက်ကြောင့် မှားလေတော့တာဘဲ၊အဲဒါကြောင့် **ငါးပေါက်မှား တော့၊ ငါးပါး မှောက်တတ်တယ်၊** အေး-တို့ဒါယကာကြီးတွေ, ဒါယိကာမကြီးတွေလဲ ကိုယ့်အလို မပြည့်စုံလို့ စိတ်ဒုက္ခ အမျိုးမျိုး ရောက်ခဲ့တာတွေ ရှိကြလိမ့်မယ်၊ အဲသည် ဟာ ငါးပေါက် မှားလို့ ရတဲ့ အကျိုး တရား တွေပေါ့။ ဒါကြောင့် …

**တပူထက် နှစ်ပူ၊ ရှေတ်ဆုံ လူခဲ့ဘူးရော့ သလား ထူးတဲ့အပူ။ ။မမလေး ခန္ဓာကိုယ်၊ အဝိဇ္ဇာ မှောင်ရိပ် မှာခို။ အဝိဇ္ဇာငြောင့်ကြီး ကိုယ့်ကိုစူး၊ နှုတ်လို့ ရနိုင် ဘူး။ ။ကိုယ့်အတတ်နဲ့-ကိုယ့်ပြန်စူး၊ နှုတ်လို့ရပေဘူး။**

ဆိုသကို ဖြစ်နေကြ ခံနေကြရတာပေါ့၊ ကြွေးစား၍သာ ခံကြပေတော့။

တို့ ဂေါတမဘုရား လက်ထက်တော် တုန်းကလဲ ပဋာစာရီဆိုတဲ့ သူဌေးသမီးကလေး တယောက်ဟာ အလွန်လှ အလွန်ချော ပစ္စည်းကလဲ ပေါတော့ ဂုဏ်ကလဲအလွန်ကြီး တာပေါ့၊ အဲသည်တော့ မျက်စိ အလိုလဲ လိုက်ခဲ့တယ်၊ နားအလိုလဲ လိုက်ခဲ့တယ်၊ နှာခေါင်းအလိုလဲလိုက်ခဲ့တယ်၊



၁၃၁၀-ခုနှစ် ကံထပ်ပြီး သိမ်အထွက်ရိုက်ကူးထားသောပုံတော်။



၁၃၁၀-နှစ်က ရိုက်ကူးထားသော ပုံတော်



၁၃၁၃-ခုနှစ် ရန်ကုန်ဘောက်ထော်ဂူကျောင်းတွင် အရိယာသိမ်
သမုတ်ပြီးနောက် ရိုက်ကူးထားသော ပုံတော်။

လျှာအလိုလဲလိုက်ခဲ့တယ်၊ ခန္ဓာကိုယ်အလိုလဲ လိုက်ခဲ့တယ်၊ အဲသည်လို အလို လိုက်မိတာကြောင့် ငါးပေါက်မှားတာပေါ့၊ ငါးပေါက်မှားတော့ ပဋာစာရီဟာ ငါးပါးမှောက်အောင် သိပ်ပြီး ဒုက္ခရောက်ခဲ့ရသတဲ့၊ ဘယ်လောက်များဒုက္ခရောက်ခဲ့ရသလဲဆိုတော့၊ ပဋာစာရီဟာ သတိတွေ အကုန်လွတ်ပြီး ခါးက အဝတ်ကောင် ကျွတ်လောက်အောင် သွက်သွက်ခါ ရူးလိုက်တာ၊ အဲဒါနှင့်စာလျှင် ဒါယကာကြီး ဒါယိကာမကြီးတို့မှာ အဝတ်လဲ တင့်တင့်တယ်တယ် ဝတ်ပြီး စကားကို ဖြောင့်ဖြောင့် မှန်မှန်တောင် ပြောနိုင်သေးတာဘဲ၊ ပဋာစာရီမှာတော့ ရူးမယ်ဆိုလဲ ရူးလောက်တာပေါ့၊ ကိုဒါသလဲ မြွေကိုက်၍သေ၊ သားငယ်ကိုစွန်ချီ၊သားကြီးကလဲ ရေမျော၍ပါ၊ အိမ်ရောက်လို့ သွားပြန်တော့လဲ မိဘနှင့်မောင် အုတ်တိုက်ပိပြီးသေတယ်ဆိုတော့၊ ခြောက်လောင်းပြိုင် အကုန်သေသူတို့၏ဖြစ်ပုံကို ပြန်လှန်ပြီး စဉ်းစားလို့ကြည့်ပြန်လျှင် ရူးဘို့သာမြင်တော့တာပေါ့။အဲသည်လိုစဉ်းစားလေသမျှ ရူးဘို့ချည်းဘဲ၊ ဒါကြောင့် ပဋာစာရီမှာ စဉ်းစားတိုင်း-စဉ်းစားတိုင်း အရူးတွေဝိုင်းဝိုင်းပြီးလာလိုက်ကြတာ၊ ဗလဗွေရှုပ် အဝတ်တွေစုတ်ပြတ်ပြီး ခါးကိုမှအဝတ်မကပ်နိုင်လောက်အောင် ရူးရ ပေတော့တာပေါ့။ ပဋာစာရီဟာ သူ့ကိုယ်သူပြန်ပြီး ဆုံးမရှာတယ်၊ဟဲ့-အရူးမကလေးရဲ့၊ ဟဲ့-အမိုက်မကလေးရဲ့၊ ဟဲ့-ကံဆိုးမကလေးရဲ့၊ နို့သာကကြိုက်-ပန်းကကြိုက်သန္တ့အမိုက်မနင်ပြုပြင် နင်ခံမင်တဲ့အပျိုချော ယခုဖြင့် ဘေးတွေ့ပါပကောတော။နို့သာမှုန်မှုန် ကညာလုံ ပုဝါလေးကို ခြုံမိလို့ ဘေးတွေ့ပါပကော

တော။ အဲဒီလို ပဋာစာရီဟာ ပါးစပ်က တပြစ်တောက်တောက်နှင့်ပြောပြီး နေမြင့်လေအရူးရင့်လေ ဆိုသလိုပေါ့၊ မစားနိုင် မသောက်နိုင်မအိပ်နိုင် ရူးစဉ်ကျယ်တလယ်လယ်နှင့် ကိုဒါသကိုလဲ မြွေကိုက်၍သေပြီ၊ သားငယ်စွန်ချီ၊ သားကြီးရေမျော၊မိဘနှင့်မောင်ဘွား အုတ်တိုက်ပိ၍ သေကုန်ပြီသေကုန်ပြီ၊ အားလုံးသေကုန်ပြီဟု ပါးစပ်က တတွတ်တွတ်ပြောပြီးတောင်ယိုင်မြောက်ယိုင် တောင်ထိုးမြောက်ထိုးနှင့်ရောက်တတ်ရာရာ လမ်းတကာတို့၌ လှည့်လည်သွားလာပြီးရင်ထဲ နှလုံးထဲ ကွဲမတတ် ဆွေးမတတ် ဒုက္ခရောက်နေရရှာတယ်။

အဲသည်လို ဆင်းရဲဒုက္ခဘယ်လိုပင်ရောက်ရသော်လဲ ကံမြောက်၍ ကော်တာနှင့် ကျောင်းတော်က မြတ်စွာဘုရားကိုယ်တော်မြတ်ကြီးကလဲ ငါသည် ယနေ့ မည်သူ့ကိုချွတ်ရပါမည်နည်းဟု ရွှေဉာဏ်တော်ကွန်ရက်ကို ဖြန့်တဲ့ပြီးကြည့်လိုက်သောအခါ ပဋာစာရီကို မြင်တော်မူသတဲ့၊ ဘယ်လိုမြင်တော်မူပါသလဲ ဆိုတော့….ပဋာစာရီဟာ ရှာမီးကျီးခဲပြာဖုံး၍နေသလိုပါကလား၊ငါဘုရား၏တရားတော်တည်းဟူသော လေနှင့်မှုတ်လွှင့်ရပါလျှင် လွင့်တော့မှာဘဲဟု မြင်တော်မူတယ်၊ အဲသည်လိုမြင်တော်မူတော့မှ မြတ်စွာဘုရားကိုယ်တော်မြတ်ကြီးကတရားပွဲကြီးဆင်ယင်တော်မူတယ်၊ဤတရားပွဲတော်ကြီးသို့ ပဋာစာရီလာရောက်နိုင်စေသတည်း။ ငါ၏တရားတော်ကို နာနိုင်စေသတည်း။ ငါ၏တရားတော်ကို သိနိုင်ပါစေသတည်းဟု အဓိဋ္ဌာန်ပြုပြီးမေတ္တာဓာတ်နှင့်

အုပ်လျက်တရားဟောပလ္လင်ပေါ်မှစောင့်ဆိုင်း၍ နေတော်မူတယ်။ထိုအခါ ပဋာစာရီကလဲ တောင်ယိုင် မြောက်ယိုင် တောင်ထိုး မြောက်ထိုးနှင့် တမြို့လုံးအနှံ့အပြား လျှောက်သွားရင်း ဘုရားရှင် အမိန့်တော်ချက်ကြောင့် တရားဟောမဏ္ဍပ်သို့ရှေးရှုပြီး ရောက်သွားလေရာ တရားဟော မဏ္ဍပ်အနီးအနားတွင် ပညာရှိ ဥပါသကာတယောက်က မြင်တာနှင့်၊ဟဲ့-ကလေးမ ဟဲ့ကလေးမ-နှင့်နှယ်ဟယ်-တယ်ပူရပါကလား သောကမီးတွေ လောင်မြိုက်ပြီး ပူလိုက်ရတာအလွန်ဘဲကိုးဟဲ့၊ ဟောဟိုမှာ မြတ်စွာဘုရား တရားဟောနေတယ် သက်သာရာ သက်သာကြောင်း ရလေအောင်တရားများ နာချေပါလားလို့ ဥပါသကာက ပြောလိုက်တော့ ပဋာစာရီကလဲ ဘုရားသံကြားတာနှင့် သွားချင်စိတ်ဖြစ်ပေါ် ရှေးရှုကာ မြော်ပြီးမှ တရားဟောမဏ္ဍပ်သို့ရောက်အောင်သာ စုန်ခဲ့ပါရောတဲ့။

သည်တော့မှ တရားနာပရိသတ်များကလဲ တရားဟောမဏ္ဍပ်အနားလာတဲ့ ပဋာစာရီကို မြင်တာနှင့် ဟဲ့အရူးမ-အရူးမ-တောင်မှန်းလဲ မသိဘူး မြောက်မှန်းလဲ မသိဘူး၊ အရှေ့မှန်းလဲ မသိဘူး၊ အနောက်မှန်းလဲ မသိဘူး၊ တို့ပရိသတ်ထဲမဝင်ခဲ့နှင့် သွားဟဲ့သွား၊ ကြည့်ပါလား သူတကာနှင့် မတူဘူး၊ ခါးကထမီလဲ မပါဘူး၊ တဘက်လဲ မပါဘူး၊ ခေါင်းကလဲ စုတ်တိစုတ်ဖွားနှင့်ပန်းလဲမပါဘူး၊တို့ပရိသတ်ထဲကို မဝင်ခဲ့နှင့် သွား-သွားလို့ တရားနာပရိသတ်တို့က ဆိုကြတော့ မြတ်စွာဘုရားကိုယ်တော်မြတ်ကြီးကတရားဟော

ပလ္လင်ပေါ်ကနေပြီး… ချစ်သမီး ပဋာစာရီ-ငါဘုရားရှေ့မှောက်သို့ရောက်အောင်လာခဲ့လို့မိန့်တော်မူတော့မှ တရားနာပရိသတ်တွေကလဲ လမ်းကလေးများဖယ်ရှင်းပေးရတာပေါ့။ အဲသည်တော့မှ ပဋာစာရီဟာ မြတ်စွာဘုရား၏ ရှေ့တော်မှောက်သို့ ရောက်လေသတဲ့။

မြတ်စွာဘုရား ရှေ့တော်မှောက် ရောက်သော အခါ အနီးရှိ ဥပါသကာများက အပေါ်ရုံ တဘက်ကလေးများ ခွါပြီး ခါးကိုဝတ်ပေးရသတဲ့။ သည်တော့မှ မြတ်စွာဘုရား ကိုယ်တော်မြတ်ကြီးက …တဲ့-ပဋာစာရီ နင့်နှယ် ပူလိုက်တာ၊ နင့်အတွက်တော့ နင်မပူဘူး၊ သူတကာအတွက်တွေ သာ နင်ပူနေတာကိုး။ ဟဲ့-ချစ်သမီးပဋာစာရီ အိုရလိမ့်အုံးမယ်၊ နာရလိမ့်အုံးမယ်၊ သေရလိမ့်အုံးမယ်ဆိုတဲ့ အိုခြင်း နာခြင်း သေခြင်း မရှိဘူးလားလို့- မြတ်စွာဘုရားက မေးတော့၊ ပဋာစာရီက အိုခြင်း,နာခြင်း,သေခြင်းတရား ရှိပါတယ်ဘုရား၊ ထိုအိုခြင်း,နာခြင်း,သေခြင်းတရား ရှိပါလျှင် မအို,မနာ,မသေတဲ့ တရားကော မရှိဘူးလားလို့မေးတယ်။ ပဋာစာရီက မအို, မနာ, မသေတဲ့ တရားလဲ ရှိပါတယ် ဘုရား။ အိုခြင်း, နာခြင်း, သေခြင်းတရားလဲရှိတယ်၊ မအို, မနာ,မသေတဲ့ တရားလဲရှိတယ်ဆိုလျှင် ထိုအိုခြင်း,နာခြင်း, သေခြင်းတရားကို နင်မကြောက်ဘူးလားလို့ မြတ်စွာဘုရား က မေးတော့၊ ပဋာစာရီက အိုခြင်း, နာခြင်း, သေခြင်း တရားကို ကြောက်ပါတယ်ဘုရား။ အိုခြင်း, နာခြင်း, သေ ခြင်းတရားကို ကြောက်လျှင် မအို,မနာ,မသေတဲ့ တရားကို

ရှာမှပေါ့။ သည်တော့ပဋာစာရီက လျှောက်ထားသည်မှာ အရှင်ဘုရားက အိုခြင်း,နာခြင်း,သေခြင်းတရား ကြောက် လျှင် မအို,မနာ,မသေတဲ့တရားရှာရမယ်လို့ အမိန့်ရှိတယ်၊ တပည့်တော်မ ဘယ်လို ရှာရပါမည်လဲဘုရားလို့ လျှောက် ထားပြန်တော့ မအို, မနာ, မသေတဲ့ တရားကို ရှာချင်ပါ တယ်ဆိုလျှင် သူတပါးကိုလဲမချစ်နှင့်၊ မိမိကိုယ်ကိုလဲ မချစ် နှင့်လို့ အမိန့်ရှိတော့၊ပဋာစာရီက တပည့်တော်မကတော့ ချစ်သေးတယ်ဘုရား–ချစ်သေးတာဘဲ၊ မချစ်ဘဲ ရှိပါ့မလား ဘုရား၊တပည့်တော်မသားကလေးက မျက်လုံးပြူးကလေးနဲ့ မျက်တောင်ကော့ကလေးနဲ့ ပလီပလာ တီတီတာတာ အ လွန် ပြောတတ်တယ်ဘုရား–ပြောတတ်တယ်။ သည်တော့ တပည့်တော်မက ချစ်တာပေါ့ ဘုရား–ချစ်တာပေါ့....ဟု လျှောက်ထားတယ်။

သည်တော့ မြတ်စွာဘုရားက မိန့်တော်မူသည်မှာ နင် ချစ်ချစ်ဆိုတာဟာ မသိလို့ ချစ်တာဟဲ့၊သိလျှင် နင်မချစ်ဘူး၊ အဲဒါကြောင့်–မသိလို့လိုချင်၊ လိုချင်လို့စွဲလမ်း၊စွဲလမ်းတော့ ပြုလုပ်၊ ပြုလုပ်တော့–ရရှိ၊ ရရှိတော့–ခံကြ၊ ခံရလိမ့်မယ်။ မသိတာက အဝိဇ္ဇာလို့ ခေါ်တယ်၊လိုချင်တာက တဏှာ လို့ ခေါ်တယ်၊ စွဲလမ်းတာက ဥပါဒါန်လို့ ခေါ်တယ်။ ပြုလုပ်တာက သင်္ခါရလို့ ခေါ်တယ်၊ ရရှိတာက ဘဝလို့ ခေါ်တယ်၊ အဝိဇ္ဇာနှင့် တဏှာ နှစ်ပင်ပူးလို့ အကြောင်းပြု လိုက်တော့လေ—ဇာတိတရားကြီး ရတာပေါ့....။ အဲဒီ ဇာတိတရား ဝဋ်ကောင်ကြီး ရမှဖြင့် ခံရလိမ့်မယ်၊ မညည်း

နှင့်၊ နင့်ကြည့်ပါလား ရွှာစဉ်ကျယ် တလယ်လယ်နှင့် မစားနိုင် မသောက်နိုင်၊ ရင်ထဲနှလုံးထဲ ကွဲမတတ်, ဆွေးမတတ်, ပွင့်မတတ် နင်ခံရတယ်၊ဘယ့်အတွက် ခံရတယ်၊ ကိုဒါသ ချစ်မိလို့ နင်ခံရတယ်၊ ဘယ်အတွက် ချစ်မိတယ်၊ မသိလို့ ချစ်မိတယ်၊ သိလျှင် နင် မချစ်ဘူးဟာယ်၊ မချစ်လျှင် နင် သည့်လိုခံရမှာ မဟုတ်ဘူးဟာယ်။ နင်ကြည့်ပါလား ရွှာစဉ် ကျယ်တလယ်လယ်နှင့် မစားနိုင် မသောက်နိုင်၊ရင်ထဲနှလုံး ထဲမှာ ကွဲမတတ်, ဆွေးမတတ်, ပွင့်မတတ် နင်ခံရတယ်၊ ဘယ့်အတွက် ခံရတယ်၊ နင့်သားကလေးတွေကို နင်ချစ်မိ လို့ခံရတယ်၊ ဘယ့်အတွက် နင်ချစ်မိတယ်၊ နင်မသိလို့ ချစ် မိတယ်၊ သိလျှင် နင်မချစ်ဘူးဟာယ်၊ မချစ်လျှင် နင်သည့်လို ခံရမှာမဟုတ်ဘူး၊ ဟဲ့-ပဋ္ဌာစာရီ နင် သညာ၏အလိမ်ကို ခံနေရပါပေါ့ကလား၊ ချစ်တယ်ဆိုတာ နင်က-ချစ်ချင်လို့ ချစ်တာမဟုတ်ဘူး၊ သညာက လိမ်ထားလို့ နင်ချစ်နေတာ။ ဘယ်လို လိမ်ထားသလဲ ဆိုပါလျှင်⋯တရားတော်ကြီးက အနိစ္စလို့ဆိုတယ်၊ သညာက နိစ္စလို့ လိမ်ထားတယ်။ တရား တော်ကြီးက ဒုက္ခလို့ဆိုတယ်၊ သညာက သုခလို့လိမ်ထား တယ်။ တရားတော်ကြီးက အနတ္တလို့ဆိုတယ်၊ သညာက အတ္တလို့ လိမ်ထားတယ်။ တရားတော်ကြီးက အသုဘလို့ ဆိုတယ်၊ သညာက သုဘလို့ လိမ်ထားတယ်။ အဲဒါကြောင့် "မြင်တာကိုသညာဖုံးတယ်၊ သညာကိုသက်ာရှင်းမှ သက်ာ ကင်းမယ်၊ မြင်တာကို သညာဖုံးတယ်၊ သညာကို သက်ာ မရှင်းတော့-သက်ာ မကင်းတယ်"။ သညာ၏အလိမ်ကို ခံ နေရလို့ ဒုက္ခရောက်တယ်။ အဲသည်လိမ်ထားတဲ့ သညာကို

သက်ာ ရှင်းလိုက်ပါတော့လားဟဲ့-ဟု မြတ်စွာ ဘုရားက မိန့်တော်မူတော့မှ ပဋာစာရီက သက်ာရှင်းဆိုတာ ဘယ်လိုရှင်းရမှာလဲ ဘုရားဟု ပြန်၍ လျှောက်ထားတော့ မြတ်စွာဘုရားက သတိပဋ္ဌာန် လေးပါးနှင့် ရှင်းရလိမ့်မယ်။ သတိပဋ္ဌာန် လေးပါးကိုရှုတော့ သတိပဋ္ဌာန် လေးပါးက သက်ာရှင်းပေးလိမ့်မယ်၊မိမိ **"ခန္ဓာကိုယ်"** နာသီး၀ ခေါ်တဲ့ ကာယတံခါးကိုထွက်လေဝင်လေဖြစ်ကဲ့ ဖောဋ္ဌဗ္ဗာရုံကတိုး ထိတော့-သိ၊ သိတဲ့အပေါ်မှာ သတိထားပြီး **ခနမှဖြင့်** သတိပဋ္ဌာန်လေးပါး ပြည့်စုံနေပြီ။

ပြည့်စုံပုံကား····ထိမှုကို သတိပြုနေတာက ကာယာနုပဿနာ သတိပဋ္ဌာန်လို့ခေါ်တယ်။ ကောင်း မကောင်း ခံစားမှု သဘောကို သတိပြုနေတာက ဝေဒနာနုပဿနာ သတိပဋ္ဌာန်လို့ခေါ်တယ်၊ ထိမှုသဘောကို သတိပြုနေတာက စိတ္တာနုပဿနာ သတိပဋ္ဌာန်လို့ခေါ်တယ်။ အဘိဇ္ဈာဒေါမနဿကို လျစ်လျူရှုပြီး သူ့သဘောအတိုင်း သူဖြစ်ချင်သလို ဖြစ်နေတာကို သတိပြုနေတာက ဓမ္မာနုပဿနာ သတိပဋ္ဌာန်လို့ခေါ်တယ်။ အဲဒီ သတိပဋ္ဌာန် လေးပါးကို ရှုတော့ ကာယာနုပဿနာ သတိပဋ္ဌာန်က သုဘသညာကို ရှင်းပေးလိမ့်မယ်၊ ဝေဒနာနုပဿနာ သတိပဋ္ဌာန်က သုခသညာကို ရှင်းပေးလိမ့်မယ်၊ စိတ္တာနုပဿနာ သတိပဋ္ဌာန်က နိစ္စ သညာကို ရှင်းပေးလိမ့်မယ်၊ ဓမ္မာနုပဿနာ သတိပဋ္ဌာန်က-အတ္တသညာကို ရှင်းပေးလိမ့်မယ်။ ဟဲ့-ပဋာစာရီ သတိပဋ္ဌာန်လေးပါးကို ရှုလိုက်ပါတော့လား၊ မိမိ၏ခန္ဓာ

ကိုယ်တတွင်းက အပူဓာတ်ကို ရှုလိုက်-ရှုလိုက်လို့ မြတ်စွာဘုရား ကိုယ်တော်မြတ်ကြီးက ခိုင်းတော့ (ပဋာစာရီသည် မြတ်စွာဘုရား ခိုင်းတော်မူသည့်အတိုင်း ရှုလိုက်တော့ မမွှစက်ခွဲပွင့်သွားတော့မှ) ပဋာစာရီက လျှောက်ထားတယ်။ တပည့်တော်မ သိပြီဘုရား သိပြီ၊ မြင်လို့ သိပါတယ်ဘုရား။ ဟောဟိုပရိသတ်ထဲက လူတွေက ဆိုကြတယ်ဘုရား-ဆိုကြတယ်။ဟဲ့-အရူးမ-အရူးမ၊ တောင်မှန်းလဲ မသိဘူး မြောက်မှန်းလဲ မသိဘူး၊ အရှေ့မှန်းလဲ မသိဘူး၊ အနောက်မှန်းလဲ မသိဘူး၊ တို့ပရိသတ်ထဲ မဝင်ခဲ့နဲ့ သွား-သွားလို့ ဆိုကြတယ်ဘုရား- ဆိုကြတယ်၊ ကြည့်ပါလား သူတကာနဲ့လဲ မတူဘူးတဲ့၊ ခါးက ထမိလဲမပါဘူး, တဘက်လဲ မပါဘူး၊ ခေါင်းကလဲ စုတ်တိစုတ်ဖွားနှင့် ပန်းလဲ မပါဘူးတဲ့၊တို့ပရိသတ်ထဲ မဝင်ခဲ့နဲ့ သွား-သွားလို့ဆိုကြတယ်ဘုရား၊ တပည့်တော်မသိပြီဘုရား၊ သူတို့မသိသေးဘူး၊ တပည့်တော်မသိပြီဘုရား သိပြီ၊ တပည့်တော်မမှာ ထမိလဲပါပါ့၊ တဘက်လဲပါပါ့၊ ပန်းလဲပါပါ့၊ သိလဲ ပါပြီဘုရား၊ သူတို့မသိကြသေးဘူးဘုရား၊ မသိကြသေးဘူးဘုရား။ အရှင်ဘုရားက မြင်တာကို သညာဖုံးထားတာ၊ သညာကို သက်ာရှင်းလိုက်လို့ ဆိုတာနှင့် သညာကို သက်ာ ရှင်းလိုက်တာ သက်ာကင်းသွားပြီဘုရား-သက်ာ ကင်းသွားပြီ၊ သိသွားတာပေါ့ဘုရား၊သိသွားတာပေါ့ဟု မြတ်စွာဘုရားကို လျှောက်ထားတော့····

မြတ်စွာ ဘုရား ကိုယ်တော်မြတ်ကြီးကလဲ ကိုယ်တော်တိုင်သိတော်မူသော်လဲ ပရိသတ်အများတို့အား သိစေခြင်း

အကျိုး၄ခု မေးတော်မူသတဲ့။ ဟဲ့-ပဋာစာရီ နှင် ငါဘုရား ကို သိပြီ-သိပြီနှင့် ပြောက်နေတာ နှင်ဘာကို သိလိုတုံးဟု မေးတော်မူတော့၊ပဋာစာရီက တပည့်တော်မ အိုရလိမ့်အုံး မယ်၊ နာရလိမ့်အုံးမယ်၊ သေရလိမ့်အုံးမယ်ဆိုတဲ့ အိုခြင်း, နာခြင်း, သေခြင်းတရားကိုလဲ သိပါပြီဘုရား။ ဝိဇ္ဇာဉာဏ် အတိုင်း ဖြစ်သော သညာ(၆)ပါးကိုလဲ သိပါပြီဘုရား၊ "နိစ္စ သညာ ပျောက်ပြီး အနိစ္စသညာ ရောက်ခြင်း တပါးပါ ဘုရား" "သုခသညာ ပျောက်ပြီး ဒုက္ခသညာ ရောက်ခြင်း တပါးပါ ဘုရား" "အတ္တသညာပျောက်ပြီး အနတ္တသညာ ရောက်ခြင်း တပါးပါ ဘုရား" "ပယ်တတ်သော တရား သိခြင်း တပါးပါ ဘုရား" "ပယ်အပ်သော တရား သိခြင်း တပါးပါဘုရား" "ပြတ်သော တရား သိခြင်း တပါးပါ ဘုရား"။"ပယ်တတ်သောတရားက မဂ်ပါဘုရား။ ပယ်အပ် သောတရားက သမုဒယပါဘုရား။ ပြတ်သော တရားက နိရောဓပါဘုရား"။ဟဲ့-ပဋာစာရီ နှင်ထမိလဲပါပါ့။တဘက် လဲပါပါ့။ ပန်းလဲပါပါ့-လို့ ပြောတယ်မဟုတ်လား။ ပြော ပါတယ်ဘုရား။ နှင်ဘယ်ကထမိရသလဲလို့မြတ်စွာဘုရားက မေးတော်မူတော့ ပဋာစာရီက ပြောက်ထားသည်မှာ.... ရှေးအထက်ကျော် ကာရီက ပဒုမုတ္တရ မြတ်စွာဘုရား ကိုယ် တော်မြတ်ကြီးက ငါ၏သမီးတော်, ရှင်ကြီးဂေါတမသာသ နာတော်ကျတော့ ငါးပါးသီလတည်းဟူသောထမိမြဲစေလို့ မိန့်ခွန်းတော် ချွေလိုက်ပါတယ် ဘုရား။ တပည့်တော်မမှာ ငါးပါးသီလ တည်းဟူသော ထမိမြဲပါပြီဘုရား၊ တဘက် ကတော့ ပြောစမ်းပါအုံး။ ရှေးအထက်ကျော် ကာရီက

ပဒုမုတ္တရမြတ်စွာဘုရား ကိုယ်တော်မြတ်ကြီးက ငါ၏သမီးတော် ရှင်ကြီးဂေါတမ သာသနာတော်ကျတော့ ရှစ်ပါးသီလတည်းဟူသော တဘက်ခြုံစေလို့ မိန့်ခွန်းတော် ခြွေလိုက်ပါတယ် ဘုရား၊ တပည့်တော်မမှာ ရှစ်ပါး သီလတည်းဟူသော တဘက် ခြုံရပါပြီဘုရား၊ သူတို့တဘက်က စိန်စီ,မြစီ,ကျောက်စီဆိုတော့ လုယူမှာ စိုးရတယ်၊ ဖွပ်ရတယ်၊ လျှော်ရတယ်၊ တပည့်တော်မ တဘက်က မဖွပ်ရ မလျှော်ရ၊ လုယူမှာလဲ မစိုးရိမ်ရ၊ အလွန်အေးတယ်၊အလွန်မြတယ်၊ အလွန် ချမ်းသာတယ် ဘုရား။ ပန်းကတော့ကော ပြောစမ်းပါအုံး၊ ပန်းမှ သုံးခိုင်ပါဘုရား–သုံးခိုင်ပါဘုရား၊ ရှေးအထက်ကျော် ကာရီက ပဒုမုတ္တရ မြတ်စွာဘုရား ကိုယ်တော်မြတ်ကြီးက ငါ၏သမီးတော် ရှင်ကြီးဂေါတမသာသနာတော်ကျတော့ ပန်းသုံးခိုင် ပန်စေလို့–မိန့်ခွန်းတော် ခြွေလိုက်ပါတယ်ဘုရား။ တပည့်တော်မသည် ဘုရားကိုလဲယုံကြည်ပါတယ်၊ တရားကိုလဲယုံကြည်ပါတယ်။ သံဃာကိုလဲယုံကြည်ပါတယ်။ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊ ဓမ္မံ သရဏံ ဂစ္ဆာမိ၊ သံဃံ သရဏံ ဂစ္ဆာမိ–ဆိုတဲ့ ပန်းသုံးခိုင်မြဲပါပြီဘုရား၊ ဟဲ့–ပဋာစာရီ ဒီလောက်နဲ့အားမကိုးလောက်သေးဘူး၊ ရှေ့ကိုအားခဲလိုက်အုံး–အားခဲလိုက်အုံးဟုမြတ်စွာဘုရားက အားပေးလိုက်ပြန်တယ်၊ အဲသည်လို အားပေးလိုက်တော့ တဖန်ထပ်မံပြီး ပဋာစာရီ အားထုတ် လိုက်တာ အစဉ်အတိုင်း အရဟတ္တမဂ် အရဟတ္တဖိုလ်သို့ ရောက်သွားပါရောတဲ့။

အဲသည်လို အရဟတ္တမဂ် အရဟတ္တဖိုလ်သို့ ရောက်သွားတော့ (၁) မြင်တတ်သော တရား, မြင်အပ်သော တရား။

(၂) သိတတ်သောတရား, သိအပ်သောတရား။ (၃) ပယ်တတ်သောတရား, ပယ်အပ်သော တရား။ (၄) ပြတ်သော တရားတို့ကို အကုန်အစင် သိတာပေါ့။ မြင်တတ်သော တရားက ဓမ္မစက္ခု၊ မြင်အပ်သောတရားက သစ္စာလေးပါး၊ သိတတ်သောတရားက ဉာဏ်၊ သိအပ်သောတရားက သစ္စာလေးပါး၊ ပယ်တတ်သော တရားက မဂ်၊ ပယ်အပ်သော တရားက သမုဒယ၊ ပြတ်သော တရားက နိရောဓ။ အဲ-ဤကဲ့သို့ ပဋ္ဌာစာရီမှာ....မြင်လို့ သိတယ်၊ သိလို့ မလိုချင်၊ မလိုချင်လို့ မစွဲလမ်း၊ မစွဲလမ်းလို့ မပြုလုပ်၊ မပြုလုပ်လို့ မရ၊ မရလို့ ငြိမ်းတာပေါ့။ အဲ-သူသူ ငါငါ မသိတော့လိုချင်တယ်၊ လိုချင်တော့ စွဲလမ်းတယ်၊ စွဲလမ်းတော့ ပြုလုပ်တယ်၊ ပြုလုပ်တော့ ရတယ်။ ရတော့ ခံကြပေတော့ လက္ခယ်....ပေါ့ဟု ဟောကြား ဆုံးမတော်မူသတည်း။

---

## သားသမက်နှောင့်ရှက် မိဘခက်, ချွေးမငြူစူ မိဘပူ တရားတော်

တို့ ဂေါတမ မြတ်စွာဘုရား သက်တော်ထင်ရှား ရှိစဉ်အခါတုန်းက သာဝတ္ထိပြည်ကြီးမှာ ပစ္စည်းဥစ္စာ ပေါကြွယ်ဝပြီး မကောင်းခြင်းငါးဖြာ မိန်းမမြတ်တို့ လက္ခဏာနဲ့ ပြည့်စုံတဲ့ သူဌေးသမီးကလေး **သောဏာ** ဆိုတာရှိတယ်၊ အချိန်တန်လို့ အရွယ်ရောက်တော့ မိဘတို့ ဝတ္တရားရှိတဲ့အတိုင်း အမျိုးတူဂုဏ်တူ သူဌေးသားတယောက်နဲ့ ထိမ်းမြားမင်္ဂလာ

ပြုပေးလိုက်သတဲ့။အဲဒီလို ထိမ်းမြားမင်္ဂလာပြုပေးပြီးနောက် သောဏာတို့ ဇနီးမောင်နှံဟာ ပစ္စည်းကလဲပေါ ရုပ်ရည်ကလဲချောဆိုတော့ ငယ်ရွယ်သူတို့ မွေ့တာအတိုင်း မော်လို့မဆုံး ပျော်တပြုံးပြုံးနဲ့ပေါ့လေ - ရတနာသုံးပါးကိုတောင် သတိမရနိုင်ကြရှာဘူး။

အဲဒီလို ပျော်ပျော်ပါးပါးကြီး နေလာလိုက်ကြတာ နှစ်ကာလ အတော်ကြာသွားတော့ သောဏာတို့ဇနီးမောင်နှံမှာသား ၁၀-ယောက်ထွန်းကားပေါ်ပေါက်လာသတဲ့၊တနေ့တော့သောဏာရဲ့ခင်ပွန်းသူဌေးကြီးဟာ မြတ်စွာဘုရားကျောင်းတော်သွားပြီး တရားနာရင်း သံဝေဂစိတ် တရားနိမိတ်တွေ ထင်မြင်လာတာနဲ့ သံသရာမှ လွတ်မြောက်လိုသောဆန္ဒ ကြီးမားသည်နှင့် ဘုရားရှင်ထံ ရဟန်းပြုရန် ခွင့်တောင်းသတဲ့။ မြတ်စွာဘုရားကလဲ သူဌေးကြီး၏ ရှေ့ပါရမီဆုတောင်းကို သိတော်မူပြီး ဖြစ်တဲ့အတိုင်း ရဟန်းပြုခွင့်ပေးလိုက်တာနဲ့တပြိုင်နက် သူဌေးကြီးဟာ ဝမ်းသာအားရနဲ့ အိမ်က သူဌေးကတော်ကြီးကို အခွင့်ပန်ဘို့ မဆိုထားနဲ့ အသိတောင်မပေးဘဲ တခါထဲကျောင်းတော်မှာ ရဟန်းပြုသွားသတဲ့။ဒါယကာကြီးတို့ ဒီအတိုင်းစွန့်နိုင်ကြပါ့မလား။

အဲဒီလိုသူဌေးကြီးရဟန်းပြုသွားတဲ့အကြောင်းကိုသူဌေးကတော်ကြီးရှင်သောဏာကြားရတော့ ပိုးကြွေးပူဆွေးရင်းဟိုယခင်တုန်းကတော့ တသက်လုံး မပစ်ပါဘူးလို့ ပြောခဲ့တဲ့ ဒီလူကြီးရဲ့စကားတွေဟာ မှန်သေးရဲ့လား၊ လူလိမ်ကြီးဖြစ်နေပါပေါ့လား၊ခုတော့ရုပ်သဏ္ဍာန်ယိုယွင်းလို့ မုန်းရှာ

လေရော့သလား၊ဒီကမျက်နှာကို မထောက်သော်လဲ သား လူမမယ် ၁၀-ယောက်ရဲ့မျက်နှာကိုတော့ ထောက်ထားဘို့ကောင်းပါသေးတယ် လူစိမ်းကားကြီးရယ်---လို့ တပြစ်တောက်တောက် ပြောဆို ငိုကြွေးကာ မစားနိုင်-မအိပ်နိုင် တမှိုင်မှိုင် တတွေတွေနဲ့ ပူပင်သောက ဒုက္ခတွေရောက်နေတာပေါ့။

အဲဒီလိုနေရင်းက သူဌေးကတော်ကြီးဟာ သူ့ကိုယ်သူ အပြစ်တင်ပြီး ဖြေရှာရသတဲ့၊ ဘယ်လို အပြစ်တင် ဖြေရသလဲလို့ မေးတယ် ဆိုပါတော့၊ "ဟဲ့-သောဏာ နင့်ကို မချစ်လို့ပစ်သွားတာ နင်က ဘာပြုလို့ ပူဆွေးနေရသတုံး၊ သူကကိုယ့်ကိုကြည့်တော့ ကိုယ်ကလဲသူ့ကိုကြည့်ရတာပေါ့ သူကကိုယ့်ကိုကျောခိုင်းတော့ ကိုယ်ကလဲ သူ့ကိုကျောခိုင်းရုံရှိတာပေါ့"လို့ သူ့ကိုယ်သူ အားပေးပြီး သားလူမမယ် ၁၀-ယောက် လူလားမြောက်သည့်တိုင် ဇာနေ္တမပျက် နေသွားရှာသတဲ့။

သား ၁၀-ယောက် လူလားမြောက်တဲ့ အခါကျတော့ သူဌေးကတော်ကြီး သောဏာရဲ့အသက်ကလဲ ၆၀-ကျော်ရှိသွားတော့ အရွယ်က ဆုံးမတယ်ဆိုတဲ့ စကားအရ သတိသံဝေဂတရား ရသတဲ့၊ ဘယ်လို သတိသံဝေဂတရား ရသလဲလို့ မေးတယ်ဆိုပါပေါ့၊ "အင်း-ငါ့သားကလေး ၁၀-ယောက်ဟာလဲ လူလားမြောက်လိုလာကြပေပြီ၊ သူတို့စွမ်းရည်သတ္တိနဲ့လဲ လုပ်ကိုင်ရှာဖွေ စားသောက်နိုင်ကြပြီ၊ဒီဥစ္စာ

ဒီပစ္စည်းတွေကို ထိန်းသိမ်းစောင့်ရှောက်ရတဲ့ တာဝန်ကလဲ လေးလှပြီ၊ ဒီတော့ ငါ့မှာ ရှိတဲ့ ဥစ္စာပစ္စည်းတွေကို ညီတူ ညီမျှ ခွဲဝေပေးကမ်းပြီး ရတနာသုံးပါး၏ ဂုဏ်တော်ကို နိုလှုံ့ ဆည်းကပ်ရရင် ကောင်းမှာဘဲ" လို့ အကြံဖြစ်တာနဲ့ သား ၁၀-ယောက်ကို တိုင်ပင်ကာ နေရာချထားပြီး ရှိသမျှ ဥစ္စာပစ္စည်းတွေကို အညီအမျှ ခွဲဝေပေးလိုက်သတဲ့။

အဲဒီလို အမွေခွဲဝေပေးပြီးတော့-သား ၁၀-ယောက်ကိုပြောတယ်။ ဘယ်လိုပြောသလဲလို့မေးတယ် ဆိုပါတော့၊ "လူကလေးတို့....မောင်တို့အမေဟာ မောင်တို့ ဖခင်ကြီး ပစ်သွားကထဲက မောင်တို့တတွေ လူလား မြောက်အောင် စောင့်ရှောက် ကျွေးမွေးလာခဲ့တယ်၊ မောင်တို့ တတွေလဲ လူလားမြောက်လာကြပါပြီ၊ အမေ့မှာလဲအသက်အရွယ်က ကြီးပြီမို့ ဘုရားဂုဏ်, တရားဂုဏ်, သံဃာဂုဏ်တို့ကို နိုလှုံ့ပြီး အေးအေး နေချင်တော့တယ်၊ ရှိသမျှ ဥစ္စာပစ္စည်းတွေကိုလဲ မောင်တို့ကို ခွဲဝေလို့ပေးပြီးပါပြီ၊ ခုနေအခါ မောင်တို့တတွေ သဒ္ဓါလို့ကျွေးမှ စားသောက်ရမဲ့ ဘဝမျိုးရောက်နေပါပြီ၊ အမေ မသေခင် ထမင်းတလုပ် ဖြောင့်ဖြောင့် စားပြီး အေးအေး နေသွားပါရစေ သားတို့ရယ်"လို့ပြောကြားသတဲ့။

အဲဒီတော့ သား ၁၀-ယောက်က "အမေရယ် စိုးရိမ်ကြောင့်ကြပြီး ပူပန်မနေပါနဲ့-အမေ့သားတွေမမိုက်ပါဘူး၊ လိမ္မာပါတယ်၊ အမေ့ ကျေးဇူးဟာ ဆပ်လို့မကုန်အောင်

များပြားပါတယ်၊ လောကမှာ အမိအဖကို လုပ်ကျွေးပြုစုရ တာအင်မတန်မှမွန်မြတ်လှပါတယ်၊အမေခွဲဝေပေးထားတဲ့ ဥစ္စာပစ္စည်းနဲ့ အမေ့ကိုပြန်ပြီးပြုစုရတာ ဘာမျှဝန်လေးစရာ မရှိပါဘူး၊ ကျွန်တော်တို့တတွေက တလှဲစီ လုပ်ကျွေးပြုစု ပါ့မယ်၊ ဝတ္တရား မပျက်ကွက်စေရပါဘူး၊ အလိုရှိတာကို သာ အမေကပြောပါ"လို့အကြိမ်ကြိမ် အနူးအညွတ် ဝန်ခံ စကား ပြောကြားကြသတဲ့။ အဲဒီလို သားတွေကအမျိုးမျိုး ဝန်ခံကတိ ပြုကြတာကို သူဌေးကတော်ကြီးက အားရဝမ်း သာနဲ့ ဒါမှ အမေ့သား-ဒါမှ အမေ့သားဟု ချီးကျူးရင်း မွေးကျေးဇူးနုပ်ပါပေရဲ့၊ မောင်မင်းကြီးသားတွေ လိမ္မာကြ ပါပေရဲ့၊လက်ကသုံးတောင်ဖွေး၁၀-ချောင်းကဲ့သို့ထောက် ပံ့ဘော် ရကြပါပေတယ်၊ ကျန်းမာ ချမ်းသာ ကြပါစေ၊ ပစ္စည်းဥစ္စာစည်းစိမ်အမျိုးမျိုး တိုးတက်ကြပါစေ၊ အသက် ရာကျော်ရှည်ပါစေ၊ ဒီမယား ဒီသားနဲ့ အိုအောင် မင်း အောင် ပေါင်းရပါစေလို့ ဆုတောင်းပတ္ထနာ ပြုလိုက်ရှာ သတဲ့။

ဒါနဲ့ ရှေးဦးစွာ သားကြီးအိမ်ကစပြီးနေတာပေါ့၊ ပဌမ တော့ ကြည်ကြည်ဖြူဖြူ ဝတ္တရားမပျက်ပြုစုကြသတဲ့၊ ၁၀-ရက် ၁၅-ရက်လောက် ကြာလာတော့ တစတစ မရိုမသေလုပ် လာတဲ့ပြင် ချွေးမလုပ်သူကအဖွားကြီးကို တောက်တိုမယ်ရ တွေခိုင်းလာရောတဲ့၊ နောက်တော့ ဝတ္တရားပျက်သည်ထက် ပျက်လာပြီး၊ စူစူဆောင့်ဆောင့်နဲ့"အဖွားကြီး ဒီပြင် သား တွေအိမ် တလှဲ့ သွားနေပါအုံးလား"လို့ပြောသတဲ့။ဒီတော့

သူဌေးကတော်ကြီးက "အို-ဒင်းမသဒ္ဒါလို့ မနေစေ့ချင်ရင် သွားမှာပေါ့၊ ငါ့မှာ ဒီပြင်သားတွေရှိသားဘဲ"ဆိုပြီး သား အလတ်အိမ်ပြောင်းနေပြန်တယ်၊ သားလတ်အိမ်ကျတော့ လဲ ဒီပုတ်ထဲက ဒီ႒ဘဲဆိုတာလို ပဌမသား ကြည်ကြည်ဖြူဖြူနဲ့ ပြုစုတယ်၊ ရက်ကြာတော့ မယားစကား နားဝင်ပြီး သား လုပ်သူပါ ငြူစူလာတာနဲ့ တအိမ်ပြောင်းရပြန်သတဲ့။

ဒါနဲ့ဘဲ တအိမ်မကောင်း တအိမ်ပြောင်း ဆိုတာလို ပြောင်းပြောင်းနေသွားလိုက်တာ နောက်ဆုံး သားအငယ် ဆုံးအိမ် ရောက်သွားပါရောတဲ့၊ သားအငယ်အိမ် ရောက် တော့မှ သာ၍ပင်ဆိုးတော့သတဲ့၊ ဘယ်လိုဆိုးသလဲလို့ မေး တယ်ဆိုပါတော့၊ "ခင်ဗျားကြီး လာနေတာ အိမ်ဆူတယ် ပူတယ်၊ ချွေးမတွေမကောင်းဘူး, သားတွေမကောင်းဘူးနဲ့ ပြောပြောနေတယ်၊ အများနဲ့မတဲ့တာ ဘယ်သူကဆိုးလို့ တုံး၊ခင်ဗျားကြီး တခြားအိမ် မြန်မြန် ပြောင်းသွားပါဗျာ" လို့ ပြောပြန်ရောတဲ့။

သူဌေးကတော်ကြီးမှာအဲဒီတော့မှသာ၍ပင်ဒုက္ခရောက် တော့တာပေါ့၊ ပြောင်းနေစရာ အိမ်ကလဲ မရှိတော့ဘူး၊ ပိုက်ဆံ ကြေးငွေဆိုတာလဲ တပြားတချပ်မှ မရှိတော့ဘူး၊ အိုကြီးအိုမကျမှ ဒုက္ခအမျိုးမျိုးနဲ့ တွေ့ကြုံရှာတယ်၊ ဩော် ငါ့မှာ လင်ကလဲပစ်သွား၊ သားတွေကလဲ မကြည်ဖြူ၊ ခိုကိုး စရာကလဲမရှိ၊ သားသမီးများက မျက်စောင်း တထိုးထိုးနဲ့ ကျွေးမွေးတာကို စားရတဲ့ဘဝ ရောက်နေပါပေါ့ကလား၊

"သား သမီးများရဲ့ မသဒ္ဒါရေစာကို လက်ခံ စားနေရခြင်းထက် သေသွားတာက ကောင်းသေးတယ်" လို့ တွေးတောရင်း "အားကိုးမှားတဲ့ ကံဆိုးမကြီးရဲ့၊ အမိုက်မကြီးရဲ့-ဒုက္ခတွေ ဗလဗွေနဲ့ ကောင်းကောင်းကြီး တွေ့ပါပကောတော" လို့ သူ့ကိုယ်သူ အပြစ်တင်ပြောဆိုပြီး ရှိုက်ကြီးတငင်ငိုယိုကာ "ဩော်-သားသမက် နှောင့်ရှက်-မိဘခက်၊ ချွေးမပြုစု မိဘပူဆိုတာ ငါ့အမေ ဖြစ်နေပါပေါ့ကလား" လို့ တတွတ်တွတ် မြည်တန်းလျှက် ရင်ထဲနှလုံးထဲ ကွဲမတတ် ဆွေးမတတ် ပူဆွေးဒုက္ခရောက်နေရှာတယ်၊ အဲဒီလိုပူဆွေးဒုက္ခရောက်နေရာမှ ကံမြှောက်၍ကော်တာနဲ့ နောက် အကြံပေါ်လာပြန်တယ်။ ဘယ်လို နောက်အကြံ ပေါ်လာပြန်သလဲလို့ မေးတယ် ဆိုပါတော့၊ ငါ့သားများက ငါ့ကို ကောင်းစွာမပြုစုမကျွေးမွေးကြလို့ အသက်ကိုချွေပြီး သေရခြင်းဟာလဲ ကောင်းသောသေခြင်း မဟုတ်သေးဘူး၊ ယခုအခါ မိုးနိုအားကိုးစရာအစစ်ဖြစ်တဲ့ ဂေါတမမြတ်စွာဘုရားထင်ရှား ရှိသေးသားဘဲ။ သားတို့ရဲ့ဖခင် ကျေးဇူးရှင်ကြီးလဲ ယခုတိုင် မြတ်စွာဘုရားထံ ဆည်းကပ် ခိုလှုံနေတယ်၊ ငါလဲဘဲ သူသွားတဲ့လမ်းစဉ်အတိုင်း မဆိုင်းမတွ လိုက်လေမှဘဲလို့ အကြံရတာနဲ့ ဘိက္ခုနီမကျောင်းသို့သွားပြီး ရဟန်းပြုသတဲ့။

ဘိက္ခုနီမဖြစ်ပြန်တော့လဲအိုမင်းမစွမ်းတောထွက်ရဟန်းမကြီးရယ်လို့ ငယ်ရွယ် ဘိက္ခုနီမတွေက ရိုသေခံ့ညားခြင်း မရှိကြဘူး၊ အဝတ်လျှော်ခိုင်း ရေခပ်ခိုင်း ရေနွေးကျိုခိုင်းကြတဲ့

အပြင် အနင်းအနှိပ်ပါမကျန်ပိုင်းပိုင်း[illegible]ကြီးသေးသတဲ့၊ အချို့ဘိက္ခုနီမတွေကတော့ သူတို့က ပ[illegible]ကယ်လို့ ပြော ပြီး သူတို့ကို ရှိခိုးခိုင်း ဘုရားထူးခိုင်းနဲ့ တ[illegible]ထိုင်းခနကြ ပြန်တယ်။ ဘိက္ခုနီမကြီး သောဏာကလဲ [illegible]ပြီးသမျှအလုပ် တာဝန်ဟူသမျှကို ကျေပြွန်အောင် လုပ်ကိုင်ပေးရှာသတဲ့။

ဘိက္ခုနီမများနဲ့တရားနာရပြန်ပါတော့လဲ အစွန်အဖျား ကနေပြီး ခပ်ကုပ်ကုပ်နဲ့ နာရရှာသတဲ့၊ အသက် အရွယ် ကြီးတော့ နားလေးတာနဲ့ ကောင်းကောင်း မကြားရလို့ ရွှေနားတိုးပြီး တရားနာရင် ဘိက္ခုနီမများက ဒီအမယ်ကြီး တယ်-လူရာဝင်ချင်သကိုးလို့-မျက်စောင်း ထိုးကြတာနဲ့ နောက်ပြန်ဆုတ်ပြီး ခပ်ကုပ်ကုပ်ကလေးဘဲ တရားနာရရှာ သတဲ့။

ဒါနဲ့ တနေ့တော့ မြို့ထဲက တကျောင်းလုံး ဆွမ်းစားပင့် တာနဲ့ ဘိက္ခုနီမတွေက အမယ်ကြီး ရှင်သောဏာကို ခေါ် ပြီး ပြောကြသတဲ့၊ ဘယ်လို ပြောကြသလဲလို့ မေးဟယ်ဆို ပါတော့၊ အမယ်ကြီး-အမယ်ကြီး၊ ကျုပ်တို့မြို့ထဲ ဆွမ်းစား သွားကြမယ်လို့၊ အမယ်ကြီး မျက်စိကလဲမှုန်း၊ နားကလဲထိုင်း၊ ခါးကလဲကိုင်းသနဲ့ ကျုပ်တို့နဲ့ မလိုက်ခဲ့နဲ့ ကျောင်းစောင့် နေရစ်ခဲ့၊ ကျုပ်တို့ပြန်လာရင် အဆင်သင့် ရေချိုးရအောင် ရေခပ်ထားနှင့်ပါ-ရေနွေးလဲ ကျိုထားနှင့်ပါလို့ ခိုင်းစေပြီး တကျောင်းလုံး ဆွမ်းစားသွားကြသတဲ့။

ဘိက္ခုနီမကြီးသောဏာမှာ ခိုင်းထားခဲ့တဲ့အတိုင်းရေခပ် ရတာပေါ့၊ ရေခပ်တော့ ရေတွင်းကလဲနက် ရေအိုးကလဲ

ကြီးတော့ လွှန်စွာမှ ပင်ပန်း ဆင်းရဲတာနဲ့ "ဪ-တပူ ထက်နှစ်ပူ၊ ရေတ်ဆုံလှူခဲ့ဘူးလေရော့သလား၊ ထူးတဲ့အပူ" လို့ ညည်းညူပြီး ရေအိုးကြီးမနိုင်တနိုင် တုန်တုန်ရီရီနဲ့ သယ် ရင်း ရေချိုးအိမ်ထဲမှာ ဗိုင်းကနဲ လဲကျသွားသတဲ့။ အဲဒီလို လဲကြလို့ မိမိခန္ဓာကိုယ်ပေါ်မှာ ဖြစ်ပေါ်လာတဲ့ ဝေဒနာ ကို ထက်သန်သော ဝီရိယဖြင့် ရှုးစိုက်ခါ သတိကပ်ပြီး ရှုသတဲ့။

အဲဒီလို ခန္ဓာကိုယ်ပေါ်မှာ ဝေဒနာကို သတိကြပ်ကြပ် ကပ်ပြီး ရှုသွားတော့ သမာဓိအရှိန် ကောင်းလာသည်နှင့် ဥဒယဗ္ဗယဉာဏ်အမြင်သန်လာပြီးဝေဒနာသညာမှ ဝေဒနာ ပညာဖြစ်ကာ စိတ်-စေတသိက်-ရုပ် တို့၏ ဖြစ်ပျက်မှုတို့ကို ဝိုင်ဝိုင်နိုင်နိုင်ကြီးသိမြင်ပြီးတဲ့နောက် သောတာပတ္တိမဂ်အစ အရဟတ္တမဂ်အဆုံး ရှေးကဆုတောင်း ပါရမီအတိုင်း ဈာန် ပါဒ်ဂုဏ်နဲ့ ပြည့်စုံတဲ့ ရဟန္တာမ ဖြစ်သွားသတဲ့။ အဲဒီလို ရဟန္တာမ ဖြစ်သွားတော့ ဖလ သမာပတ် ဝင်စားနေတာ နဲ့-ဘိက္ခုနီမတွေ ခိုင်းစေထားတဲ့ ရေချွေးကျိုခြင်း အမှုကို မပြုမိဘဲ ဖြစ်နေတာပေါ့။

မကြာမီ ဘိက္ခုနီမတွေကျောင်းပြန်ရောက်လာကြတော့ တောထွက် အမယ်အိုကြီးကို ရှတ်တရက် ရှာမတွေ့တာနဲ့ ဟိုဟိုဒီဒီလိုက်လံရှာဖွေကြတဲ့အခါ ရေချိုးအိမ်ထဲမှာ လဲနေ တာကို သွားတွေ့ကြသတဲ့။ ဒီတော့ ပုထုဇဉ် ဘိက္ခုနီမတွေ က မေးတငေါ့ငေါ့ လက်ညှိုး တငေါက်ငေါက် ထိုးပြီး "ကြည့်စမ်း ကြည့်စမ်း-ဒီအမယ်ကြီးဟာ အရာရာတိုင်းမှာ

ခိုချင်ကပ်ချင်တယ်၊ ဘာမှ မလုပ်ချင်ဘူး၊ ကယ်မနေရာမျိုးမှ အချိုးကျတယ်မရှိဘူး၊ခုလဲရေနွေးကျိုထားပါလို့ မှာခဲ့သား နဲ့ ရေချိုးအိမ်ထဲမှာ လာအိပ်နေတယ်၊ ဘယ်မှာလဲရေနွေး” လို့ စိတ်ဆိုးမာန်ဆိုးနဲ့ မေးမြန်းကြသတဲ့။ဒီတော့ သောဏာ ထေရီ ဘိက္ခုနီမကြီးက “အေး–အေး ကျိုပေးပါ့မယ်၊ ကျို ပေးပါ့မယ်”လို့ချိုသာစွာပြောကြားပြီး တေဇောကသိုဏ်း ဝင်စားလျက်၊ ဒီရေချိုးအိမ်ထဲမှာရှိတဲ့ ရေအိုးထဲကရေတွေ အကုန်လုံး ပွက်ပွက်ဆူဝေကြစေလို့ အဓိဋ္ဌာန်ပြုလိုက်သတဲ့၊ အဲဒီလို အဓိဋ္ဌာန်ပြုလိုက်တာနဲ့တပြိုင်နက် ရေအိုးတွေထဲက ရေတွေဟာ ရုတ်တရက် ဆူပွက်လာကြသတဲ့။

အဲဒီလို ရေတွေချက်ခြင်း ဆူပွက်လာကြတာကို မြင်ရတဲ့ ပုထုဇဉ် ဘိက္ခုနီမတွေဟာ ထိတ်လန့် တုန်လှုပ်ကုန်ကြပြီး၊ ဒီအမယ်ကြီးဟာ စုန်းမကြီးဘဲ၊ စုန်းမကြီးကြောင့် ရေတွေ ဆူပွက်ကုန်ပြီလာကြပါကြည့်လှဲကြပါလို့ထိတ်လန့်တကြား အော်ဟစ် ကြသတဲ့၊ အဲဒီလို ဘိက္ခုနီမတွေရဲ့ အထိတ် တလန့်အော်ဟစ်သံကို ကျောင်းပေါ်ကဘိက္ခုနီဆရာမကြီး တွေကြားရတော့ ကျောင်းအောက်ဆင်းလာကြပြီး ရေချိုး အိမ်ထဲကို သွားကြည့်ကြသတဲ့၊သွားကြည့်ကြတော့ အမယ် အို ဘိက္ခုနီမကြီး သောဏာဟာ ရဟန်းကိစ္စ ပြီးမြောက် သွားကြောင်းကို ကောင်းစွာ သိရှိကြရသည်နှင့် သောဏာ ထေရီ ဘိက္ခုနီမကြီးနဲ့ ကျောင်းရှိ ဘိက္ခုနီမအပေါင်းတို့ကို ခေါ်ဆောင်ကာ မြတ်စွာဘုရား ရှေ့တော်မှောက်သို့ သွား ရောက်ပြီး လျှောက်ထားကြသတဲ့။

မြတ်စွာဘုရား ကိုယ်တော်မြတ်ကြီးက ပရိသတ်အလယ်မှာ တင့်တယ်စွာ စမ္မာယ်တော်မူရင်း ပရိသတ်အများတို့အား အို….ချစ်သား ချစ်သမီးအပေါင်းတို့-အသက်အရွယ်ကြီးရင့်မှ ရဟန်းဘောင်သို့ ခိုလှုံလာသော သောဏာထေရီဘိက္ခုနီမကြီးကို ကြည့်ကြလော့၊သက်ရွယ်ယိုယွင်း၍အိုမင်းမစွမ်းရှိသော်လဲသဒ္ဓါဝီရိယအစွမ်းကြောင့် ငါ၏ချစ်သမီးကြီးသောဏာသည် ဈာန်ပဋိသမ္ဘိဒါတန်းခိုးဂုဏ်နဲ့ပြည့်စုံတဲ့ ရဟန္တာမဖြစ်လေပြီ၊ အို….ချစ်သား ချစ်သမီး အပေါင်းတို့ နိဗ္ဗာန်ရောက်ကြောင်း တရား ကောင်းကို အားထုတ် ကြရာတွင်အသက်အရွယ်ကြီးသည် ငယ်သည်မှာ ပဓာနမဟုတ်၊ယုံ့လဝီရိယသာလျှင် ပဓာနဖြစ်ပေတယ်၊သောဏာထေရီဘိက္ခုနီမကြီးသည် ပဒုမုတ္တရဘုရားလက်ထက်တော် အခါတုန်းကဘိက္ခုနီမတဦးအား အာရဒ္ဓဝီရိယ တေဒဂ်ဘွဲ့ထူးနဲ့ ချီးကျူးခံရတာကို အားကျပြီး ပဒုမုတ္တရ ဘုရားရှင်ထံ ဆုပန်ခဲ့ဘူးကြောင်း အတိတ်ကို ဆောင်တော်မူပြီး ပရိသတ်ဗိုလ်ပုံအလယ်မှာ သောဏာထေရီ ဘိက္ခုနီမကြီးကို "အာရဒ္ဓဝီရိယ"တေဒဂ်ဘွဲ့ထူးနဲ့ ချီးမြှင့်တော်မူသတဲ့။

သောဏာထေရီ ဘိက္ခုနီမကြီးရဲ့ သတင်းဟာ ဝေးနီးနှံ့ပြား ကျော်ကြားသွားတာပေါ့၊ ခင်ပွန်းဟောင်း ရဟန္တာမထေရ်ကြီးနဲ့သား ၁၀-ယောက်တို့လဲဝမ်းမြောက်ဝမ်းသာ ဖူးမြော်ရောက်လာကြတယ်၊ သား ၁၀-ယောက်က သူတို့ရဲ့အပြစ်များကို ခွင့်လွှတ်ဘို့ရာ ရိုသေစွာ ရှိခိုးတောင်းပန်လျှောက်ထားကြသတဲ့၊ ဒီတော့ သောဏာထေရီ ဘိက္ခုနီမ

ကြီးက အပြစ်မယူ ခွင့်လွှတ်တဲ့အပြင် ကျေးဇူးပင် တင်ကြောင်းကိုပြောကြားရှာသတဲ့၊ ဘယ်လိုပြောကြားသလဲလို့ မေးတယ်ဆိုပါတော့၊မောင်တို့မိခင်ဟာမောင်တို့စိမ်းကားတဲ့အတွက်ရဟန်းဘောင်ဝင်ခွင့်ရပေတယ်၊မောင်တို့ကသာယုယုယယပြုစုနေကြပါလျှင် မောင်တို့အနားကထွက်ခွာလို့သွားနိုင်မှာမဟုတ်တဲ့အပြင် သံသရာထဲမှာ ပလုပ်ပလုပ်နဲ့နစ်မြုပ်နေရမှာ၊ မောင်တို့ကြောင့် ရတနာသုံးပါး ဂုဏ်ကိုခိုလှုံခွင့်ရပေတယ်၊မောင်တို့ကိုအပြစ်မတင် ကျေးဇူးပင်တင်ပါသေးတယ်လို့ ပြောကြားလိုက်သတဲ့။

ဒီတော့ သား ၁၀-ယောက်ကဝမ်းမြောက်ဝမ်းသာဖြစ်ကာကျေးဇူးရှင်နှစ်ပါးကိုရိုသေစွာရှိခိုးကြပြီး ဘုရားတပည့်တော်တို့အား သနားသဖြင့် ဆွမ်းစည်းလေးပါး ဒါယကာအဖြစ် ချီးမြှင့်တော်မူကြပါဘုရားလို့လျှောက်ထားကြသတဲ့၊ ဒီတော့ မိခင်ရဟန္တာမကြီးက မောင်တို့လျှောက်ထားတာဝမ်းမြောက်စရာပါပေဘဲ၊ဒါပေမဲ့ ရဟန်းဘောင်ရောက်တဲ့အခါ ဘယ်သူ့ကိုမှပစ္စည်းလေးပါးအတွက် မစွဲလမ်းရဘူး၊ ရဟန်းဆိုတာ သပိတ်တလုံးနဲ့ ခြေသလုံးကို အားထားပြီးအသက် မွေးကြရတယ်၊ ကဲ-သွားကြပေတော့လို့ အမိန့်ရှိလိုက်တော့မှ ခင်ပွန်းဟောင်း ရဟန္တာမထေရီကြီးနဲ့ သား ၁၀-ယောက်တို့ အသီးအသီး ပြန်သွားကြသတဲ့။

အဲ-သောဏာထေရီဘိက္ခုနီမကြီးသည် အသက်ခြောက်ဆယ်ကျော်မှ သာသနာ့ဘောင်ဝင်၍ ရဟန်းပြုရာ ဝီရိယအစွမ်းကြောင့်အာသဝေါကုန်ခမ်းပြီး ဇုဒ္ဒိပါဒ်တန်းခိုးဂုဏ်

နှင့်ပြည့်စုံတဲ့ ရဟန္တာမ ဖြစ်သွားကြောင်းကို ကြားကြရတဲ့ အမယ်အိုအပေါင်းကလဲ သောဏာထေရီ ဘိက္ခုနီမကြီးကို အတုခိုးအားကျပြီး အရွယ်အိုသော်လဲ မဂ်ဖိုလ်ရနိုင်ပါက လားလို့ဆိုပြီး အဲဒီခေတ်က သာသနာ့ဘောင် ခိုလှုံလာကြ တဲ့အမယ်အိုတွေ အတော်ဘဲများပြားသတဲ့။

ကဲ–ဒါယိကာမကြီးတွေကော သောဏာထေရီမကြီးလို မဖြစ်ချင်ကြဘူးလား၊ ဖြစ်ချင်ကြရင် မိမိကိုယ်ကိုလဲမချစ်နဲ့၊ သူတပါးကိုလဲ မချစ်နဲ့၊အသက်ကြီးတာကို အကြောင်းပြုပြီး အားမလျှော့ကြနဲ့၊ အသက်ကြီးတာ–ငယ်တာ, အားရှိတာ မရှိတာဟာ ပဓာနမဟုတ်ပေဘူး၊ သဒ္ဓါနဲ့ဝီရိယသာ ပဓာန ဖြစ်ပေတယ်၊ သာသနာတော်ကြီးနဲ့ ကြုံကြိုက်နေတဲ့ အခါ အခွင့်ကောင်း အခါကောင်းကို လက်မလွှတ်ကြစေနဲ့ ကြိုး စားအားထုတ်ကြ၊ သားသမီးတွေက မကျွေးချင် မမွေးချင် လို့ ငြူစူကြရင်လဲ ဘုန်းကြီးထံ လာခဲ့ကြ၊ ဘုန်းကြီးကတော့ ဘန်းခုန်းစကြာနဲ့ချီးမြှင့်မယ်လို့ ဟောကြား ဆုံးမတော်မူခဲ့ လေသည်။

(ကျေးဇူးရှင် စွန်းလွန်းဂူကျောင်းဆရာတော်ဘုရားကြီး သည် ပရိနိဗ္ဗာန်ပြုတော်မူသည်အထိ မည်သူ့ကိုမျှ ပစ္စည်း လေးပါးဒါယကာအဖြစ် ခွင့်မပြု၊ သဒ္ဓါရှိ၍ လာရောက် လှူဒါန်းသည့်အခါ ပစ္စည်းလေးပါး–ဒါယကာအဖြစ်အာရုံ ပြုပေးမည်ဟု အမိန့်ရှိတော်မူသည်၊)

---

## မောင်တုတ်ကြီးအကြောင်း တရားတော်

### နေရင်းရွာက ဝေဘူလတောင် ရောက်စဉ်အကြောင်း ဟောကြားတော်မူခြင်း

အေး–ဒကာကြီး–ဒကာမကြီးတို့၊လာလမ်းမပြန်ချင်ကြနဲ့ လာလမ်းပြန်ချင်ကြရင် နေရင်းရွာ ရောက်သွားတတ်တယ်။ ဘယ်လိုရောက်သွားတတ်သလဲ ဆိုတော့၊ ဥပမာ– ပြည်မြို့မှာ ကိုတုတ်ကြီးဆိုတာ ရှိသတဲ့၊ အဲသည် ကိုတုတ်ကြီးက အတော့်ကို အ,တဲ့ န,တဲ့လူတဲ့၊ သူ့ဇနီးကတော့ ခပ်လယ်လယ်ထဲကပေါ့လေ။ တနေ့တော့ ဇနီးဖြစ်သူက ကိုတုတ်ကြီးရေ ရန်ကုန်မြို့မှာ ဆေးဈေး သိပ်ကောင်းနေတာဘဲတဲ့ ဒီတော့ ရှင်သွားပြီးရောင်းချချေပါလို့ပြောတော့ ကိုတုတ်ကြီးက–ဟဲ့–ငါမသွားတတ် မလာတတ်နဲ့ လမ်းလဲ မသိပါဘူးဟယ်–လို့ ပြန်ပြောတယ်၊ အို–တော်–ရှင်ကလဲ အ,ရန် န,ရန်ကော ကျွန်မ အစီအစဉ်လုပ်ပြီး လမ်းပြလိုက်ပါ့မယ် သွားသာ သွားပါလို့ ပြောပြီး၊ ပုတ်ငယ်ငယ်တလုံး ပုတ်ကြီးကြီးတလုံး လုပ်ပေးသတဲ့၊ ဟောဒီပုတ်ကြီးကို ရှေ့ကထားပြီးထမ်းသွားပါ၊ရန်ကုန်မြို့ဆိုက်ဆိုက်မြိုက်မြိုက်ရောက်ပါလိမ့်မယ်၊ ရန်ကုန်ရောက်ရင် ဆေးတွေရောင်းချပြီးဘုရားလဲဖူးခဲ့ပါ၊ ရန်ကုန်မြို့က ရွှေတိဂုံစေတီတော်ကြီးဟာ အင်မတန် တန်ခိုးကြီးတယ်၊ ဖူးဖြစ်အောင်ဖူးခဲ့ပါလို့ မှာကြားပြောဆိုပြီး လွှတ်လိုက်သတဲ့၊ကိုတုတ်ကြီးကလဲ ဇနီးသယ်မှာလိုက်တဲ့အတိုင်းတသွေမတိမ်း မှတ်သားပြီး သွားတာပေါ့။ နောက်ခရီးအတော်ကလေးရောက်တဲ့အခါမော်ပန်းတာနဲ့

ပုတ်ကြီးရွှေကထားလို့ အထမ်းကိုချပြီး သစ်ပင်ရိပ် ဝင်နား သတဲ့။ အဲဒီလိုနားနေရင်းက ခရီးပန်းတာနဲ့ မှေးကနဲ အိပ် ပျော်သွားခိုက်အခြားခရီးသည်များကသွားလမ်းလာလမ်း မလွှတ်တာနဲ့ ဆေးပုတ် အထမ်းကြီးကို ရွှေ့ထားကြရာမှာ ရွှေနောက် လွဲသွားရောတဲ့။ဘယ်လို လွဲသွားသလဲဆိုတော့ ပြည်မြို့ဘက် လာလမ်းက ပုတ်ကြီးဖြစ်နေပြီး၊ ရန်ကုန်ဘက် သွားလမ်းက ပုတ်ငယ် ဖြစ်နေသတဲ့၊ ကိုတုတ်ကြီးကလဲ တရေးတမော အိပ်ပျော်သွားရာက လန့်နိုးလာပြီး ကဗျာ ကသီနဲ့ ပုတ်ကြီး ပုတ်ငယ် အပြောင်းအလွဲကို မသိဘဲ အ ထမ်းကြီး ကောက်ထမ်းပြီး ပုတ်ကြီးဘက်ကို မျက်နှာမူပြီး ဆက်ထမ်းသွားသတဲ့။ မကြာခင်ဘဲ ဆိုပါတော့ ပြည်မြို့ပြန် ရောက်သွားသတဲ့။ ဒါပေမဲ့ ကိုတုတ်ကြီးက အ,တ,တ- န,တ,တလူဆိုတော့ ပြည်မြို့ ပြန်ရောက်လာမှန်း မသိဘူး တဲ့။ ပြည်မြို့ကိုဘဲ ရန်ကုန်မြို့ကြီး ထင်မိတာကိုး၊ ရန်ကုန်မြို့ ဟာ တယ်ဝေးတယ်ဝေးနဲ့ ပြောကြတယ်၊ ခု-ငါဆေးပုတ် တွေ ထမ်းလာတာ သိပ်ပြီး မမောမပန်းဘဲနဲ့ ရောက်လာ တာဘဲလို့ ဝမ်းသာအားရနဲ့ အိမ်က ဇနီးသည် မှာလိုက်တဲ့ အတိုင်း ဟိုဟိုဒီဒီကြည့်ရင်းက ရွှေဆံတော်ဘုရားမြင်တော့ ရွှေတိဂုံ ရွှေတိဂုံနဲ့ နာမည်ကြီးပြီး ကျော်ကြားလိုက်တာ၊ နို့ပြည်မြို့က ရွှေဆံတော်ဘုရားနဲ့ တယ်တူကိုးလို့ အောက် မေ့မိရင်း မြို့ထဲဝင်သွားပါရောတဲ့။ မြို့ထဲရောက်ပြန်တော့လဲ ဟိုဟိုဒီဒီကြည့်ပြီး ရန်ကုန်မြို့ကြီးကလဲ နို့ပြည်မြို့နဲ့ တယ်တူ ကိုးလို့ဆိုပြီး ရှေ့ဆက်သွားပြန်သတဲ့။ ဒါနဲ့ဘဲ သူ့အိမ်ဆီ သွားတဲ့လမ်း ရောက်သွားတော့ ဒီလမ်းကလဲ နို့အိမ်သွား

တွဲလမ်းနဲ့ တယ်တူကိုးလို့ ဆိုသတဲ့။ သူ့အိမ်ရှေ့ ရောက်သွားတော့၊ ဟင်-ဒီအိမ်ကလဲ ဒို့အိမ်နဲ့ တူလိုက်ထာဟယ်လို့ဆိုပြီး မိုးချုပ် သွားတာနဲ့ ဒီအိမ်မှာဘဲ တညလောက်တော့ တည်းခိုမှဘဲလေလို့ အောက်မေ့ရင်း၊ အို-အိမ်ရှင်တို့-အိမ်ရှင်တို့လို့ ခေါ်လိုက် သတဲ့၊ ကိုတုတ်ကြီးရဲ့ ဇနီးသယ်က တော်-လို့ ပြန်ထူးလိုက်တယ်၊ ဒီတော့ လူအ-လူန-ကိုတုတ်ကြီးက တညလောက် မတဲခိုရ ဘူးလားလို့ မေးလိုက်ပြန်သတဲ့၊ အဲဒီတော့မှ ကိုတုတ်ကြီးမှန်း သိသွားပေမဲ့ မသိဟန်ဆောင်ပြီး တဲခိုရပါတယ်ရှင်-တဲခိုရပါတယ်ရှင်လို့ ပြန်ပြောတော့၊ ကိုတုတ်ကြီးကလဲ အိမ်ထဲဝင်သွားပြီး ထမ်းလာတဲ့ ဆေးပုတ် အထမ်းကြီးချပြီး အိမ်ပေါ်တက်သွားသတဲ့၊အိမ်ပေါ်ရောက်ရင်ဘဲ ဒီအိမ်ကလဲ ဟင်-ဒို့အိမ်နဲ့ သိပ်တူ ပါကလားလို့ အောက်မေ့မိပြန် သတဲ့။ အိမ်ရှင်ဇနီးသယ်က ညီ့သည်ကြီး ထမင်းကော စားပြီးပြီလားလို့ မေးတော့ မစားရသေးဘူးလို့ ပြန်ပြော တာနဲ့ ထမင်းခူးခပ်ပြီး ကျွေးသတဲ့။ ထမင်းပွဲကျတော့လဲ ဇွန်းတို့ ပန်းကန်တို့ မြင်ပြန်ရင်လဲ ဒို့အိမ်က ဇွန်းနဲ့ ပန်းကန်ပြားနဲ့ တယ်တူသကိုးလို့ အောက်မေ့မိပြန် သတဲ့၊ ကလေးတွေ ကျောပေါ် ဖက်တက် ခွစီးကြတော့လဲ တတောင်နဲ့ တွက်ကာ-နင်တို့ကလေးတွေကဒို့ အိမ်က ကလေးတွေနဲ့ သာတူသေးတယ်လို့ ပြောလိုက် သတဲ့၊ ဒီတော့ ဇနီးဖြစ်သူက ကလေးတွေခေါ်ပြီး၊ ဟဲ့ ညီ့သည်ကြီးကို မလုပ်ကြပါနဲ့ ပြောပြီး၊ ညီ့သည်ကြီး-ညီ့သည်ကြီး နာမည်က ဘယ်လိုခေါ်သတုံးလို့ မေးပြောတော့၊ ကိုတုတ်ကြီးလို့ ပြန်ပြောသတဲ့၊

ဘယ်မြို့ကတုံးလို့ မေးပြန်တော့-ပြည်မြို့ကပါ၊ ဘယ်သွား မလို့တုံးလို့ မေးပြန်တော့- ရန်ကုန် ဆေးရောင်း သွားမလို့ ပါလို့ ပြောသတဲ့၊ ဒါနဲ့ ဇနီးသယ်က စိတ် မရှေတော့ ဘာနဲ့ လက်သီးဆုပ်နဲ့ ထထုသတဲ့။ အဲသည်တော့တောင် ကိုတုတ်ကြီးက အမယ်လေး ဩ့သည်ကြီးကို မနှိပ်စက်ပါ နဲ့လို့ အော်ဟစ်ယ်လို့ အော်ဖေးသတဲ့။

အဲဒီ ပုတ်ကြီး ပုတ်ကလေးနှစ်ခု ဥပမာကတော့ အကု သိုလ်နဲ့ ကုသိုလ်ဘဲ၊ သတ္တဝါတွေဟာ များသော အားဖြင့် ကုသိုလ်အာရုံထက် အကုသိုလ်အာရုံက များတယ်။ ပုတ် ကြီးဆိုတဲ့ အကုသိုလ် အာရုံနောက်ကိုသာ တကောက် ကောက် လိုက်နေကြမှဖြင့် လာလမ်းအတိုင်း အကုသိုလ်တို့ အကျိုးပေးရာဖြစ်တဲ့ နေရင်းရွာဆိုတဲ့ အပါယ်လေးဘုံကိုဘဲ ပြန်ရောက်တတ်တယ် ဒကာကြီး ဒကာမကြီးတို့။

## ပုတ်မ စေတနာ တရားတော်

ပုတ်ကြီးကို အကြောင်းပြုပြီး ဘုန်းကြီးက ဆက်ဟော ရအုံးမယ်။ ဒို့မြတ်စွာဘုရား ဟောကြားတော် မူခဲ့တာက- ပုဗ္ဗစေတနာ, မုဉ္စစေတနာ, အပရစေတနာရယ်လို့ ရှိတယ် မဟုတ်လား။ (ရှိပါတယ်ဘုရား)။ ဒို့ကတော့ ပုတ်မ စေ တနာ၊ မုန်းစ စေတနာ၊ ပါရ စေတနာရယ်လို့ သိခဲ့တယ်။ ပုတ်မစေတနာက ဘယ်လိုတုံးလို့ မေးတယ် ဆိုပါတော့။ ဒို့တောရွာမှာ အလှူရှိတယ် ဆိုပါတော့။ အဲဒီအလှူများရဲ့ ဓလေ့ထုံးစံအတိုင်း ငွေကူလက်ခံကြတယ်။ အဲဒီ ငွေကူလာ တဲ့ လူများကိုလဲ ထမင်းကျွေးကြရတယ်။ အဲဒီတော့ အလှူ

ရှင်က တွက်ကိန်းချကြည့်တယ်။ ဘယ်လို တွက်ကိန်းချကြည့်သလဲလို့မေးတယ် ဆိုပါတော့။ ငါ့အလှူမှာ မြို့ကလူတရာလောက်ဘိတ်မယ်။ တောရွာက လူ ၂၀၀-လောက်ဘိတ်မယ်၊ မြို့က လူတရာဆိုရင် တယောက် ရှစ်ပဲမှ တကျပ်-၂-ကျပ်ထိ ထားဘိဦး၊ ဖျမ်းမျှခြင်းအားဖြင့် ကူပွံ့ငွေ တရာလောက် ရနိုင်တယ်။ တောရွာများက ဆိုရင် တယောက်လျှင် ရှစ်ပဲမှ တကျပ်ထိထားဘိဦး၊ ကူပွံ့ငွေ တရာလောက်ရနိုင်တယ်။ အဲဒီလို ထင်ကြေးနဲ့ တွက်ကိန်းချ ပြီးတော့၊ လူ ၃၀၀-စားအတွက် ထမင်း-ဟင်းချက်ပြုတ်ကာ တောရွာဓလေ့ ထုံးစံအတိုင်း ထမင်းများကို ပုတ်ထဲထည့်ထားသတဲ့။ ပရိသတ်ကလဲဘိတ်ကြားထားတဲ့အတိုင်း တောရော မြို့ပါ လာကြ-စားကြ-သောက်ကြတာပေါ့၊ အလှူရှင်ကလဲ ဒီလို ပရိသတ်များများလာတာကို တွက်ကိန်းတော့ကိုက်ပြီဟု အထင်ကြီး ထင်ပြီး ဝမ်းသာစွာ ပုတ်ကြီးကို မလိုက်၊ ကူပွံ့စာရင်းကိုကြည့်လိုက်နဲ့ အလှူရှင်မှာအလုပ်များနေတာပေါ့။ အဲဒီလို ထမင်းထည့်တဲ့ ပုတ်ကြီးကို မ-မ ကြည့်ခြင်းကြောင့် **"ပုတ်မ"** စကားနာလို့ ခေါ်ခဲ့ဘူးတယ်။ မြို့ကလာတဲ့ ပရိသတ်ကလဲ များပါပေတယ်။ တောရွာက လာတဲ့ ပရိသတ်ကလဲ များပါပေတယ်။ အဲဒီလိုများပေမဲ့ ကူပွံ့ငွေ များများ ရဘို့အတွက် တွက်ကိန်း မကိုက်တော့ဘူး။ ဘာကြောင့် တွက်ကိန်းမကိုက်သလဲလို့ မေးတယ် ဆိုပါတော့၊ မြို့ပရိသတ်ရော-တော ပရိသတ်ရော ကူပွံ့ ကြတာက၊ လေးပဲမှ ရှစ်ပဲစီသာ များနေသတဲ့။ ဒီတော့ အလှူရှင်က ဟိုမြို့က လူစုတွေရဲ့ ကိစ္စတုန်းကတော့ ငါ-တကျပ်စီ,နှစ်

ကျပ်စီ ကူပွံ့ခဲ့ဘူးတယ်၊ ဒို့တောရွာက လူစုတွေကိုလဲ-သူ
တို့ကိစ္စတွေတုန်းက ရှစ်ပဲစီ တကျပ်စီ ကူပံ့ဘူးတဲ့ အပြင်
လူကိုယ်ထိုင်လဲ ကူညီခဲ့ဘူးတယ်၊ငါ့အလှည့်ကျတော့-လေး
ပဲစီ-ရှစ်ပဲစီသာ ကူပံ့ကြတာများတယ်၊ အချို့ကလဲ လေးပဲ
စီ-ရှစ်ပဲစီသာ ကူပံ့ကြပြီး လူပို ကလေးပိုများတောင် ခေါ်
ခဲ့ကြသေးတယ်၊ အဲဒါကြောင့် ကူပံ့ကြေး-နဲ့တဲ့လူတွေ အ
ပေါ်ကျေနပ်စိတ်မရှိဘဲ မုန်းစစိတ်တွေ ဖြစ်ပေါ်လာသတဲ့၊
အဲဒါကို **"မုန်းစ"** စေတနာလို့ ခေါ်ခဲ့ဘူးတယ်၊ အဲဒီလို
မုန်းစစိတ်တွေ ပေါ်ပေါက်လာသော်လဲ နောက်ဆုံးတော့
သူတို့ထံပါတာဘဲ ရမှာဘဲလေဟု သက်ပြင်းချကာ ကျေနပ်
လိုက်ရသတဲ့၊ အဲဒါကို **"ပါရ"** စေတနာလို့ ခေါ်ခဲ့ဘူး
တယ်။အဲဒါ ဘုန်းကြီးတို့ သိခဲ့ဘူးတဲ့ ပုတ်မစေတနာ-မုန်းစ
စေတနာ-ပါရ စေတနာ-ရယ်လို့ သုံးမျိုးရှိကြောင်း မှတ်
သားရျှရှောင်ရှားကြပေတော့လို့ဟောပြောကာ ဒကာကြီး
ဒကာမကြီးတို့အား ဆုံးမလေ့ရှိခဲ့လေသတည်း။

## ကုသိုလ်, အကုသိုလ် ခရီးစဉ်တရာတော်

ဒါနဲ့ ဆက်ဟောရအုံးမယ်၊ ဒကာကြီး ဒကာမကြီးတို့-
ကုသိုလ်စိတ်,အကုသိုလ်စိတ်ဆိုတာကို သိကြဘို့ အရေးကြီး
တယ်၊ဥပမာ-ကုသိုလ်စိတ်ဆိုသည်မှာ နွေးအခါ သဲသောင်
ပြင် နေတဲ့လူဟာ မပူဘူး လား၊ (ပူပါတယ် ဘုရား)။အေး
အဲဒီ သဲသောင်ပြင် နေတဲ့လူထက် အိမ်ရိပ်, တိုက်ရိပ်,သစ်
ပင်ရိပ်အတွင်းမှာ နေတဲ့လူက မအေးဘူးလား၊ (အေးပါ

တယ်ဘုရား)။ အဲဒီ အိမ်ရိပ်, တိုက်ရိပ်, သစ်ပင်ရိပ်နေတာထက် ဆွေမျိုးဉာတိအရိပ်က ပိုမအေးဘူးလား။ (အေးပါတယ်ဘုရား)။ အဲဒီဆွေမျိုး ဉာတိအရိပ်ထက်၊ မိဘအရိပ်က ပိုမအေးပေဘူးလား၊ (အေးလှပါတယ်ဘုရား)။အေး-အဲဒီ မိဘအရိပ်ထက် ဘုရား-တရား - သံဃာ - တည်းဟူသော ရတနာသုံးပါးအရိပ်က သာ၍ပင် အေးသေးတယ်၊ အဲဒီ ရတနာသုံးပါးအရိပ်ကို ခိုပြီးတော့ သဒ္ဓါဗိုလ်-ဝီရိယဗိုလ်-သတိဗိုလ်-သမာဓိဗိုလ်- ပညာဗိုလ်များ ပွားပွားပြီးတက်သွား၍ သီလ-သမာဓိ-ပညာ အင်္ဂါသုံးပါး ပြည့်စုံတဲ့အခါ စိတ်-စေတသိက်-ရုပ် ဆိုတဲ့ တရားသုံးပါးတို့ ဖြစ်လိုက်-ပျက်လိုက် ဖြစ်ပျက်လိုက်နဲ့ "ရှေ့နှင့် နောက်ဟာ မတူပါ၊စဉ်လာဖြစ်ပျက်မှု" အဲဒီ ဖြစ်ပျက်မှု မြင်တော့ ဒုက္ခလို့ထင်လာလိမ့်မယ်။ အဲဒီ ဒုက္ခကိုမြင်တော့ ဘာကြောင့်လဲလို့ စိစစ်လိုက်တော့ လုပ်ပေးနေတဲ့ သမုဒယကို မြင်လိမ့်မယ်။ အဲ-လုပ်ပေးနေတဲ့ သမုဒယကိုမြင်တော့ မဂ်က အနုသယကို ပယ်လိုက်လိမ့်မယ်၊ အဲ-မဂ်က ပယ်လိုက်တော့ အကြောင်းအကျိုး ပြတ်သွားရော၊ အဲဒါ နိရောဓလို့ခေါ်တယ်၊ သစ္စာလေးပါး တပြိုင်တည်း ဘွားကနဲ မပေါ်ဘူးလား၊ (ပေါ်ပါတယ်ဘုရား)။ ဒါကြောင့် ကုသိုလ်ဆိုတာအမိအဖလဲလုပ်မပေးနိုင်၊ ဆွေမျိုးလဲလုပ်မပေးနိုင်၊ အဲသည်လို ကုသိုလ်ဇောတွေ ပွားပွားသွားလျှင် ဆွေမျိုးထိပ်ဝိတ် ကုသိုလ်စိတ်၊ တံဆိပ် ရိုက်နှိပ်ခတ်လိုက်ရင် သောတာပတ္တိမဂ် အစ-အရဟတ္တမဂ်အဆုံးအထိသွားနိုင်တယ်။ ။အဲဒါကြောင့် ကုသလာဓမ္မာ လို့ခေါ်တယ်။

အကုသိုလ်စိတ်ဆိုသည်မှာအကုသိုလ်ဇောတွေထပ်ကာ ထပ်ကာ ပွားပွားသွားလျှင် ဥပမာ-လောကမှာ ရန်ငြိုးဖွဲ့ခံရသောသူကို ဓားနဲ့ထိုး-ဒုတ်နဲ့ရိုက်၍ သေရင် ယခုတဘဝ သာဘဲ သတ်နိုင်တယ်၊ နောင်ဘဝ မလိုက်နိုင်ဘူး။ သူခိုးတယောက်တသူခိုးတယောက်ကို မျက်စိကဖွား,နားကဖွား နှာခေါင်းကဖွား, လျှာကဖွား, ခန္ဓာကိုယ်ကဖွား၊ ဖွားဖွားနေရင် သားသူခိုးတွေ-သမီးသူခိုးတွေ ပေါက်ဖွားလာပြီး မြေးမျိုးတွေ သူခိုးတွေ၊ မြေးမျိုးတွေ သူခိုးတွေနဲ့ဘဲ အဆက်မပြတ် ပေါင်းသင်း ဆက်ဆံ သွားလေတော့ အကုသိုလ်ဇောတွေ ပွားပွားပြီး အကုသိုလ်စိတ်၊ ရန်ထိပ်ဝိတ်၊ တံဆိပ်ရိုက်နှိပ် ခတ်လိုက်မှဖြင့် သွားရော့တလမ်း အပါယ်စခန်းဘဲ။

## ဝေဘူလတောင်မှ မနောမယ ပတ္တမြား

ဒါကြောင့် နေရင်းရွာ ပြန်မသွားချင်ကြနဲ့၊ ဝေဘူလတောင်ရောက်အောင်သွားကြဝေဘူလတောင်မှာကျောက်ကောင်း ပတ္တမြားကောင်းတွေရှိသတဲ့၊ သွားဘို့ရာကတော့ မလွယ်ကူဘူး၊ ဘီလူးကြီး ၃-ကောင်စောင့်တဲ့ တောကြီး ၃-ထပ်ကျော်နိုင်မှ ရောက်သတဲ့၊ ဝေဘူလတောင် ရောက်အောင်သွားနိုင်ကြတဲ့ ပုဂ္ဂိုလ်ကတော့ အင်မတန် နဲသတဲ့၊ ဝေဘူလတောင် ရောက်ပေမဲ့ အချို့ပုဂ္ဂိုလ် များကတော့ အဘိုးတန် ကျောက်ကောင်း ပတ္တမြားကောင်း မကောက်ကြဘဲမီးခက်ကျောက်လောက်ကောက်သူကောက်၊ကျောက်စရစ်ခဲလောက် ကောက်သူကောက်၊ အချို့တော့လဲ ဘီချင်း

ဆို လေချွန်ပြီး ပျော်ကြ ပါးကြနဲ့ဘဲ အချိန်ကုန်ပြီး ပြန်ကြသတဲ့၊ အချို့ပုဂ္ဂိုလ်များကတော့ ဝေဘူလတောင်ရှိ မနောမယ ပတ္တမြားကို မရ-ရအောင် ကြိုးစားရှာကြံ တူးဆွပြီး အရယူကြသတဲ့။

## ဥပမာနှင့် ဥပမေယျ

အဲ-ဝေဘူလတောင် ဆိုတာကတော့ သီလ, သမာဓိ, ပညာ တည်းဟူသော သာသနာတော်ကြီးဘဲ၊ ဘီလူးကြီး ၃-ကောင်ကတော့ လောဘ, ဒေါသ, မောဟကိုဆိုတယ်၊ တောကြီး ၃-ထပ်ကတော့ ကာမ,ရူပ, အရူပဘုံတို့ကို ဆိုတယ်၊ သီချင်းဆို လေချွန် ပျော်ရွှင်မှုဖြင့် အချိန်ဖြုန်းကြသော သူများကတော့ ဆန်ကုန်မြေလေးဖြစ်ကာ နေရင်းရွာဆိုတဲ့ အပါယ်လေးဘုံသို့ တောက်ရှောက် ရောက်သွားကြတဲ့ သူတွေနဲ့တူတယ်၊ သံသရာ လယ်စေတတ်တဲ့ ကုသိုလ်ကောင်းမှုများကတော့ မီးခတ်ကျောက်တို့ ကျောက်စရစ်ခဲတို့ကောက်တာနဲ့ တူတယ်၊ မနောမယ ပတ္တမြားကတော့ သမထဝိပဿနာကို ကြိုးပမ်းတကုတ် အားထုတ် ကြခြင်းအားဖြင့် ဒုက္ခအပေါင်းတို့ ချုပ်ငြိမ်းရာဖြစ်သော နိဗ္ဗာန်တရားတော်ကြီးကို ဆိုတယ်။

အဲဒါကြောင့် ယခုပဋိပတ္တိသာသနာတော်ကြီးပွင့်လင်းတုန်း လောဘ,ဒေါသ,မောဟဆိုတဲ့ ဘီလူးကြီး ၃-ကောင်နဲ့ ကာမ, ရူပ, အရူပဆိုတဲ့ တောကြီး ၃-ထပ်ကိုကျော်လွှန်နိုင်အောင် ဗိုလ်ငါးပါး လက်ကိုင်ထားပြီး သမာဓိ-ပညာ



၁၃၁၄ ခုနှစ်၊ ကဆုန်လပြည့်ကျော် (၉) ရက်၊ စနေနေ့ ညနေ ၄ နာရီ ၅၅ မိနစ်အချိန်တွင်
ပရိနိဗ္ဗာန်ပြုတော်မူသော စွန်းလွန်းဆရာတော်ဘုရားကြီး ရုပ်ကလပ်တော်။

ဖြစ်တဲ့၊သမထဝိပဿနာတရားကို ကြိုးစားအားထုတ်ကြရန် ဟောပြော ဆုံးမတော်မူခဲ့လေသတည်း။

---

ကျေးဇူးရှင်စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီး ဟောကြားတော်မူအပ်သော

## သမထဝိပဿနာ တရားအားထုတ်ပုံ နည်းချုပ်

မေး….ဒါယကာ ဒါယိကာမကြီးတို့-သံသရာခရီးမှာမျော နေရတာ မဆင်းရဲကြပေဘူးလား။

ဖြေ…မှန်လှပါ ဘုရား၊ အလွန်ဘဲ ဆင်းရဲလှ ပါတယ် ဘုရား။

မေး….ဆင်းရဲကြလျှင် ချမ်းသာကို မလိုချင်ကြပေဘူးလား။

ဖြေ…မှန်လှပါဘုရား၊ ချမ်းသာကို အလွန်ဘဲ လိုချင်ကြ ပါတယ်ဘုရား။

အေး-ချမ်းသာကို လိုချင်ကြရင် အမိနှင့် အဘကို သတ် ရမယ်၊ တိုင်းပြည်အုပ်ချုပ်တဲ့ ပြည့်ရှင်မင်းကြီး နှစ်ပါးကိုလဲ သတ်ရမယ်၊ သူလျှို တကျိပ် နှစ်ယောက်ကိုလဲ-သတ်ရမယ်၊ သို့သော် မိဘ နှစ်ပါးကတော့ ကျေးဇူးကြီးလှ၍ တကြိမ် သတ်ရုံမျှနှင့်မသေနိုင်၊ လေးကြိမ်တိုင်တိုင် သတ်မှသေတယ်၊ မိဘနှစ်ပါးဆိုတာ တဏှာနှင့်မာနကိုဆိုတယ်၊ ပြည့်ရှင်မင်း ကြီး နှစ်ပါးဆိုတာ သဿတဒိဋ္ဌိနှင့် ဥစ္ဆေဒဒိဋ္ဌိကို ဆိုတယ်၊

သူလျှိုတကျိပ်နှစ်ယောက်ဆိုတာအတွင်းအာယတနခြောက်ပါးနဲ့ အပြင်အာယတန ခြောက်ပါးကို ဆိုတယ်။

အဲ-ချွန်းသာကိုယို၍ သတ်ချင်ကြပါမူ စန္ဒဂုတ်မင်း စစ်တိုက်သကဲ့သို့ အတွင်း အာယတန ခြောက်ပါး, အပြင်အာယတနခြောက်ပါးရှိလည်တွင် အပြင်အာယတန ခြောက်ပါးကို ရှေးဦးစွာ သတ်ရမယ်။

သတ်ပုံမှာ•••ရှေးဦးစွာ ဘုရားကန်တော့၊ သီလခံယူ၊ မြတ်စွာဘုရားအား မိမိ၏ခန္ဓာငါးပါး ရုပ်နာမ် နှစ်ပါးကို တရားအားထုတ်ဆဲအခါ၌ နိဗ္ဗာန်ကိုရည်မှန်း၍လှူ။

(ကမ္မဋ္ဌာန်းဆရာ ဖြစ်တော်မူသော ဗွန်းလွန်းဂူကျောင်းဆရာတော်ဘုရားကြီးအား မိမိ၏ခန္ဓာငါးပါး ရုပ်,နာမ် နှစ်ပါးကို တရားအားထုတ်ဆဲအခါ၌ နိဗ္ဗာန်ကို ရည်မှန်း၍ လှူဒါန်းပါ)။ သုံးဆယ့်တဘုံ၌ ကျင်လည်နေကြကုန်သော ဝေနေယျသတ္တဝါ အပေါင်းတို့အား မေတ္တာပို့ အမျှဝေ။

အချိန်မပိုင်းနှင့် မိမိတတ်စွမ်း နိုင်သမျှ အားထုတ်ပါ။ ဣရိယာပုထ်ကိုလည်း ကြာမြင့်စွာမပြောင်းလဲဘဲနေနိုင်မည့် ဣရိယာပုထ်ဖြင့် နေလျက် အားရုံတခြား စိတ်မသွားရလေအောင်မျက်စိကိုမှိတ်ပြီး နှာသီးဝကာယတံခါးကထွက်လေဝင်လေကို မသိဘဲနှင့် မထွက်ရ မဝင်ရလေအောင် အာရုံ ဝိတက်များ ကင်းကွာအောင် ခပ်ပြင်းပြင်းကလေး အားထုတ်ရှုရှိက်ရမယ်၊(နှာသီးဖျားကာယတံခါးကို လေးတိုးထိ

တော့သိ၊သိတဲ့အပေါ်မှာ သတိထား **ထိ-သိ-သတိ** ဤသုံးချက် တပြိုင်နက်ကျအောင် ကြိုးစားအားထုတ်ရမယ်)။

ဤကဲ့သို့တရားအားထုတ်ဆဲအခါ၌ မျက်စိကလဲ တောင်ကြည့်မြောက်ကြည့် မကြည့်တော့ဘူး၊ နားကလဲ ဟိုထောင် ဒီထောင် မထောင်တော့ဘူး၊ နှာခေါင်းကလဲ ဟိုရှူဒီရှူ မရှူတော့ဘူး၊ပါးစပ်ကလဲ ဟိုစားချင် ဒီစားချင် မရှိတော့ဘူး၊ ကိုယ်ခန္ဓာကြီးကလဲ ဟိုသွားချင် ဒီသွားချင် မရှိတော့ဘူး၊ အဲဒီတော့ စက္ခုန္ဒြေ, သောတိန္ဒြေ, ဃာနိန္ဒြေ, ဇိဝှိန္ဒြေ, ကာယိန္ဒြေဆိုတဲ့ ဣန္ဒြေငါးပါး လုံခြုံနေတယ်၊ အဲဒီလိုလုံခြုံနေတာ ဣန္ဒြိယသံဝရ သီလအစစ်ဖြစ်တယ်၊ ဣန္ဒြေ ဆိုတာ အစိုးရတာကို ဆိုတယ်၊ သံဝရဆိုတာ လောဘ, ဒေါသ, မောဟစသောကိလေသာတရားများ မဖြစ်ရအောင်စောင့်ရှောက်တာကို ဆိုတယ်၊ ဣန္ဒြိယသံဝရ သီလကို တရားအားမထုတ်ဘဲနဲ့ ရရှိရန် အလွန်ခဲယဉ်းတယ်။

အဲ-ဤကဲ့သို့ သတိကပ်၍ ရှူရှိုက် အားထုတ်ပါများလာတော့ ကျက်စားနေကျဖြစ်တဲ့ အပြင်အာရုံနောက်သို့ စိတ်မလိုက်တော့ဘဲ နှာသီးဝ ကာယတံခါးမှာတည်ငြိမ်လာပြီး သူ့သဘောကိုသူဆောင်၍ အဖြူ,အနီ,အဝါ, အပြာ,ကြယ်ရောင်, လရောင်, နေရောင်, ပုလဲရောင်စသော အရောင်အဆင်း အလင်းနိမိတ်များ စသည့်အပြင် ပညတ်အာရုံများ ပေါ်လာ တတ်တယ်၊ ပေါ်လာသော်လဲ ဆက်မလိုက်နဲ့၊ အာရုံကိုမိမိခန္ဓာကိုယ်ပေါ်ပြန်တင်ရမယ်၊အဲဒါတရားအားထုတ်တဲ့ ယောဂီပုဂ္ဂိုလ်လို့၏ ဖြစ်တတ်တဲ့ လမ်းစဉ်တွေဘဲ။

အဲဒီလို အာရုံတခြား စိတ်မသွားဘဲ နှာသီးဖျား ကာယ တံခါးပေါ်တွင် ထိမှု-သိမှုကိုသာ သတိပြုပြီး စိတ်တည်နေ ကျင် အပြင် အာယတနခြောက်ပါးခေါ်တဲ့ သူလျှို ခြောက် ယောက်ကို သတ်သည်မည်တယ်။

အဲဒီလို ခန္ဓာကိုယ်ပေါ်မှာ သတိကပ်ပြီး လိုက်ပါများ လာတော့ ခန္ဓာကိုယ်ပေါ်တွင်ပူမှု-အေးမှု-ညောင်းညာကိုက် ခဲမှု စတဲ့ ဝေဒနာအမျိုးမျိုး ဖြစ်ပေါ်လာတတ်တယ်၊ အဲဒီ ဖြစ်ပေါ်လာတဲ့ ပူမှု-အေးမှု စတဲ့ဝေဒနာတွေကို ပူမှန်းသိတဲ့ အပေါ်သတိထား၊ ပူမှုနဲ့ သိမှု ပြိုင်၍ ချုပ်လိမ့်မယ်၊ အေးမှန်း သိတဲ့အပေါ်မှာသတိထား၊ အေးမှုနဲ့-သိမှုပြိုင်၍ချုပ်လိမ့်မယ်။ ပူမှုဝေဒနာသဘောသည် အေးမှုဝေဒနာသဘောသို့ မလိုက် ပါချေ၊ အေးမှု ဝေဒနာသဘောကလဲ ပူမှု ဝေဒနာ သဘော သို့ မလိုက်ပါချေ၊ သူ့သဘောကို သူဆောင်ကြတယ်။ ခန္ဓာကိုယ် ဆိုသည်မှာ တကိုယ်လုံးကိုချို၍ ဆိုတယ်၊ အင်္ဂါ အစိတ်အပိုင်း သီးသန့်၍ မမှတ်ရ၊ မိမိခန္ဓာကိုယ်ပေါ်တွင် ထိတော့ သိ၊ သိတဲ့အပေါ်သတိထားနေတာဟာ သမ္ပသန ညက်လို့ခေါ်တယ်။

မိမိခန္ဓာကိုယ် ပေါ်တွင် ပေါ်လာတဲ့ ဝေဒနာတွေကို သတိကပ်လိုက်ပါများလာတော့ သမာဓိ အရှိန် ကောင်း လာသည်နှင့်သန္တတိအစဉ်ကို မိမိ စိတ်ထင်အားဖြင့် မြင် လိမ့်မယ်၊အဲဒီအခါသဒ္ဒါဗိုလ်,ဝီရိယဗိုလ်,သတိဗိုလ်,သမာဓိ ဗိုလ်, ပညာဗိုလ် တည်းဟူသော ဗိုလ်ငါးပါး လက်ကိုင်

ထားပြီး ကြိုးပန်းတကုတ် ပွားများ အားထုတ်သွားပါလျှင် သမာဓိကြီးမားသည်ထက်ကြီးမားလာသော် မိမိခန္ဓာကိုယ်ပေါ်တွင် အလင်းဓာတ်ကြီး ပေါ်လာပြီး မိမိကိုယ်ကို မှန်ထဲမှာ မြင်ရဘိသကဲ့သို့ မြင်ရတွေ့ရတတ်တယ်။ ခန္ဓာကိုယ်အင်္ဂါအစိတ်အပိုင်းတို့၏ ဖောက်ပြန်မှုကို တစိတ် တဒေသသော်ရင်း၊ အသားများ ပွဲကျခြင်း၊ ပေါက်ပြဲသွားခြင်း၊ မီးလောင်ဖုများကဲ့သို့ ဖြစ်၍ ပေါက်ပြဲကျခြင်း သော်ရင်း၊ ပုလဲလုံးကလေးများ ထွက်သလို သော်ရင်း၊ မိုးရွာချသလိုသော်ရင်း မိမိခန္ဓာကိုယ်ပေါ်တွင် တွေ့ရတတ်တယ်။

အဲဒီနောက် သမာဓိအားကောင်းလာသည်နှင့် မိမိခန္ဓာကိုယ်ပေါ်တွင်ဖြစ်ပျက်မှုဝေဒနာကို သတိကပ်လိုက်ပါများလာတော့၊ ဥဒယဗ္ဗယဉာဏ်အမြင်သန်လာသည်နှင့် ဝေဒနာသည်သာမှုဝေဒနာပညာဖြစ်ပြီးမိမိခန္ဓာကိုယ်မွေးတွင်းပေါက်က (မီးခဲနဲ့မီးခတ်ကျောက်ခတ်လိုက်တဲ့အခါ မီးပွင့်သောမီးပွင့်ပမာကဲ့သို့) ဖွား-ဖွား-ဖွား-ဖွားနဲ့ တွေ့မြင်ရတဲ့အပြင် စိတ်, စေတသိက်, ရုပ်တို့၏ ဖောက်ပြန်မှု ဖြစ်ပျက်မှုများကိုလဲ ပိုင်ပိုင်နိုင်နိုင် ပိုင်းပိုင်းခြားခြားကြီး သိမြင်လာလိမ့်မယ်။ အဲဒီတော့မှ "သြော်-ငါ့မှာ ခြေလက်စသောသဏ္ဌာန်သည်မရှိ၊ ပရမတ္ထသဘောသာ ရှိပါကလား" ဟု မိမိဉာဏ်မှာ သိမြင်၍ လာလိမ့်မယ်။ တလောကလုံး ပုဂ္ဂိုလ်သတ္တဝါယောကျ်ားမိန်းမ လူနတ်ဗြဟ္မာရယ်လို့ စွဲလမ်းထားကြတာဟာ အမှန်ကို မမြင်ရသေးလို့ဘဲ၊ အမှန်ကို သိမြင်ရတော့ဘာမျှမဟုတ် သဘောတရားသက်သက်တွေပါ ကလားလို့

ယောဂီပုဂ္ဂိုလ်၏ဉာဏ်မှာအမှန်ကိုသိမြင်လာတော့သဘော ပေါ် သဘောကျပြီး ရတနာသုံးပါးကို ရှေးကထက် ပိုမို ယုံကြည်ခြင်း, ကြည်ညိုခြင်းများ ဖြစ်လာတတ်တယ်၊ အဲဒီ အခါကျတော့မှ အတွင်းအာယတနသူလျှိုခြောက်ယောက် ကို သတ်သည်မည်တယ်၊ ဤမှစ၍ သဿတဒိဋ္ဌိ, ဥစ္ဆေဒဒိဋ္ဌိ နှစ်ပါးကို ပယ်သည် မည်တယ်။ သို့သော် အမြစ်တော့ မပြတ်သေး။

မိမိ ခန္ဓာကိုယ်ပေါ်မှ ဝေဒနာကို သတိနှ သုံးသပ်ပြီး ငြိမ်သက်တည်ကြည်နေတာကသီလ၊ တည်ကြည်ပြီးအလင်း ရောင်ကို ထွန်းပြတာက သမာဓိ၊ စိတ်-စေတသိက်-ရုပ်ဟု ဆိုအပ်သော ရုပ်-နာမ်နှစ်ပါး ပရမတ်သား, ဓာတ်သား သဘာဝတရား အစစ်ကိုမြင်၍ ဝေဘန်တာက ပညာ၊ အဲဒါ ကို သီလ-သမာဓိ-ပညာ သိက္ခာ သုံးပါးလို့ ခေါ်တယ်၊ အဲဒါ လောကီသီလ၊ လောကီသမာဓိ၊ လောကီပညာသာ ရှိသေးတယ်။

(ကျေးဇူးရှင် ဆရာတော်ဘုရားကြီးက ဝိသုဒ္ဓိနှင့် ယှဉ်ပြ သည်မှာ ဝေဒနာပေါ် သတိကပ်ပြီး လိုက်နေစဉ် ဇာနေ့ ငါးပါးလုံ့ချိသည်ဖြစ်၍ သီလဝိသုဒ္ဓိ-သီလ စင်ကြယ်တယ်။ ဝေဒနာပေါ်မှာ စိတ်တည်နေတော့ စိတ္တဝိသုဒ္ဓိ-စိတ် စင် ကြယ်တယ်။ သီလကလဲ စင်ကြယ်တယ်၊စိတ်ကလဲ စင်ကြယ် တော့ မှန်တာမြင်ရတာပေါ့။ မှန်တာ မြင်တယ် ဆိုတာ ဘယ်လိုတုံးလို့ မေးတယ်ဆိုပါတော့၊ မိမိခန္ဓာကိုယ် မွေး

တွင်းပေါက်က မီးခတ်နဲ့ မီးခတ်ကျောက် ခတ်လိုက်တော့ မီးပွင့်ကလေးတွေ ဖွား-ဖွား-ဖွား-ဖွားနဲ့ မြင်ရသလို မြင်ရတယ်၊ အဲဒီလို မြင်ရတော့ ငါ့မှာ ခြေလဲမရှိ၊ လက်လဲမရှိ ယိုယ်လဲမရှိ၊ ခန္ဓာကိုယ်ကြီး သုဉ်းသွားတယ်။ အဲဒီတော့ အမြင်စင်ကြယ်တယ်။ အဲဒါဒိဋ္ဌိဝိသုဒ္ဓိလို့ခေါ်တယ်။ အဲဒီလို မြင်ရတော့ ဟုတ်ပါပေတယ်၊ မှန်ပါပေတယ်ဟု ဘုရားကို ယုံကြည်ခြင်း၊ တရားကို ယုံကြည်ခြင်း၊ သံဃာကို ယုံကြည် ခြင်းများ ဖြစ်လာတယ်။ အဲဒီတော့ ယုံမှား ကင်းသွားတာ ပေါ့-အဲဒါ ကင်္ခါဝိတရဏ ဝိသုဒ္ဓိလို့ခေါ်တယ်)။

ဝေဒနာ သညာမှ ဝေဒနာပညာဖြစ်အောင် ဇွဲသန်သန် နဲ့ ဆက်လက် အားထုတ်သွားပြန်တော့ ရှေးက မကြုံဘူး မတွေ့ရဘူးသော အလွန်ကြည်လင်သန့်ရှင်းတဲ့ အရောင် အ လင်း နှစ်သက်ခြင်း ငြိမ်သက်ခြင်းများ ဖြစ်ပေါ်လာတတ် ကယ်။ အဲဒါဝမ်းသာနေစရာ မဟုတ်ဘူး၊ ဝမ်းသာမနေနဲ့၊ တွယ်တာမနေနဲ့၊ ကြည်လင်သန့်ရှင်း အရောင်အလင်း နှစ် သက်ခြင်းများကိုတွယ်တာနေပါက အန္တရာယ် ၁၀-ပါးထဲ နစ်နေတတ်တယ်။ အဲဒီရောက်အောင်ဟာလဲ အလွန် ခဲခဲ ယဉ်းယဉ်း ကြိုးစားအားထုတ်ပါမှ ရောက်နိုင်တာ၊ ဒါတွေ ဟာ တွေ့ရမဲ့လမ်းစဉ်တွေဘဲ၊ အဲဒါကိုပင် နိကန္တိလို့ခေါ် တယ်၊ အဲဒီနိကန္တိလို့ခေါ်တဲ့ အရောင် အလင်း နှစ်သက် ခြင်း ငြိမ်သက်ခြင်းများကို ပယ်လိုက်သော ဇောက ညီမျှ၍ မနောဒွါရာဝဇ္ဇန်းဖြစ်ပြီးနောက် သင်္ခါရုပေက္ခာဉာဏ် ဖြစ် ပေါ်လာလိမ့်မယ်။

ဘိုသခ်ါရုပေက္ခာဆိုတဲ့ ပရိကံ-ဥပစာ-အနုလုံဇောများက ကိလေသာ တရားတို့ကို ကင်းစင်သွားအောင် ပြုပေးတော့ ဂေါတြဘူက နိဗ္ဗာန်ကို သညာပေးလိုက် တာနဲ့ ဂေါတြဘူ သညာသို့ လိုက်၍ ၎င်းဂေါတြဘူ သညာပေးသော နိဗ္ဗာန်ကို အမှိတ်ကဲ သယ်ပြုပြီး မဂ်က အနုသယကိလေသာကို ပယ်ပါရော၊ အဲဒီတော့မှ ပြည့်ရှင်မင်း နှစ်ယောက်နှင့်တူသော သဿတဒိဋ္ဌိ, ဥစ္ဆေဒဒိဋ္ဌိကို အလျင်းသတ်သည်မည်တယ်၊ အမိအဘနဲ့တူတဲ့ တဏှာနဲ့ မာနကတော့ ကျေးဇူး အလွန်များလှသောကြောင့် တကြိမ်တည်း သတ်ရုံမျှနဲ့မသေ၊ လေးကြိမ်သတ်မှသာ သေတယ်။ သတ်လိုက သတ်ကြပေတော့။

ဒါနဲ့ ဆက်ဟောရ အုံးမယ်၊ ဥပမာ-နလံထခါစ လူတယောက်ဟာ အညှီအဟောက်လဲ စားချင်၊ ပိုက်ဆံကလဲ မရှိတုန်း မြစ်ကမ်းနားလျှောက်သွားရင်းလိပ်ကြီးတကောင် တွေ့တယ်ဆိုပါတော့၊ လိပ်ကြီးတွေ့တော့၊ ဟာ-နေရာကျလိုက်လေ ဒီလိပ်ကြီးတော့ ဖမ်းမှဘဲဆိုပြီး ရေစပ်ဆင်းဖမ်းတာပေါ့၊ ဖမ်းတော့ လူကလဲ နလံထစ အားအင်ကလဲမရှိတုန်း ဆိုတော့ လိပ်ကြီးက ရုန်းလိုက် လူက ဆွဲလိုက်နဲ့ နောက်တော့ လိပ်ကြီးနောက်သာ လူပါသွားပါရော။ဒါနဲ့ တဖြေးဖြေး ခြေဆစ်ကဒူးဆစ်၊ ဒူးဆစ်ကပေါင်ရင်း၊ ပေါင်ရင်းက ရင်ခေါင်း၊ ရင်ခေါင်းက ပါးစပ်အထိ ရေနက်ထဲ ရောက်သွားတယ်။ ဒီတော့မှ ဟော့-လိပ်ကြီး, လိပ်ကြီး-နှင့်တခါလွှတ် ငါ့-ဆယ်ခါလွှတ် ဆိုပြီး လွှတ်လိုက် ရတော့တယ်။ ခုလဲတရားလာအားထုတ်တဲ့ ပုဂ္ဂိုလ်ဆိုရင် ဘုန်းကြီး

တို့ကတော့ မပြန်စေချင်ဘူးပေါ့၊ ဒါပေမဲ့ လပ်ဝ်ကြီးလိုဘဲ နင့်တခါလွှတ် ငါ့ဆယ်ခါလွှတ် ဆိုသလို လွှတ်လိုက်ရတာ ပေါ့။

"အဲဒီလိုဘဲ သတ္တဝါတွေသံသရာရေယဉ်ကြောမှာမျော နေကြတာကို မြင်နေရလို့ မကြည့်ရက်နိုင်တာနဲ့ ဘုန်းကြီး ကတော့ လက်လှမ်းမမှီတဲ့လူ လက်လှမ်းဆွဲ့ဝေးတဲ့လူ ကြိုး ပစ်ပေး၊ ဝါးပစ်ပေးနဲ့ပေါ့။ အဲဒါနဲ့မှ လက်လဲလှမ်း မဆွဲ၊ ကြိုးဝါးလဲ မကိုင်ကြဘူးဆိုရင် ကိုယ့်ထိုက်နဲ့ ကိုယ့်ကံ ကြိုး စား၍သာ ခံကြပေတော့။

ဘုန်းကြီး နောက်ဆုံး သတိပေးစကား ပြောလိုက်ရအုံး မယ်၊ ခရီးသွားတဲ့ သူငယ်ချင်း နှစ်ယောက်ဟာ ဟင်း ကောင်းကလဲစားချင် ဝယ်လို့ကလဲ မစားနိုင်လေတော့ သူ ငယ်ချင်းရှေ့ မင်းနဲ့ငါ စိတ်ကျွေး-ကျွေးပြီး စိတ်စားစားရ အောင်လို့ ပြောတယ် ဆိုပါတော့၊ ဒီတော့ တယောက်က အေး-ကောင်းတယ်၊ကိုင်း-ကျွေးကွာလို့ပြောတယ်၊ဒီတော့ တယောက်က ကိုင်း-ကျွေးတော့မယ် ကြက်သားဟင်းကွ အားရပါးရ စားလိုက်စမ်းပါ သူငယ်ချင်းရဲ့လို့ ဆိုသတဲ့၊ နောက်တယောက်က အောင်မာ ကောင်းလိုက်တာသူငယ် ချင်းရယ်။ ဒါနဲ့ ကြက် ကောင်ယုံကြော် ဝက်သားဟင်း အစရှိသည်တို့ကိုဆက်ကျွေးတာပေါ့၊ကျွေးလို့စုံတော့-ကိုင်း မင်းဝရင် ငါ့ကိုတလှည့်ကျွေးအုံးလို့ပြောတယ်၊ဒါနဲ့နောက် တယောက်က ကိုင်း-စားလိုက်စမ်း ဆင်ပေါင်ကြော်ကြီး၊

အောင်မယ် ထုံပျင်း ထုံပျင်းနဲ့ တယ်ကောင်းကွာ ပေးအုံး လေလို့ဆိုတော့ ကုန်အောင်ဘဲ စားပါအုံး ဆင်ပေါင် ကြော်ကြီးကွလို့ဆိုသတဲ့။

အဲဒီလိုဘဲ ဘုန်းကြီးကလဲ ဆင်ပေါင်ကြော်ကြီး ကျွေး လိုက်ရအုံးမှာပေါ့။ **ထိတော့သိ၊ သိတဲ့အခေါ်မှာ သတိထား** နေတာဟာ သမ္မာသနညာဏ်လို့ ခေါ်တယ်။ သမ္မာသနညာဏ် ကို ဘုရားအစရှိတဲ့ အရိယာ သူတော်ကောင်းတို့ဟာ ပရိ နိဗ္ဗာန်ပြုမှဘဲ လွှတ်ကြတယ်။ ဒါယကာ ဒါယိကာမကြီး တို့လဲ သွားနာလို့ မစားဘဲလဲမနေကြနဲ့ ကြိုးစားပြီး ဝါးကြ ပေတော့ဟု သတိပေး ဆုံးမတော်မူသည်။

## မီလုံးငှက်ငယ် ဝတ္ထု၊

ရှေးအခါက တောအုပ်တခု၌ မီလုံးငှက်မ တကောင်ရှိ သတဲ့။ ၎င်းငှက်မကြီးမှာ ယားငယ်ကလေး တကောင်ရှိ သတဲ့။ တနေ့သ၌ မီလုံးငှက်မကြီးက လူကလေး-သားကြီး မောင်ရယ်-အမေ အစာရှာသွားချေအုံးမယ်-အမေ့စကား နားထောင်နေ် ဟောသည် နွားခြေရာခွက်ထဲက ဘယ်မှ မထွက်လေနဲ့လို့ အတန်တန် မှာပြစ်ခဲ့သတဲ့။ သားငယ်က လေးမှာ အမိအစာရှာသွားခိုက် နွားခြေရာခွက်ထဲ မနေဘဲ အပြင်ထွက် ကျက်စားတာပေါ့။ ကျက်စားတော့ သိမ်းဆိုး ပွဲတွေ၍ သိမ်းဆိုးလက်သို့ ပါသွားသတဲ့၊ ငှက်ကလေးက သိမ်းဆိုး၏ ခြေထောက်ကြားကနေပြီး အမေ့စကား နား ထောင်လို့ သိမ်းဆိုးလက်သို့ ပါရတာ၊ နားထောင်လျှင်

ဤသိမ်းဆိုး လက်သို့ ပါမည် မဟုတ်ဟု စကားဆိုသတဲ့။ အောင်မယ်စကားကြီး စကားကျယ် အသင့်အမေက ဘယ်လိုမှာခဲ့သလဲ၊ နွားခြေရာခွက်ထဲမှာနေ မထွက်လေနဲ့လို့ မှာခဲ့တယ်။ ကိုင်း-ဒါဖြင့် အသင့်နေရာ ငါပြန်ပို့မယ်၊ ကောင်းပါပြီ ပို့သာပို့ပါ။ သိမ်းဆိုးက ငှက်ငယ်ကလေးကို နွားခြေရာခွက်သို့ပြန်ပို့သတဲ့။ ထိုအခါ ငှက်ငယ်ကလေးက အသင်သိမ်းဆိုး-အသင်သိမ်းဆိုး ကိုင်း-ငါ့ကို အသင် တတ်နိုင်သေးရဲ့လားလို့-စကားဆိုသတဲ့။ သိမ်းဆိုးက တဟုန်တည်းထိုးသုတ်လိုက်ရာ နွားခြေရာခွက် ခရောင်းချွန်နှင့် သိမ်းဆိုး၏ရင်အုံဆောင့်မိ၍ သေဆုံးခြင်းသို့ရောက်ရှာသတဲ့။

အဲ-ဗီလုံးငှက်မကြီးက ပြည်နွေ့စေတသိက်နှင့် တူတယ်၊ နွားခြေရာခွက်က ခန္ဓာကိုယ်နှင့်တူတယ်။ ငှက်ငယ်ကလေးကတော့ စိတ်နှင့်တူတယ်၊ သိမ်းဆိုးက ရူပါရုံ, သဒ္ဒါရုံ, ဂန္ဓာရုံ,ရသာရုံ,ဖောဋ္ဌဗ္ဗာရုံဆိုတဲ့ အာရုံပါးငါး ကာမဂုဏ်တရားကို ခေါ်တယ်။

အဲ-ထိုဥပမာအတိုင်းဲ ဖဿပစ္စယာဝေဒနာ၊ဝေဒနာပစ္စယာ····ဝေဒနာတွင်ထား-တဏှာ မကူးစေနှင့် တဏှာကူးလျှင် သိမ်းဆိုးနှင့်တွေ့လိမ့်မယ်။အမိစကား နားထောင်ကြပါကုန်။

---

## ရန်သူမျိုးငါးပါးတရားတော်

ရန်သူမျိုး ငါးပါးအကြောင်း ဟောတော်မူပါဘုရား။

အေး-ဒကာကြီး ဒကာမကြီးတို့ မှတ်သား ပြောဆို ခေါ်ဝေါ်နေကြတဲ့ **"ရေ, မီး, မင်း, ခိုးသူ, မချစ်မနှစ်သက်သောသူ"** ရယ်လို့ ရန်သူမျိုး ငါးပါး ရှိတယ်မဟုတ်လား။ (ရှိပါတယ်ဘုရား)။ အဲသည် ငါးပါးဟာ အပြင်ရန်သူမျိုးသာဖြစ်ကြပြီး တဘဝ တခါလောက်သာ နှိပ်စက်နိုင်ကြတယ်။ ဘုန်းကြီးဟောမဲ့ ရန်သူမျိုးငါးပါးကတော့ တဘဝ တခါလောက်နှိပ်စက်တတ်တာမျိုး မဟုတ်ဘူး၊ တသံသရာလုံး နေ့ညမစဲ တသဲသဲ ဖြစ်ပေါ်ပေါက်ဖွား နှိပ်စက်နေကြတဲ့ ရန်သူမျိုး ငါးပါးကိုဟောမယ်။

ဒါကြောင့်– (ရေ) ဆိုတာက **မနောရေယဉ်** ဘဲ။ မနောရေယဉ်ဟာ အာရုံနောက် တကောက်ကောက် လိုက်ပြီး တသွင်သွင် ယိုစီးကျနေလို့ တဘဝပြီး တဘဝ တအိမ်ပြီး တအိမ် ဆိုသလို သံသရာအစအဆုံးမရှိ အကျိုးပေးတတ်သော သတ္တိရှိခြင်းကြောင့် ရန်သူတပါးလို့ ခေါ်တယ်။

(မီး) ဆိုတာက **လောဘအမီး, ဒေါသမီး, မောဟမီး** ကို-ဆိုတယ်။ အဲသည်မီးတွေဟာ ဘယ်လောက် ဆိုးသလဲဆိုရင် သတ္တဝါတွေအားလုံးကို တသံသရာလုံးအမြဲမပြတ် ဒလစပ် လောင်ကျွမ်း ညှဉ်းပမ်း တတ်တဲ့ သတ္တိ ရှိခြင်းကြောင့် ကြောက်စရာကောင်းသော ရန်သူတပါးလို့ ခေါ်တယ်။

(မင်း) ဆိုတာက ယခုလောကမှာ ပြည်ပိုင်အစိုးရက သတ်မှတ်ထားသောဥပဒေကိုကျူးလွန်ခဲ့သော် ကျူးလွန်သူ သာ ထောင်ဒဏ် သေဒဏ် ဆိုသလို ထိုက်တန် သလောက် အပြစ်ပေးခံရတယ် မဟုတ်လား၊ ဘုန်းကြီးဟောမဲ့ မင်းက တော့ **ကံ, စိတ်, ဥတု, အာဟာရ**-ဆိုတဲ့ တရားလေးပါးဘဲ၊ ဒီတရားလေးပါးကတော့ အင်မတန်တရားတယ်၊ ဘယ်သူ့ ကိုမှ မျက်နှာမလိုက်ဘူး၊ တသံသရာလုံး အစအဆုံးမရှိ နှိပ် စက်တတ်သော သတ္တိရှိတယ်၊တခါတခါ **မောင်ကံ-မောင် စိတ်-မောင်ဥတု-မောင်အာဟာရ**တို့ ဖောက်ပြန်လိုက်မှဖြင့် သတ္တဝါတွေအားလုံး အလူးအလဲ ခံကြရတယ်။ ဒါကြောင့် ကြောက်စရာကောင်းသော ရန်သူတပါးလို့ ခေါ်တယ်။

(ခိုးသူ) ဆိုတာကတော့ မျက်စိကခိုး၊ နားကခိုး၊ နှာ ခေါင်းကခိုး၊ လျှာကခိုး၊ ခန္ဓာကိုယ်ကလဲခိုး ဆိုသလို သံသ ရာဘဝအဆက်ဆက်တိုင်း အမြဲမပြတ် ဒလစပ် ခိုးယူပေါင်း သင်းတတ်သော သတ္တိရှိခြင်းကြောင့် ကြောက်စရာကောင်း သော ရန်သူတပါးလို့ ဆိုတယ်၊ အဲဒါကြောင့် မမြင်ချင်နဲ့၊ မကြားချင်နဲ့၊ မသိချင်နဲ့၊ **ချင်-သုံးချင်** ရှောင်ဘို့ ဘုန်းကြီး ခဏခဏ ဟောတယ် မဟုတ်လား။ ဟောပါတယ်ဘုရား။ အဲ-မြင်ချင်,ကြားချင်,သိချင်ကြရင် သံသရာရှည်တတ်တယ်။

(မချစ်မနှစ်သက်သောသူ)ဆိုသည်ကား-ဒကာဒကာမ ကြီးတို့ **ဇာတိ**-ဖြစ်လျှင် **ဇရာ,ဗျာဓိ,မရဏ-ဆိုတဲ့** အိုခြင်း, နာခြင်း, သေခြင်းများကို ဖြစ်ချင်ကြသလား၊ (မဖြစ်ချင်

ပါဘုရား)။ အဲ-မဖြစ်ချင်သော်လဲ ဇာတိရမှုဖြင့် အိုရလိမ့်မယ်၊ နာရလိမ့်မယ်၊ သေရလိမ့်မယ်၊ အိုခြင်း၊ နာခြင်း၊ သေခြင်း ဆိုတာတွေနဲ့ ပေါင်းသင်း ဆက်ဆံရအုံးမှာဘဲ။ ချစ်ရော ချစ်သလား (မချစ်ပါဘုရား)၊ အေး-မချစ်သော်လဲ ဇာတိ ဖြစ်မှုဖြင့် သူတို့နဲ့တဲ ချစ်ရအုံးမှာဘဲ။ မချစ်ခင် မနှစ်သက်ပေမဲ့ ဘယ်ဘဝသံသရာကစပြီး ချစ်ခင် ပေါင်းသင်း လာခဲ့ကြရမှန်းမသိဘူး၊ အဲဒါကြောင့် "အပ္ပိယေဟိ သမ္ပယောဂေါ ဒုက္ခော" လို့ မြတ်စွာဘုရားကိုယ်တော်မြတ်ကြီးက ဟောတော်မူတယ်၊ ဒါကြောင့်-အိုခြင်း၊ နာခြင်း၊ သေခြင်းဆိုတဲ့ မချစ်ခင် မနှစ်သက်သောတရားတွေနှင့် ချစ်ခင်ပေါင်းသင်းရခြင်းသည် ကြောက်မက်ဘွယ် ကောင်းသောရန်သူကြီးတပါးလို့ ဆိုတယ်။

အဲဒါ ရန်သူမျိုးငါးပါးလို့ခေါ်တယ်။

---

## သံသရာလည်ကြောင်း၊နှင့် ဖြတ်ကြောင်း၊ တရားတော်

(၁) မသိလို့- လိုချင်၊ လိုချင်လို့- စွဲလမ်း။ ။စွဲလမ်းတော့-ပြုလုပ်၊ ပြုလုပ်တော့-ရရှိ၊ ရရှိတော့ ခံကြပေတော့ တပည့်တို့။

(၂) မခံသာ မှန်ပါဘိ-သည့်တရား၊ ခံသာလျှင် သံသရာကြောမှာ။ မျှောလိမ့်အများ။

မသိတာက အဝိဇ္ဇာဆိုတဲ့ မောဟ၊လိုချင်တာက တဏှာဆိုတဲ့ လောဘ၊ စွဲလမ်းတာက ဥပါဒါန်။ ၎င်းတရား သုံးပါးနှင့် ပြည့်စုံတော့ လူ-နတ်-ဗြဟ္မာ-သူဌေးကြီး-သူကြွယ်ကြီး လောက အထက်တန်းစား ဖြစ်ချင်တာပေါ့။

ဤကဲ့သို့ ဖြစ်ချင်တော့ ကြောင့်ကြ တောင့်တပြီး ပြုလုပ်တယ်ဆိုပါတော့၊ အဲသည်လိုပြုလုပ်တော့ရရှိတယ်။ ဘာကိုရရှိသလဲဆိုရင် ဇာတိကိုရရှိတယ်၊ ဇာတိကိုရရှိမှဖြင့် မအိုချင် မနေရ၊ မနာချင် မနေရ၊ မသေချင်မနေရ၊ ဇာတိ ဆိုတဲ့ ဝဋ်ကောင်ကြီး ရရှိမှဖြင့် ကြွေးစားပြီး ခံကြဘို့ဘဲ-ခံကြပေတော့။

တပည့်တော်တို့မှာ ဝဋ်ဆင်းရဲကို ထိုထိုဘဝက ခံခဲ့ကြရလေပြီးဖြစ်သောကြောင့်မခံချင်ဘူးဆိုပါတော့၊မခံချင်လျှင် သီလ-သမာဓိ-ပညာ သိက္ခာသုံးပါးနှင့် ဘုရား-တရား-သံဃာ ရတနာသုံးပါး ဦးထိပ်ထားပြီး ဝိပဿနာ တရားသို့ မွှားမျှားအားထုတ်ကြ။

ဤကဲ့သို့ ခန္ဓာကိုယ်ပေါ်က သမာဓိတရားကြောင့် ဖြစ်ပေါ်လာသော ဝေဒနာကို သတိနှင့်လိုက်ပြီးသုံးသပ်တော့ မိမိစိတ်မှာ မခံသာသော သဘော ဖြစ်လာတယ်။ အဲဒါကြောင့်"မခံသာ မှန်ပါဘိသည့်တရား၊ခံသာလျှင် သံသရာကြောမှာ မျောလိ[illegible]များ"ဟု ဆိုသည်။ မိမိခန္ဓာကိုယ်ပေါ်မှာ ဖြစ်ပေါ်လာတဲ့ ဝေဒနာက အကျိုးကရား ဒုက္ခသစ္စာ၊ ၎င်းအကျိုးတရား ဒုက္ခသစ္စာတရားကို ဝိပဿနာ

ရှုတော့ နာကျင် ကိုက်ခဲ၍ မခံသာသောကြောင့် ခံသာအောင် လွှတ်ပြစ်လိုက်တယ်၊ လွှတ်ပစ်လိုက်တော့ ဝေဒနာချုပ်ပျောက် သွားတယ်၊ ခံသာတော့ အမှန်မမြင်၊ အမှန်မမြင်တော့ ယထာဘူတ ဟုတ်မှန်သော ဉာဏ်ကိုမရ၊ ဤကဲ့သို့မရသောကြောင့်သံသရာဝဋ်ထဲမှာ တလည်လည်ခံနေရတယ်။

ဤကဲ့သို့ ဒုက္ခသစ္စာဖြစ်တဲ့ဝေဒနာက ဗိုလ်ငါးပါး လက်ကိုင်ထားပြီး သုံးသပ်လိုက်တော့ သူ့သဘောသူဆောင်ပြီး တသံသရာလုံးက မတွေ့မမြင်ဘူးသော ရုပ်နာမ်-ခန္ဓာသင်္ခါရတရားကိုတွေ့မြင်ရရော၊ အဲသည်တော့မှ စွဲလမ်းတဲ့အယူဟာ ပြုတ်သင့်သလောက်ပြုတ်ပြီး ချမ်းသာသင့်သလောက် ချမ်းသာလိမ့်မယ်၊ အဲသည်တော့မှ ရှေးရှေးသော အရိယာသူတော်ကောင်းကြီးတွေဟာ ထိုဝဋ်ဆင်းရဲကြီးကိုကြောက်၍ တရားကို အားထုတ်ခြင်းကြောင့် ယထာဘူတ ဉာဏ်ကိုရရှိ၍ အမှန်ချမ်းသာပြီး ဝဋ်ဆင်းရဲကို မလိုချင်၊ မလိုချင်တော့-မပြုလုပ်၊ မပြုလုပ်တော့-မရ၊ မရတော့-မခံရ၊ မခံရတော့-ချမ်းသာတာလို၊ ထို့အတူ အတုခိုး အားကျပြီး ပြုလုပ်ပါမှ အမှန်ကို ပိုင်းပိုင်းခြားခြား သိမြင်ရပါမှ ဝဋ်ဖြစ်ကြောင်း အလုပ်ကို မလုပ်၊ မလုပ်တော့-မရ၊ မရတော့ ချမ်းသာသည်၊ အဲသည် နှစ်လမ်းကို ကြိုက်ရာလမ်း သွားကြပေတော့။

(၁) မြင်တာကို သညာဖုံးတော့၊ သညာကို သင်္ခါရှင်းမှ သင်္ခါကင်းမယ်။

(၂) မြင်တာကို သညာဖုံးတော့ သညာ-သက်ာမရှင်း
က သက်ာမကင်းဘူး။

ကဲ-မြင်တာ သညာဖုံး ဆိုတာ တခြား မဟုတ်ဘူး၊ မျက်စိက မြင်ရုံသာရှိတယ်၊ လှပတင့်တယ် လိုချင်တယ်ဆိုတာက သညာ ခေါ်တယ်၊ ၎င်းသညာကို သက်ာမရှင်းတော့ စွဲလမ်းမှု သံသယ မကင်းဘူး။ သက်ာ ရှင်းပုံမှာ-မျက်စိက မြင်ရုံသာမြင်တယ်၊ လှပတင့်တယ် လိုချင်တယ်ဆိုတာက သညာဟု ပညာက ဆုံးဖြတ်တော့ မလိုချင်ဘူး၊ မလိုချင်တာကို သက်ာရှင်းတယ်လို့ ဆိုရဝါယ်။

## ဥပမာ ဆိုလျှင်

တနည်းအားဖြင့် ဘဲမွေးသော ယောက်ျားနှင့်တူတယ်။ ဘဲမွေးသောယောက်ျားသည် ကြက်မဥသောအခါ ကြက်ဥကိုယူ၍ ဘဲဥကို ထည့်ထား၏။ ကြက်မက ဘဲဥကို ဝပ်ရသဖြင့် ပေါက်ချိန် တန်သောအခါ ဘဲကလေးတွေပေါက်၍လာ၏၊ ကြက်မကြီးက မိမိသားပင် မှတ်ထင်ပြီး အစာယက်၍ ကျွေးခြင်း, စောင့်ရှောက်ခြင်းတို့ကို ပြုလုပ်၏၊ ဘဲသတ္တဝါသည် ရေ၌ကျက်စားသည်ဖြစ်၍ တနေ့သောအခါ ရေသို့ဆင်း၍ကျက်စားလေသော် အမိဖြစ်သောကြက်မကြီးက ရေသို့မဆင်းနိုင် ကုန်းပေါ်ကမှိုင်ပြီး ငါ့သားတွေ-ငါ့သမီးတွေ- လာခဲ့ကြ- လာခဲ့ကြလို့ အော်နေတာဟာ-သက်ာမရှင်းတာနှင့် တူတယ်၊ ဘဲမွေးသောယောက်ျားက သညာနှင့် တူတယ်၊ သညာနှင့်တူသော ယောက်ျားက

ကြက်ဥကိုယူ၍ ဘဲဥကို လိမ်ထည့်ထားတော့ လောဘနှင့်တူသော ကြက်မကြီးက ငါ့ဟာ ငါ့ဟာဟု ထင်မှတ်စွဲလမ်းပြီး စောင့်ရှောက်ရသဖြင့် ပင်ပန်းဆင်းရဲခြင်းခံရတယ်၊ ဘဲသတ္တဝါကတော့ ပရမတ္ထသဘာဝနဲ့တူတယ်၊ ငါ့ဟာလို့မှတ်ထင်ပြီး ငါ့သား-ငါ့သမီးတွေ လာကြလို့ ကုန်းပေါ်ကရင်ကွဲအောင် ကတော်၍ခေါ်ငြားသော်လဲ ပရမတ္ထသဘာဝနှင့်တူသော ဘဲကလေးတွေက သူတို့ ကျက်စားနေကျအာရုံသဘော ဖြစ်သောကြောင့် ကြက်မကြီးထံ လာချင်မှလာမယ်၊ အဲသည်တော့ ကြက်မကြီးမှာ ဒုက္ခရောက်ရတယ်၊ ဘာကြောင့် ဒုက္ခရောက်ရသလဲဆိုတော့ သက်ာမရှင်းတတ်လို့ ရောက်ရတယ်။ ဒါကြောင့် မြင်တာ သညာဖုံးတယ်၊ သညာ သက်ာမရှင်းက သက်ာမကင်းဘူးလို့ ဆိုတယ်။

အဲဒါကြောင့် မြင်တိုင်း-ကြားတိုင်း-လျက်တိုင်း-နံ့တိုင်းတွေ့ထိတိုင်းတို့၌ ကာယတံခါးဝက သတိနှင့်စောင့်၍သတ်သွားပါက သညာ ဥပါဒ် မဖြစ်တော့ဘဲ အမှန်ကို သိမြင်လာလိမ့်မယ်။

အဲသည် အမှန်တရားသည် ပရမတ္ထသဘောဘဲ၊ပရမတ္ထသဘောတရားဆိုတာ ဖြစ်ပျက်ခြင်း သဘောကို ဆိုတယ်၊ **"ရှေ့နှင့် နောက်ဟာ၊ မတူပါ၊ စဉ်လာဖြစ်ပျက်မူ"** ဆိုသည့်အတိုင်း ငါ့အလိုမဟုတ် သူ့သဘောသူဆောင်တဲ့သဘောတရား သက်သက်ပါ ကလားလို့ သိသည်နှင့် တပြိုင်နက်သက်ာရှင်းတော့တာဘဲ။ အဲသည်တော့မှ သဘောပေါ်သဘောကျလာလိမ့်မယ်။ ဒါကြောင့်— **မြင်တာ သညာဖုံး**

**တယ်၊ သညာ သက်ာရှင်းတော့ သက်ာ ကင်းတယ်။ အရှိကို ကြည့် မရှိကို မြင်တတ်သည့် ပုထုဇဉ်ကန်း....လို့ ဆိုတယ်။**

---

## ဦးလောကနာထ ကြွရောက်၍ ဖူးမြော်ခြင်း

၁၃၁၃-ခုနှစ်ရှင်သာရိပုတ္တရာနှင့်ရှင်မဟာမောဂ္ဂလာန် အရှင်မြတ်တို့၏ ဓာတ်တော်များ ပင့်ဆောင်သည့် အဖွဲ့နှင့် အတူမြင်းခြံမြို့သို့အီတာလျံဘုန်းတော်ကြီးဦးလောကနာထ ကြွရောက်လာ၍ ကျေးဇူးရှင် စွန်းလွန်း ဂူကျောင်းဆရာ တော်ဘုရားကြီးထံ စုံစမ်းသည့်အနေဖြင့် ဝင်ရောက်ဖူးမြော် လေသည်။

စွန်းလွန်းဆရာတော်ဘုရားကြီးအား ဖူးမြော်ရသည့်ခဏ ဦးလောကနာထတွင် အလွန်ကြည်ညိုသောစိတ် ဖြစ်ပေါ် လာသည်နှင့် ထိခြင်း ငါးပါးတို့ဖြင့် ရှိခိုးကန်တော့လေ သည်။ ထိုနောက် ဆရာတော်ဘုရားကြီးအား **ဘုရားအစစ်-တရားအစစ်-သံဃာအစစ်**-ကို သိလိုကြောင်း လျှောက်ထား သည်နှင့် ဟောကြားတော်မူသည်မှာ ....

ဘုန်းကြီးတို့မြတ်စွာဘုရားဟာ မဇ္ဈိမဒေသ,ကဖြစ်တယ်၊ သိဒ္ဓတ္ထကုမာရ မင်းသားဟာ ဘုရားအဖြစ်ကို လိုချင်လို့ မိဘ-သားမယား-ဆွေမျိုးအားလုံးကို စွန့်ပြီး တောထွက် သွားတယ်၊ အဲဒီလို တောထွက်ပြီးနောက် ဗောဓိပင်နှင့် ရွှေပလ္လင်ပေါ်ကျတော့ နှာသီးဝ ကာယတံခါးကို လေတိုး

ထိ၊ ထိတော့သိ၊ သိတဲ့အပေါ် သတိထားပြီး ကိုယ့်ကိုယ်ကို သုံးသပ်လိုက်ထာ ပဌမအလင်းရတယ်၊ အလင်းရပြီး-ဖြစ်မှု ပျက်မှုကိုမြင်တယ်၊နောက်တော့ဟံခါးဆုံကတံခါးပွင့်သွား တယ်၊အဲဒီတံခါးဆုံဟာဘယ်မှာရှိသလဲလို့ မေးတယ်ဆိုပါ တော့။ဘုန်းကြီးတို့ကတော့ ဦးခေါင်းထဲမှာရှိတယ်လို့ပြော မှာဘဲ၊ ဘယ်တံခါးပွင့်သလဲဆိုရင် မျက်စိ-နား-နှာခေါင်း ပါးစပ်-ကာယ-မန အဲဒီ တံခါးခြောက်ပေါက် ပွင့်သွား တယ်။**အဲဒီပွင့်ခြင်း**-ကို **"ဗုဒ္ဓ"**လို့လဲခေါ်တယ်၊ ဘုရားဘို့လဲ ခေါ်တယ်၊ ပွင့်ခြင်းလို့လဲခေါ်တယ်၊ အဲဒီတံခါးပွင့်သွား **တော့** သစ္စာလေးပါးကို လေးကြိမ်မြင်ရတယ်၊ **အဲဒီသစ္စာ လေးပါးကို "တရား"** လို့ခေါ်တယ်။ **မဂ်က လေးပါး၊ ဖိုလ်က လေးပါး အပေါင်းကို "သံဃာ"** လို့ခေါ်တယ်။ အဲဒါ **ဘုရား စစ်-တရားစစ်-သံဃာစစ်** ဘဲဟု ဟောတော်မူပြီး ဓမ္မစကြာ တရားတော်ကို ဆက်သက် ဟောတော်မူသည်။

ဓမ္မစကြာ တရားတော်ကို နာကြားရပြီးသော အခါ ဦးလောကနာထသည် အလွန်သဒ္ဓါထက်သည်ဖြစ်၍ ဆရာ တော်ဘုရားနှင့်တွေ့ရတာ အမိအဖ,အစ်ကိုအစ်မများတို့နှင့် တွေ့ရသလိုပါဘဲဘုရား၊ဆရာတော်ဘုရားနှင့် နောက်ကော တွေ့ရအုံးမှာလား ဘုရားဟု လျှောက်ထားပြန်ရာ မတွေ့ရ တော့ဘူးဟု အမိန့်ရှိသည်နှင့် ဘာပြုလို့ မတွေ့ရတော့မှာ လဲဘုရားဟု လျှောက်ထားလေ၏။ ထိုအခါ ဆရာတော် ဘုရားကြီးက ကိုယ်တော်က ဘုရားဆုပန်ဆိုတော့ လူ့စွမ်း ကောင်းကြီးပေါ့၊တပည့်တော်တို့က ကိုယ်တော်တို့လိုသတ္တိ

မကောင်းဘူး၊ ဒါကြောင့် မတွေ့ရတော့ဘူးဟု ပြန်လည် အမိန့်ရှိလေသည်။ ထို့နောက် ဦးလောကနာထသည် ဆရာတော်ဘုရားကြီးအား တိစီဝရိက်သက်န်းနှင့် လှူဘွယ်ဝတ္ထု အမျိုးမျိုးတို့ကိုလှူဒါန်း၍လျှောက်ထားပြန်သည်မှာ တပည့်တော်၏ မိဘများဟာ မိစ္ဆာအယူနှင့် ဘဝတပါး ပြောင်းရွှေ့ သွားကြရပါတယ်၊ ယခု လှူဒါန်းရသော ကုသိုလ်ကောင်းမှုကြောင့် သမ္မာအယူ ရနိုင်ကြပါ့မလားဘုရား၊ ထိုအခါ ဆရာတော်ဘုရားက အမျှပေးဝေလို့ သာဓုခေါ်နိုင်ရင် သမ္မာအယူဖြစ်နိုင်ပါတယ်လို့အမိန့်ရှိသည်နှင့် အမျှပေးဝေလေ၏။ ၎င်းနောက်အီတာလျံဘုန်းတော်ကြီးဦးလောကနာထသည် ဆရာတော်ဘုရားကြီးအား ကန်တော့ပြီးလျှင် ပြန်ကြွသွားလေ၏။

---

**ကျေးဇူးရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီးသည် ရန်ကုန်မြို့ ဘောက်ထော် စွန်းလွန်းဂူကျောင်းတိုက်ခွဲတွင် သိမ်သမုတ်ရန် ကြွလာတော်မူခြင်း**

မြင်းခြံမြို့ ကျေးဇူးရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီးသည် ရန်ကုန်မြို့မှ တပည့်ကြီး ဦးတင်ဖေ-ဒေါ်သိန်းခင်၊ ဦးအောင်မြတ်-ဒေါ်ဧးခင်တို့၏ အကြိမ်ကြိမ် ပင့်လျှောက်ထားခြင်းဖြင့် ၁၃၁၃-ခု တပေါင်းလပြည့်ကျော် ၁၂-ရက်နေ့တွင် ဦးတင်ဖေ-ဒေါ်သိန်းခင်၊ဦးအောင်မြတ်-ဒေါ်ဧးခင်တို့၏ ကြိုးပမ်းတကုတ်အားထုတ်၍ တည်ထောင်

# (၂၂၂)   စွန်းလွန်းဆရာတော်ဘုရားကြီး၏

သော ဘောက်ထော် စွန်းလွန်းဂူကျောင်းတိုက်ခွဲသို့ တိုက်အုပ်ဆရာတော် ဦးသောဘဏနှင့်အတူ လေယာဉ်ပျံဖြင့်ကြွရောက်တော်မူရာ-လေယာဉ်ပျံကွင်းမှ ဘောက်ထော် စွန်းလွန်းကျောင်းသို့ဝန်ကြီးဟောင်းဦးဘဂျမ်း-ဒေါ်မြကြည်တို့၏ ပြင်ဆင်ထားရှိသော မော်တော်ကားဖြင့် ပင့်ဆောင်ခဲ့လေသည်။ တပေါင်းလပြည့်ကျော် ၁၄-ရက် တနင်းလာနေ့ ညနေ ၂-နာရီအချိန်တွင် သံဃာတော် ၂၄-ပါးနှင့်တကွ သိမ်သမုတ်တော်မူသည်။

မြင်းခြံမြို့ ကျေးဇူးရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီး၏ တပည့်ကြီးဖြစ်သော ရန်ကုန်မြို့ ဝွတ္တလစ်လမ်း သီရိမင်္ဂလာ ကျောင်းတိုက်၊ ခနဖြူ ဆရာတော် ဦးကုသလသာမိသည် ကျေးဇူးရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီးနှင့် တိုက်အုပ် ဆရာတော် ဦးသောဘဏတို့၏ စေခိုင်းချက်အတိုင်း သိမ်သမုတ်ရာ၌ လိုအပ်သောပြဲ့ဘွယ်ကိစ္စအဝဝတို့ကို အချိန်မှီ-ပြီးစီးအောင် ဆောက်ရွက်ခဲ့လေသည်။

ဘောက်ထော စွန်းလွန်းဂူကျောင်းတိုက်ခွဲတွင် သီတင်းသုံးနေတော်မူစဉ် ဆရာတော် ဘုရားကြီးသည် ၆-ရက်တိုင်တိုင် ဖူးမြော်ရန်လာရောက်ကြသော ဒါယကာ-ဒါယိကာမတို့၏ အဖူးမြော်အပူဇော်ခံပြီး နေ့ဘက်တွင်တရားဓမ္မဟောပြ သွန်သင် ဆုံးမတော်မူ၍ ညချမ်းတွင် သမထဝိပဿနာ တရားများကို ပြသတော်မူသည်။

နှောင်းတန်ခူးလဆန်း ၃-ရက် သောကြာနေ့နံနက်တွင် သတိုး သီရိ သုဓမ္မ **ဆာဦးသွင်နှင့်** နိုင်ငံတော် လေကြောင်း သယ်ယူ ပို့ဆောင်ရေးအဖွဲ့ ဥက္ကဋ္ဌဟောင်း **ဦးစံသိန်း** တို့၏ လျှောက်ထား ပင့်ဆောင်ချက် အရ ရန်ကုန်မြို့ သာသနာ့ ရိပ်သာသို့ ကြွရောက်တော်မူ၍ ဒါယကာ ဒါယိကာမ အပေါင်းတို့အားတရားဓမ္မဟောပြဆုံးမတော်မူကာတည့် မျှသီတင်းသုံးနေတော်မူပြီး နှောင်းတန်ခူးလဆန်း ၄-ရက် စနေနေ့နံနက်တွင် မြင်းခြံမြို့သို့ ပြန်ကြွတော်မူလေသည်။

---

## ပရိနိဗ္ဗာန် ပြုခြင်း

ရန်ကုန်မြို့မှ ပြန်ကြွ လာတော်မူပြီး နောက် မြင်းခြံမြို့ ကျေးဇူးရှင် စွန်းလွန်းဂူကျောင်းဆရာတော်ဘုရားကြီးသည် ၁၃၁၃-ခုနှစ်၊သဆုန်လပြည့်ကျော် ၉-ရက်စနေနေ့ ညနေ ၅-နာရီအချိန်ခန့်တွင် ပရိနိဗ္ဗာန်ပြုတော်မူလေသည်။ ကြွင်း ကျန်ရစ်သော ရုပ်ကလာပ် တော်ကို အလိုတော် အတိုင်း လွှမ်းစေတီဂူတွင်းသို့ ထည့်သွင်းထားရှိခဲ့ရာမှတပည့်အများ ဖူးမြော်နိုင်ကြစေရန်၁၃၁၄-ခုနှစ်တပေါင်းလဆန်း ၂-ရက် နေ့ ၁၂-နာရီအချိန်တွင် တိုက်အုပ်ဆရာတော် ကိုယ်တိုင် ဦးစီး၍ လွှမ်းစေတီဂူတွင်းမှ ရုပ်ကလာပ်တော်ကို ထုတ်ယူ ပြီး စံကျောင်းတော်သို့ ပင့်ဆောင်ကြလေသည်။

ကျေးဇူးရှင် ဆရာတော် ဘုရားကြီး ပရိနိဗ္ဗာန် ပြုသည်မှ တနှစ် ပြည့်မြောက်သော ၁၃၁၅-ခု ကဆုန်လပြည့်ကျော်

၉-ရက် ညနေ ၄-နာရီ ၅၅-မိနစ်အချိန်တွင် ရုပ်ကလာပ်တော်ကိုခေတ္တကိန်းဝပ်ရာ စံကျောင်းတော်မှ တည်ဆောက်ဆဲဖြစ်သော ဂန္ဓကုဋိ စေတီတော်ကြီးအတွင်းသို့ ခမ်းနားသိုက်မြိုက်စွာ ပင့်ဆောင်ကြလေသည်။

ဂန္ဓကုဋိ စေတီတော်ကြီးသည် တိုက်အုပ် ဆရာတော် ဦးသောဘဏ အရှင်သူမြတ်၏ နေ့ရောညပါ မနေမနား ဦးစီးဆောင်ရွက် ကြိုးစားချက်ဖြင့် မြှော်မှန်းခဲ့သည့် အချိန်အတိုင်း ပြီးမြောက်သည်နှင့် ကျေးဇူးရှင် ဆရာတော်ဘုရားကြီး၏ မွေးနေ့ဖြစ်သော ယိုနှစ် တပေါင်းလဆန်း ၂-ရက်နေ့တွင် သံဃာတော် အပါး ၁၀၀-ကျော်တို့ဖြင့် စေတီတော် အနေကဇာတင်ပွဲတော်ကြီးကို ကြီးကျယ်ခမ်းနားစွာ ကျင်းပ ပြီးစီးခဲ့သည်။

ကျေးဇူးရှင် ဆရာတော် ဘုရားကြီး ရုပ်ကလာပ်တော်သည် ပရိနိဗ္ဗာန် ပြုပြီးသည့်နေ့မှ စ၍ ယခုတိုင် မည်သို့မျှ ချို့ယွင်းခြင်းမရှိ၊ ပကတိအတိုင်း ချိုသင်းသော အနံ့တော်ဖြင့် ကြည်ညိုဘွယ်ရာ ဝိသေသထူးကို ဆောင်လျက် တည်ရှိလေသည်။

ကျေးဇူးရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီး ပရိနိဗ္ဗာန်ပြုပြီးသည်နောက် မြင်းခြံမြို့ စွန်းလွန်းဂူကျောင်းတိုက်တွင် ကျေးဇူးရှင် ဆရာတော်ဘုရားကြီး သက်တော်ထင်ရှားရှိစဉ်ကစ၍ ပရိနိဗ္ဗာန်ပြုတော်မူသည်တိုင် အသက်ပါအပ်နှင်း၍ အားထားခြင်း ခံခဲ့ရသော တိုက်အုပ်ဆရာ



စွန်းလွန်း ဂန္ဓကုဋိ သံသရာအေး ဇေယ်တော်မြတ်ကြီးအား ဖူးမြင်ရပုံ။



ဂန္ဓကုဋ္ဋိသံသရာအေးစေတီတော်ကြီးကို ဦးစီးတည်ဆောက်သော
တိုက်အုပ်ဆရာတော်ဘုရား။

ကျေးဇူးရှင် ဆရာတော်ကြီးသည် ဇာတိက စွန်းလွန်းရွာသား ငယ်စဉ်တောင်ကျေး ကလေးတုန်းက မိဘများ ဆင်းရဲလွန်းလို့ ကျောင်းကို မနေနိုင်ဘူး၊ တောသွားပြီး နွားကျောင်း နေရတယ်၊ အဲဒီတော့ စာ မရေးတတ်ဘူး၊ စာမဖတ်တတ်ဘူး ဆိုတာ သူတို့သိပါလျက်နှင့် အမေးရှိတော့ အဖြေရှိရမှာကိုး၊ ဒီတော့ ကျေးဇူးရှင်ဆရာတော်ကြီးက တပည့်တော် သဘောကျသလို ဖြေပါဆိုလျှင် ဖြေမယ်၊ ဒီလိုမှ မဟုတ်လျှင် မဖြေဘူးလို့ စကားခံလိုက်တယ်။ ဒီတော့ ဆရာတော်ကြီးများက အရှင်ဘုရား သဘောကျသလိုဘဲဖြေပါလို့ ပြောကြတော့ ဆရာတော်ဘုရားကြီးက ပဋိစ္စသမုပ္ပါဒ် သံသရာစက်ဟာ သတ္တလောကမှာ တည်တယ်၊ စပ်တော့ တံခါးမှာစပ်တယ်၊ ဖြတ်တော့ တံခါးက ဖြတ်လျှင် ဖြတ်တယ်လို့ဖြေလိုက်တယ်။

သတ္တလောက ဆိုတာ ဘယ်လိုဟာ ခေါ်ပါသလဲဆိုတော့ တရားအလုပ်ကိုအားထုတ်ကြတဲ့ ယောဂီပုဂ္ဂိုလ်များသည် သမာဓိ ကြီးထွား ကြီးထွားပြီး လာတော့ စိတ်-စေတသိက်-ရုပ်-ဆိုတဲ့ တရားသုံးပါး မပြတ်ဒလစပ် ဖြစ်ပျက်နေတာကို သတ္တလောကလို့ခေါ်တယ်။

စပ်တော့ တံခါးမှာ စပ်တယ်ဆိုတာက တံခါးဆိုတာ မျက်စိတံခါး၊ နားတံခါး၊ နှာခေါင်းတံခါး၊ ပါးစပ်တံခါး၊ ကာယတံခါး၊ မနတံခါး အဲသည်တံခါးများမှာ စပ်တယ်။ စပ်ပုံက စက္ခုနှင့်ရူပါရုံပြိုင်တဲ့အခါမှာ နှစ်သက်တဲ့ရူပါရုံကို

မြင်လျှင် လောဘ တဏှာ-သမုဒယသစ္စာ၊ မနှစ်သက်တဲ့ အနိဋ္ဌာရုံကိုမြင်လျှင် ဒေါသ-ဒုက္ခသစ္စာ၊နားကလဲ ကောင်းတဲ့ သဒ္ဒါရုံကို ကြားလျှင် လောဘတဏှာ-သမုဒယသစ္စာ၊ မကောင်းတဲ့ အနိဋ္ဌာရုံကို ကြားလျှင် ဒေါသ - ဒုက္ခသစ္စာ၊ ဘုရားဟောခဲ့တာက ဒုက္ခသစ္စာ,သမုဒယသစ္စာ,မဂ္ဂသစ္စာ, နိရောဓသစ္စာလို့ ဟောထားတယ်။

**သတ္တဝါတွေကို အကျိုးပေးနေတာက ဒုက္ခသစ္စာနှင့် သမုဒယ သစ္စာ၊ ရင်းနှစ်ပါးသာ လှည့်ပြီး အကျိုးပေးနေတယ်၊ အ်ဒါ သံသရာဘဲ။**

ဖြစ်တော့လဲ တံခါးကဖြစ်လျှင် ဖြစ်တယ်၊ ဘယ်လို ဖြစ်ရမလဲဆိုလျှင် စက္ခုနှင့်ရူပါရုံ ပြိုင်တဲ့အခါမှာ မျက်စိ ဆိုတာ မြင်ရုံသာ မြင်တတ်တယ်၊ ချောတယ် လှတယ်ဆို တာ သညာဘဲ၊ သူတကာက နင့်အမေ....နင့်နှမ....နှင့် ဆဲဆိုလိုက်ပြီ ဆိုပါတော့၊ မအေ–နှမ-ဆိုတာ သညာ၊ နားဆိုတာ ကြားရုံကြားတတ်ထာ၊ဘာမှ မဆိုင်ဘဲကလား၊ အဲဒီလိုမြင်တာနဲ့ သညာနဲ့ဖြစ်လိုက်၊ ကြားတာနဲ့ သညာနဲ့ ဖြစ်လိုက်၊ နံတာနဲ့ သညာနဲ့ဖြစ်လိုက်၊ ထိတာနဲ့ သညာ နဲ့ဖြစ်လိုက်၊ အဲသည်လို သတိနှင့် ဖြစ်ဖြစ် သွားတော့- ပြတ်မသွားပေဘူးလား။

**ဒါကြောင့် ဒအောကြီးတို့ သံသရာကို အဝေးကြီးလိုက်ရှာမနေ ကြနဲ့, တံခါးမှာ ကပ်လည်နေတယ်။**

## (၂၂၈) စွန်းလွန်းဆရာတော်ဘုရား ထေရုပ္ပတ္တိ

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ခြောက်ပေါက်သော တံခါးတို့တွင် တပေါက်သော တံခါးက သတိနှင့်ကပ်ပြီး ဖြတ်သွားခြင်းကြောင့် သံသရာမှ အေးသွားလေပြီ။ ဒါကြောင့် ဟောဒီစေတီကြီးကို "သံသရာအေးစေတီကြီး" လို့ ဘွဲ့ပေးရလျှင် "ဂုဏ်နှင့်ဒြပ်-ထပ်တူဟပ်" ဆိုဘိသကဲ့သို လေးနက် ကြံ့ခိုင် ဆည်ဆိုင်ကောင်းမွန်လိမ့်မည်ဟုသဘောရကြောင်း ...မြင်းခြံမြို့ စွန်းလွန်းဂူကျောင်း တိုက်အုပ်ဆရာတော်-ဦးသောဘဏ အရှင်သူမြတ်က အမိန့်ရှိတော်မူလေသည်။

ဤကဲ့သို တိုက်အုပ်ဆရာတော် အရှင်သူမြတ်မိန့်တော်မူသည့်အတိုင်း စေတီတော်မြတ်ကြီးကို.... "**သံသရာအေးစေတီတော်**" ဟူသော ကမ္ပည်းမော်ကွန်း သတ်မှတ်တော်မူသတည်း။

---

# မြင်းခြံမြို့ ကျေးဇူးရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီး၏

## ထေရုပ္ပတ္တိ-ရှစ်လုံးဘွဲ့ကဗျာ

၁။ စွန်းလွန်းမည်ရှိ .... ဇာတိရပ်ရွာ၊
တစ်,နှစ်,သုံး,ကိုး .... ခေါ်ရိုးကောဇာ
တပေါင်းလတက် .... နှစ်ရက်ဗျည္ဟာ၊
ကျွားမင်းနေ့ .... မရွှေဖွားမြောက်လာ။

၂။ လေးဆယ့်နှစ်နှစ် .... မလစ်တဖန်၊
သက်တော်ရောက်ပြေား.... ပွားများအမှန်၊
ခန္ဓာနာမ်ရုပ် .... အဟုတ်ကေန်၊
သိတရား .... မနားအားထုတ်ပြန်။

၃။ အာဒိနဝ .... ဒုက္ခပင်လယ်၊
ဿရာဝါသ .... စွန့်ထရှောင်ပယ်၊
တနေ့သန္တိက် .... ယာစိုက်ခွင်ဝယ်၊
ထွန်နှင့်နွား .... စွန့်သွားပစ်ခဲ့တယ်။

၄။ နိက္ခမဓာတ် .... တောရပ်မှန်ဆို၊
မောင်ရင်ပေါ်ချောက် ... အရောက်မှီခို၊
သာမဏေဝတ် .... မချွတ်ကြည်ညို၊
ထွက်ဝင်သက် .... မပျက်ရှုလို့ကို။

၅။ မိတ္ထီလာမြို့ .... မချိုလွန်ကျော်၊
ဦးစံတင်က .... လာ၍ပင့်ခေါ်၊
ရေလယ်တိုက်၌ .... ယာပိုထ်စံပျော်၊
ကျင့်စဉ်လမ်း .... မပန်းဟောရသော်။

၆။ ညောင်လွန့်တောရ ···· ဓမ္မအကျော်၊
မေးမြန်းသမျှ ···· ဖြေပြနိုင်သော်၊
သဘောကျလို့ ···· နှုတ်ဟမြွက်ဖော်၊
ဟောဝတ ···· ကောင်းစွသာမုခေါ်။

၇။ ရေလယ်ကျောင်းက ···· ခဏ္ဍသိမ်မှာ၊
ဟင်းရန်ကန်မှ ···· နာမတေဇာ၊
ဥပဇ္ဈာယ ···· ဖြစ်ထဆရာ၊
ရဟန်းဇာတ် ···· ပညတ်ကမ္မဝါ။

၈။ မိတ္ထီလာမှ ···· ပြန်ကြွလာပြန်၊
မောင်ရင်ပေါ်ချောက်–တထောက်အမှန်၊
နားနေရင်းက ···· အလင်းဓမ္မခံ၊
ဗိုလ်နှင့်မင် ···· မပျက်ရောက်စေရန်။

၉။ မောင်ရင်ပေါ်က ···· ခွာမှတဖန်၊
ဂူကျောင်းစနစ် ···· အသစ်တည်ပြန်၊
ဝေဇယန်နန်း ···· စခမ်းမြှော်ရန်၊
ဂူဘုရား ···· သကြားလာ၍ဖန်။

၁၀။ မဂ္ဂဝီထိ ···· မြင်သိဖြစ်ပုံ၊
ဖက်ပင်အိုင်က ···· မေးသမျှအစုံ၊
ယထာဘူတ ···· မှန်လှအကုန်၊
ဆယ့်တမီး ···· ပျက်စီးငြိမ်းကြပုံ။

၁၁။ အာနာပါန ···· ညွှန်ပြစုံလင်၊
အသိတရား ···· မိထားဘို့ပင်၊
စိတ်ကိုထိန်းလို့ ···· အေးငြိမ်းကုန်စင်၊
လူအပေါင်း ···· ထောင်သောင်းဂူသို့ဝင်။

၁၂။ မြန်ပြည်ထောင်စု .... တည်မှုဖန်ခါ၊
ဝန်ကြီးချုပ်လို့ .... အဟုတ်ကျော်တာ၊
ကိုကြီးနုကာ .... မြင်မှုတွေလာ၊
မေး-ဖြေပုဒ် .... စာအုပ်ထုတ်ခဲ့တာ။

၁၃။ ဂူကျောင်းတိုက်တော် - ဘောက်ထော်ရွာမှာ၊
သိမ်သမုတ်လို့ .... အဟုတ်စည်တာ၊
ဒုတိယမ္ဗိ .... ပြန်ဘိမကြာ၊
ရန်ကုန်ရောက် .... နှစ်ခေါက်ကြွခဲ့တာ။

၁၄။ ခုနစ်ဆယ့်ငါး .... သက်ပြားရောက်ပြန်၊
ဇီဝိန်ပြုတ်ကိန်း .... ချုပ်ငြိမ်းကောန်၊
သက်ရှိတုန်းက .... မိန့်ဟခဲ့ပြန်၊
ပိုမကြွား .... ထိုစကား ဟုတ်လို့မှန်။

၁၅။ တစ်,သုံး,တစ်,လေး .... ပူရေးကြုံပြန်၊
ကဆုန်လသက် .... ကိုးရက်အမှန်၊
ညနေ့စက်ငါး .... ထိုးပြားလေပြန်၊
စနေနေ့ .... မရွှေ့နိဗ္ဗူစံ။

၁၆။ လွန်ခဲ့ဆယ့်ငါး .... နှစ်များယခင်၊
နှုတ်ဖော်မြွက်ကြား .... မှာထားအစဉ်၊
ရုပကာယ .... ဇီဝကင်းလျှင်၊
စေတီတွင်း .... ဂူသွင်းကြဘို့ပင်။

၁၇။ ခန္ဓာစဲမှ …. ရှက်ကွဲစေရန်၊
ဆွမ်းမသွတ်နဲ့ …. တားမြစ်ခဲ့ပြန်၊
သက်ရှိတုန်းက …. မိန့်ဟမြွက်ဆံ၊
အဟုတ်ပ …. နှုတ်ကလင်းခဲ့ပြန်။

၁၈။ အမိမဲ့သား …. မမှားပုံညီ၊
ရေနဲ့ငါးသို့ …. မခြားကြိုသည်၊
မြင့်မိုရ်တောင်ကြီး …. ပြိုပြီးလေပြီ၊
ရင်ကိုမ …. ငိုဟ–ကျမျက်ရည်။

၁၉။ ဆရာဘုရား …. ဂုဏ်အားမြှော်ရည်၊
ပူဇော်သက္ကာ …. ပြုကြပြန်သည်။
နေ့ညမစဲ …. အမြဲစုံညီ၊
ဆရာဘုရား …. ခေါ်ကြားမလပ်ပြီ။

၂၀။ ဘယ်သူ့ကိုကား …. ယုံငြားလေသည်၊
တပည့်အများ …. ပစ်သွားလေပြီ၊
မျှော်ကာမှန်းဆ …. လွမ်းကြပြန်သည်၊
မျက်ရည်မိုး …. ဧွေဖြိုးနေတော့သည်။

၂၁။ ဂုဏ်ဝင်ကြလို့ …. ဆုံးမပြန်သည်၊
နှာသီးဖျားနှိုက် …. ရှုရှိုက်ခေါ်ရည်၊
အသိကမ္မဋ္ဌာန်း …. ကျင့်လမ်းမှန်သည်၊
ကိုယ်တိုင်ကြွ …. လာဘုရား လျှောက်ချင်သည်။

---

# အိတာလျံ ဘုန်းတော်ကြီး
# ဦးလောကနာထ ဟောကြားချက်များမှ
## ကောက်နုတ်ချက်

မြန်မာပြည်တွင် ရဟန္တာအပါး ၅၀-ခန့်ရှိသည်ဟုကြား သိရသဖြင့် ဖူးမြော်လို၍ လိုက်လံရှာဖွေခဲ့ရာတွင် မြင်းခြံမြို့ စွန်းလွန်းဂူကျောင်းဆရာတော်ဘုရားကြီးကိုတွေ့ဆုံဖူးမြော်ခွင့် ရခဲ့ပါသည်။ စွန်းလွန်း ဆရာတော်ဘုရားကြီး၏ တရားဒေသနာဟောကြားဆုံးမပုံ၊အမျိုးမျိုးသော လျှောက်ထားချက်များကိုဖြေကြားပုံ၊ အနေအထိုင် အသွားအလာမှစ၍ အလုံးစုံတို့သည် ကြည်ညိုဘွယ်ရာ ဂုဏ်တို့ဖြင့် ပြည့်စုံသည်ဖြစ်၍ အများသမုတ်ကြသည့်အတိုင်း ရဟန္တာအစစ် ဖြစ်သည်ဟု လိုက်လိုက်လှဲလှဲ စိတ်ချယုံကြည်ပါသည်။

ဤကဲ့သို့ မြန်မာပြည်တွင် ရဟန္တာအစစ်ပေါ်ထွန်းသည် အတွက် ကမ္ဘာတွင် မြန်မာကဂုဏ်ယူဘွယ် ဖြစ်သဖြင့် ဘုန်းကြီးလဲ မြန်မာပြည်နှင့်တကွ ရောက်လေရာ နိုင်ငံရပ်ခြားတိုင်းပြည်များတွင် ကျေးဇူးရှင် စွန်းလွန်းဆရာတော်ဘုရားကြီး၏ ဂုဏ်သတင်းကို ထင်လင်းပျံ့နှံ့အောင် ဟောကြားသွားမည်ဟု မြင်းခြံမြို့ ကိုးဆောင်ကျောင်းတိုက်တွင် ဟောကြားသွားလေသည်။

## ဓမ္မပဒပါဠိတော်-ယမကဝဂ်လာ
## မိတ်ဆွေနှစ်ပါးဝတ္ထု

ဂေါတမဘုရားရှင် လက်ထက်တော်၌ သာဝတ္ထိပြည်မှ သူငယ်ချင်းနှစ်ယောက်တို့သည် ဘုရားရှင်၏တရားတော်ကို နာယူ၍ လောကီအပြစ်များကို မြင်ကာ သာသနာတော်သို့ ဝင်ရောက် ရဟန်းပြုကြလေသည်။

တဦးမှာ ဂန္ထဓူရခေါ် စာပေကျမ်းဂန် သင်ကြားမှုကို အားထုတ်လျက်၊ တဦးကား ဝိပဿနာဓူရကို ကျင့်ကြံပွား များလေသည်။

ကာလကြာသော်ဝိပဿနာလုပ်ငန်းကိုအားထုတ်သော အရှင်သည် ပဋိသမ္ဘိဒါလေးပါးနှင့်တကွ ရဟန္တာအဖြစ်သို့ ရောက်လေသည်။ထိုအခါတွင်ဂန္ထဓူရပရိယတ်ကိုသင်ကြား သော အရှင်လည်း ပိဋကတ်ပါရဂူ တဦးဖြစ်၍ ဂိုဏ်းကြီး တဆယ့်ရှစ်ဂိုဏ်းတို့၏ နာယကကြီးဖြစ်လေသည်။

တနေ့သ၌ ဝိပဿနာ ဝန်ဆောင် ရဟန္တာအရှင်မြတ် သည် ဘုရားရှင်အားဖူးမြော်ရန်လာပြီးနောက် ငယ်ပေါင်း မိတ်ဆွေ ပရိယတ်ပါရဂူအရှင်မြတ်ထံဝင်ရောက်သည့်အခါ ထိုပရိယတ်ဆောင် အရှင်မြတ်သည် ဤဝိပဿနာတရားရှင် မြတ် ကြွလာသည့်အခါ ပြဿနာ မေးမည်ဟု ရှေးကပင် ကြံစည်ရင်းဖြစ်သည့်အတိုင်း မေးမြန်းရန် ကြံရွယ်သည်ကို ဘုရားရှင် သိမြင်တော်မူသဖြင့်၊ ပြဿနာ မေးခြင်းကြောင့်

ဝိပဿနာဝန်ဆောင် ပုဂ္ဂိုလ်၌ စိတ်ညစ်ညူးမှု ဖြစ်ရသော် ပရိယတ်ဆောင် ပုဂ္ဂိုလ်အဘို့ ငရဲ၌ဖြစ်လေရာသည်ဟု ကြင်နာသောမဟာကရုဏာရှိတော်မူ၍ ထိုအရှင်နှစ်ပါးတို့ရှိရာသို့ ကြွတော်မူပြီးလျှင် ဝိပဿနာဝန်ဆောင် ပုဂ္ဂိုလ်အား ပထမဈာန်မှစ၍ နိရောဓသမာပတ်ရှစ်ပါး ရုပ်-နာမ်တရားတို့ကို မေးတော်မူရာ မေးတိုင်း ဖြေဆိုနိုင်လေသည်။

ထိုနောက် ဂန္ထဓူရဆောင် ပုဂ္ဂိုလ်အား သောတာပတ္တိမဂ်၌ ပြဿနာကိုမေးတော်မူရာ မဖြေဆိုနိုင်ဖြစ်လေသည်။

ထိုအခါ ဘုရားရှင်သည် ဝိပဿနာဝန်ဆောင် ပုဂ္ဂိုလ်အား ချီးကျူးတော်မူလေသည်။

ဤပုဂ္ဂိုလ်နှစ်ပါးတို့၏ဖြစ်စဉ်ကို အကြောင်းပြု၍ ရဟန်းတို့ စကားမျိုးစုံပြောဆိုကြသဖြင့် ဘုရားရှင်သည် "ဂန္ထဓူရသမားသည် နွားကျောင်းသားနှင့် တူ၍, ဝိပဿနာဓူရသမားကနွားပိုင်ရှင်နှင့်တူသည်" ဟု-ပမာပြု၍ ဆုံးမဟောကြားတော်မူခဲ့လေသည်။

ကျေးဇူးရှင် စွန်းလွန်း ဆရာတော် ဘုရားကြီးကား-ပစ္စည်းဥစ္စာကြွယ်ဝချင်း တူညီသော မြို့သူဌေးနှင့် တောသူဌေးကို ပုံဟပ်လျက်…ဂန္ထဓူရ ဝိပဿနာဓူရ နှစ်ဌာနနှင့် ပြည့်စုံသောပုဂ္ဂိုလ်သည်မြို့သူဌေးနှင့်တူ၍ဂန္ထဓူရမပြည့်စုံ,ဝိပဿနာဓူရ သက်သက်နှင့်သာ ပြည့်စုံသော ပုဂ္ဂိုလ်မှာမူ တောသူဌေးနှင့် တူကြောင်း ပမာပြု၍ နှိုင်းယှဉ် ဟောပြတော်မူခဲ့သူးလေသည်။

---

# ကျေးဇူးတင်လွှာ

မြင်းခြံမြို့ စွန်းလွန်းဂူကျောင်း တိုက်အုပ်ဆရာတော် အရှင်သူမြတ်ကိုယ်တော်တိုင် ကြီးကြပ်စီစဉ်ခြင်းဖြင့် ကျေးဇူးရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီး၏ ဟောကြား ဆုံးမတော်မူခဲ့သော တရားတော်များ, တရားအားထုတ်နည်း နိသျည်းနှင့် ကျေးဇူးရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီး၏ ပုံတော်များကို ကြည်ညိုဖွယ် ကိုးကွယ်နိုင်ရေးအတွက် ကြည်ညိုဖွယ်ဖြစ်အောင် စီစဉ် ဖြန့်ဖြူးခဲ့ခြင်းများကြောင့် ရရှိသော ငွေကြေးဝတ္ထုများကို မ-တည်ကာ ကျေးဇူးရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော် ကိန်းတော်မူရာ ဖြစ်သော ဂန္ဓကုဋိ စေတီတော်ကြီးအား ရွှေသင်္ကန်း ကပ်လှူပြီးစီးအောင်မြင်ပြီးဖြစ်ပါသည်။

ယခုအခါတွင်လည်း တိုက်အုပ်ဆရာတော် အရှင်သူမြတ်သည် ဂန္ဓကုဋိ-သံသရာအေး စေတီတော်ကြီးကို ကြည်ညိုဖွယ်ရာဖြစ်စေရေးအတွက် ကိုယ်စွမ်း,ဉာဏ်စွမ်းရှိသမျှ ကြိုးစား၍သော လုံ့လဝီရိယဖြင့် ကိုယ်တော်တိုင် အထူးကြိုးစား၍ ပြုပြင်မွမ်းမံလျက် ရှိခြင်းကြောင့် ကျေးဇူးရှင် စွန်းလွန်းဂူကျောင်းဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော် တည်ရှိသော ဂန္ဓကုဋိ-သံသရာအေး စေတီတော်ကြီးသည် အထူးကြည်ညိုဖွယ်ရာ အဖြာဖြာနှင့် ပြည့်စုံသည့်ပြင် ကျေးဇူးရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်သည်လည်း "မူလရုပ် ပကတိ"အတိုင်း တည်ရှိခြင်းကြောင့် အထူး ကြည်ညိုဖွယ်ရာကို ဆောင်တော်မူလျက် ရှိသည်ကို ဖူးမြင်လိုသောပုဂ္ဂိုလ်များ လာရောက်ဖူးမြော် ပူဇော်နိုင်ကြပါသည်။

ကျေးဇူးရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီး၏
ဝေယျာဝစ္စ အကျိုးတော်ဆောင်

တပည့်ကြီး–မောင်ညို

